နှံ့လျက်ကိုမနှုန်ကွယ်သည်။နှုန်သည်မှန်ခြေကနှစ်ဆတက်ပေးစေ။
နှံ့မနှုန်ဆိုကြရာ၌။ နှံ့ကြောင်းကိုသက်သေမရှိအမျိုး တူအချင်းချင်း
ဖြစ်၍အမှတ်မဲ့နှစ်ဦးချင်းနှုန်ပါသည်။ရွှေငွေကြောက်ပတ္တမြားဖြစ်ပါသည်
ဆိုမည်။ ဆိုသူစကား အတိုင်း အဆိုတန်းကိုစစ်၍နှံ့ သည်ဆိုသည်ဥစ္စာ
ငွေသုံးဆယ်က။ အထက်သို့အများတိုး၍တန်သည်။ စကားအချက်ကိုရ
လျှင်အမျိုးတူကြီးက။ရေရောက်စေ။ ဥစ္စာရှင်နိုင်လျှင်နှစ်ဆတက်ရစေ။မ
နှံ့ဆိုသူကနိုင်လျှင်စွပ်တိုင်းပေးစေ။ အမျိုးဘေးဆုံကျလျှင်။ဥစ္စာရှင်နိုင်က
အရင်အတိုင်းရစေ။ ဥစ္စာရှင်ရှုံးကအစွပ်ခံရသသူကိုစွဲသူကတဝက်ပေး
စေ။ မိုးထူးမင်းရာကိုရှုံမ်းသူးကခံစေ။ စားရိပ်မစားသာ။ နှံ့ပေ၏သုံး
ဆောင်ပေသည်ဆိုလျှင်အစားဆပ်စေ။အပြစ်လွှတ်စေ။ နှံ့သောဥစ္စာစပါး
ကြေးနီခဲမ။သလွဲမည်း။သလွဲဖြူ။ဆန်။နှမ်း။ဝါ။ အထည်အလိပ်တခုချင်းမ
ဟုတ်။ငါးဆယ်။ ခြောက်ဆယ်။တရားဆိုမည်။ မနှံ့ကွယ်မည်။သက်သေ
မရှိဆိုသော်လည်း။ မဖြစ်သာခြေ။စပါးနှမ်းဝါ။ ကြေးခဲမတို့သည်သယ်
ရွက်ထန်ပိုးသူအထည်။ အလိပ်မှာလည်း။ ၎င်နည်တူဖြစ်ရမည်။ သက်
သေပြကျစေ။သက်သေမရှိဆိုသည်ဟု။ရေနှစ်။ဆန်ဝါးခဲနှစ်မယောက်ရာ
စွဲသူရှုံးစေ။တယောက်ချင်းထမ်းပိုးရွက်ဆောင်နိုင်လောက်သောဥစ္စာဖြစ်
ကြောင်းကိုစစ်၍ သိသာလျှင်နှစ်ဦးသားအမျိုး။ တူကျသော်။ သစ္စာမူကျ
စေ။သစ္စာမမူဝံ့သူဥစ္စာရှင်ကအဘေးဆုံလျှင်။ စွပ်ရာတွင်တဝက်ပေးစေ။
အနှံ့ခံသောသူသစ္စာမမူဝံ့ကအလုံးစွဲတိုင်းပေးစေ။ ၎င်ဥစ္စာသုံးဆယ်ထက်
သာသော်ရေယောက်ကျစေ။

အလုံစုံနှံ့သည်ဖြောင့်ရာ၌။ အကောင်းကိုအဆိုးအကြီးကိုအငယ်အ
ရှည်ကိုအတိုလဲ၍အနှံ့ခံသူက။သည်ဥစ္စာသည်နှံ့ရင်းဥစ္စာဖြစ်သည်သူသိ
သူထင်ညင်းဆိုပေအံ့။ဥစ္စာရှင်ကလည်းမဟုတ်ပါအထည်အချိမ်အရေအ
တွက်အမျိုးသာတူပါသည်အရင်းမမှန်ဆိုအံ့။ အထက်နှံ့သောဥစ္စာရင်း
ကိုရောင်၍စားရာ။ကဲ့ဝှက်ရာ။ သူတပါးကိုပေးရာတွေ့အံ့မှန်ကဥစ္စာပေါ်
မှန်သမျှကိုသာမဆိုသာ။ ထိန်လေပြီးသည်။တစုတဖော်ရက။ နှံ့ရင်းမှန်
သမျှကိုလည်း။ဥစ္စာရှင်ကအစင်ယူစေ။ ။အနှံ့ခံသူကသည်ဥစ္စာအ
ထည်အလိပ်ဝတ္ထုမှန်သည်လဲပြောင်း၍ပြသမျှကိုလည်း။ ဥစ္စာရှင်ရင်က
အစင်သိမ်းယူစေ။ ။အနှံ့ခံသောသူသည်သူတော်မဟုတ်သူပြုက်
မှန်သောကြောင့်တည်ဟုမနူဆိုတော်မူ၏။ ။ဤသို့ဆိုခဲ့ပြီးသော
ဥစ္စာကားအသက်ဗိညင်မရှိသောဥစ္စာကိုဆိုသောစကားတည်။

If the receiver who has had property deposited with him deny it, and it be proved the deposit was made, let him pay double.

In a dispute whether a deposit was made or not, if there be no witnesses, and the parties be members of the same family, on intimate terms, and the deposit is said to have been made unthinkingly, when the parties were by themselves; if the property said to have been deposited be gold, silver, or gems, and if on enquiry further, it appear probable that it is worth much more than thirty tickals of silver; let them be tried by the ordeal of water. If the owner of the property gain his cause, let him receive double. If the party denying the deposit gain, let him receive from the other an equal amount to that sued for. If they be descendants of a common great grand-father, if the owner of the property gain his cause, let him receive what he claims; if he lose, let him give one half of the amount claimed to the person complained against. Let the unsuccessful party pay the expenses of the suit. If it be admitted that the property was deposited and made use of, let it be made good, but there shall be no fine. If the property deposited be grain, copper, lead, tin, sesamum seeds, cotton, piece or rolled goods, not one, but fifty, sixty, or a hundred, and the deposit be denied, it shall not be said there are no witnesses. There must be the people who carried them; let them be produced to give evidence. On the plea of there being no witnesses, the case shall not be tried by the ordeal of remaining under water. of chewing rice, or dipping in hot lead. Let the complainant be nonsuited. If it be found on enquiry that one person might have carried the thing said to have been deposited, and the parties are of the same family, let them be put on their oath. If the owner of the property will not swear, let him pay one half the amount claimed. If they be children of the same father, and the person who is said to have accepted the deposit will not swear, let him pay the amount claimed in full. If the property be above the value of thirty tickals of silver, let the case be tried by the ordeal of water.

If the deposit be admitted, but a bad article have been substituted for a good, a small for a large, a long for a short; and the receiver shall declare them to be the property originally deposited, in the presence of witnesses; and the owner shall deny it, (admitting) that the cloths, the weight, the number, the kind of goods, are the same, but (denying) them to be the goods deposited; and if it be proved that the original property has been sold, secreted, or given away, when one portion is discovered, the owner shall have not only that, but all that was really deposited, and all that the receiver shows as it, because the receiver is not a respectable man, but one whose good reputation is lost. Thus Menoo hath said. What we have now laid down refers to inanimate property.

၂ ။သက်ရှိဥစ္စာနှံ့ရာမနှံ့ရာသောတရား။

မြွတ်သောမင်းကြီးထိုမှတပါးအသက်ပိညင် ရှိသောဥစ္စာကိုဆိုပေအံ့။ ဆိပ်ဝက်ကြက်ကျဲနွားခိုဝမ်ဘဲကြိုးကြာ။ဆင်မြင်းကိုနှံ့ရာ၌ကိုယ်၏ဥစ္စာအရင်းမပျောက်။ နှံ့သောဥစ္စာပျောက်လျှင်အစားပေးစေ။ ချုံရှင်ဥစ္စာပါပျောက်လျှင်ပျောက်ပိုင်စေအစားမရရာ။ ထိန်ကြောင်းရာပျောက်သည်မှန်လျှင်ကိုယ်ဥစ္စာပါပျောက် သော်လည်း တံဘိုးတဝက်ကိုအနှံ့ခံသူကဥစ္စာရှင်ကိုပေးစေ။ ။ချုံရှင်ဥစ္စာဆင်မြင်းကျဲနွားမပျောက်။နှံ့သောဥစ္စာပျောက်လျှင်အစားဆပ်စေဟူရာ၌။ ချုံရှင်မထိန်းမကြောင်း။ မကြည့်မရှုသည်တွင်။ ဆိုသောအကြောင်းတည်း။ ရင်နှံ့သည်ကိုပျောက်ပျက်ခဲ့သည်ဆို၍။ ယောင်းသည်ကဲ့ဝှက်ခဲ့သည်ကိုဥစ္စာရှင်တွေ့၍မှန်လျှင်။ ခိုဝမ်ဘဲကြက်ကြိုးကြာ။အတောင်ရှိမှာ။အတက်တရာလျော်စေ။ ။တရာဟူသည်ကားကြက်၏အဥသောငွေတပဲ။ဝမ်ဘဲနည်တူ။ ကြိုးကြာအဥတမူး။ ခိုအဥလေးရွေး ဆိုသည်ကတက်၍တရားအပြစ်စားစေ။ ကဲ့ဝှက်ယောင်းသည်အရင်တိုင် ကိုလည်းယူစေ။ မရလျှင်အရင်း တံသည်အတိုင်းအဘိုးကိုတည်စေ။ ။ကြက်တိန်ညင်ခါတိန်ညင်။ကြက်တူရွေးစကားတတ်များမှာလည်းအရင်းအတိုင်းရလျှင် ယူစေ။ မရလျှင်ကြက်တိန်ညင်မှာငွေသုံးဆယ်။ခါတိန်ညင်မှာငွေနှစ်ဆယ်ကြက်တူရွေးစကားတတ်မှာငွေသုံးဆယ်။ထိန်ဝှက်ကဲ့ယောင်းသူကပေးစေ။

နှံ့သောကျဲနွားဆိပ်တို့ကိုသူတပါးသို့အခစား၍ငှါးတိုက်ထွန်လေအံ့။ မသေမပျောက်လျှင် နှံ့ရင်ရှင်သို့တံဘိုးအခွန်ကိုပေးစေ။ တိုက်ငှါးရာသေသော်နွားရှင်မသိဖြစ်လေသည်။ ထိုသေသောကျဲနွားဆိပ်တံဘိုးတွင်နှစ်ဆတက်ပေးစေ။ ။အရပ်တပါးသို့ပေးငှါးရာသေခြေလျှင်ကဲ့ဝှက်ရာကြခြေသည်။

နွားမှာခွားပါကြီးငယ်သုံးဆယ် ဆိုသည်နွားအတက်မှာ။ ဝဿ။ဒမ္မ။ ဗလိဝဏ္ဏ။လျော်မျိုးနွားသုံးရပ်ရှိသည်။ ဝဿနွားကား အမိရင်အောက်နို့ စို့တည်။ဒမ္မနွာကား။ကွပ်ပြီးတင်ပေါ်တည်။ ဗလိဝဏ္ဏနွားကားတင်ပေါ်ကသည်ဒိုကြီးရောက်အောင်တည်။ ဝဿနွားအဘိုးတခုလျှင်နှစ်မတ်။ ဒမ္မနွားအဘိုးတခုလျှင်နှစ်ကျပ်နှစ်မတ်။ ဗလိဝဏ္ဏနွား၏အဘိုးတခုလျှင်ငါးကျပ်၏ဤကားငွေကိုဆိုသတည်။ ခိုတက်မှာဝဿနွားတဆယ်လျှင်အဘိုးပေါင်းငါးကျပ်။ဒမ္မနွားတဆယ်လျှင်အဘိုးပေါင်းနှစ်ဆယ်ငါးကျပ်။ ဗလိဝဏ္ဏနွားတဆယ်အဘိုးပေါင်းငါးဆယ်။သုံးခုပေါင်းအပြစ် နွားတွင်ခွာပါ

*2d. Of animate things which may or may not be left in deposit.*

Oh, excellent king! besides these, I will now lay down the rule as regards animate property, goats, pigs, fowls, buffaloes, cattle, pigeons, ducks, cyruses, horses and elephants; when these are deposited, if they be lost, and the property of the receiver of the deposit be not, let him replace them. If the property of the owner of the pen or enclosure be also lost, let it be so. No restitution shall be made. If they are lost from the place where they are taken to feed, though the property of the receiver be also lost, let him make good one half of their value. If the owner of the fold, the receiver, do not lose his own property, but only that deposited, in making restitution it must be considered to have been lost through his carelessness. If the deposited property be said to be lost, and the owner prove it to have been sold or concealed, when pigeons, ducks, fowls, cyruses, or any winged animal, are thus sold or concealed, let them be restored one hundred fold. In this way the egg of a fowl is valued at one bai (one sixteenth of a tickal,) of coarse silver; of a duck at the same price; of a cyrus at one moo (or two bais;) of a pigeon at four eues (or half a bai.) Let the owner of the bird have one hundred times the above amount (relatively) as forfeit, and let him have also the lost bird. If it be not recovered let him have its value. If decoy fowls, or partridges, or parrots which can speak, (are the animals deposited,) the price of a decoy fowl shall be thirty tickals of silver, of a decoy partridge twenty, and of a speaking parrot thirty. Let this amount be paid, by the person selling or concealing them, to the owner.

If deposited buffaloes, cattle or goats, be let out by the receiver, for hire, for draught or the plough, and are not lost, and do not die, let the hire be paid to the owner of the cattle. If they die whilst so hired out without the knowledge of the owner, let the receiver pay double their value. If they are hired out into a different district, and die there, it comes under the head of fraudulent concealment.

What is said of making restitution in thirty "large and small hoofs," for cattle (made away with,) there are three descriptions or classes—"Waitsa," "Damma," and Ballie-wota." The Waitsa are calves, still sucking; the Damma are gelt, and large enough for carriage; and the Ballie-wota, from the time they are fit for carriage till old age. The price or value of a waitsa is half a tickal; of a damma two and a half tickals; and of a ballie-wota five tickals. This is what is said of their value in silver. And as regards the forfeit for theft, the price of ten waitsas is five tickals; of ten dammas, is twenty-five; and of ten ballie-wotas fifty. The sum of these three is the amount of the (fault) fine. And what is said of "thirty large and small hoofs" amongst

ကြီးငယ်သုံးဆယ်ဆိုရာ၌။ ဤကားနွားသုံးရပ်တည် အဘိုးငွေရှစ် ဆယ် သည်အပြစ်တည်။သေရင်နွားဘိုးမှာ။တံရာသီးချားတည်စေ။ ။ထို အပြစ်ငွေရှစ်ဆယ်။ တဝက်လေးဆယ်ကိုနွား ရှင်စားရာသည်ဖြစ်၍ပြစ် ဝက်ဟူသတည်။ ။ကျွဲနှင့်ဆိပ်မှာလည်း။အရပ်တပါးမဟုတ်ဖြစ် လျှင်။နွားကဲ့သို့တည်။ ။အရပ်တပါးသို့ကဲ့ဒုက်ပေး၎ါးခြေလျှင်။ ကျွဲမွေးစတခုလျှင်တကျပ်။ ကျွဲလပ်တခုလျှင်ငါးကျပ်ကျွဲကြီးတခုလျှင်တ ဆယ်။ကျွဲမွေစငါးခုအဘိုးငါးကျပ်။ ကျွဲလပ်ငါးခု။ နှစ်ဆယ်ငါးကျပ်။ကျွဲ ကြီးငါးခုအဘိုးငွေငါးဆယ်။ သုံးခုပေါင်းရှစ်ဆယ်။ ကျွဲတွင်ခွာပါကြီး ငယ်။ ဆယ်ငါးအပြစ်တည်။ တဝက်ငွေလေးဆယ်။ သေသည်ကျွဲရှင်က စားစေ။ ။ဆိပ်မှာတခုအဘိုးငွေနှစ်မတ်။ဆိုသည်။အတက်ဆိပ်တ ခုကိုငါးဆယ် ဆိုသည်။ ၎င်တွင်တက် တရာ လည်း ဟူ၏တက် တရာဆို သောဆိပ်ကားနို့ညစ်ဆိပ်မကိုဆိုသည်။တက်ငါးဆယ်ဟူသည်ကားဆိပ် မြွှာဆိပ်ကုလားအထီးကိုဆိုသည်။ဆိပ်မမှန်က။ တက်တရာလျှင်ငွေငါး ဆယ်တဝက်နှစ်ဆယ်ငါး ကျပ်ဆိပ်ထီးဖြစ်လျှင် တက်ငါးဆယ်။ ငွေနှစ် ဆယ်ငါးကျပ်။တဝက်တဆယ်နှစ်ကျပ်နှစ် မတ်။ ချင်တွင်ဆိပ်ရှင်တို့ကစား စေ။ ၎င်ကားအပြစ်တွင်သာဆိုသတည်။ သေဆိပ်မှာအဘိုးအတိုင်းတည် စေဟုမြဟ္မာမင်း၏ သားရင်းဖြစ်သောရှင် ရသေ့ဆိုတော်မူ၏။

၎င်ဆိုခဲ့ပြီးသော တိရိစ္ဆာန်တို့ကို အန္နံခံသူသတ်၍ စားသည်ဖြောင့် လျှင် တံဘိုးအတိုင်းနှစ်ဆတက်လျော်စေ။သတ်စားလျက်ကိုမသတ်မစား ကွယ်၍သတ်စားသည်မှန် အောင်ပြနိုင်ခြေလျှင် အထက်ကဆိုခဲ့ပြီးသမျှ တွင်တဝက်လျော်စေမသတ်မစားမကဲ့မဒုက်။ မ၎ါးမပေးအရပ် တပါးမ ထားခရီးကျွန်၍မတွေ့သည်ကို။ သတ်စားသည်ကဲ့ဒုက်ထားသည်ဟုစွပ် ၍ဆိုသော်မိမိစွပ်တိုင်း အအပ်ခံသူသို့ပေးစေ။ ဥစ္စာရင်း ကိုဥစ္စာရှင်ရ စေ။ ။အပ်သည်မြင်းကိုသူတပါးသို့ပေး၎ါး၍ရှိရာသေပျောက်ခြေ အံ့။တစီးကိုနှစ်စီးလျော်စေတန်ဘိုးမြင်ရင်တည်စေလည်းဟူ၏ဖြောင့်လျှင် အရင်းတိုင်းယူပြီးမှတံဘိုးတဝက်မြင်ရှင်ကစားစေ။ မသေသော်မြင်းကို မြင် ရှင်ယူစေ၍။ ထိုမြင်းကိုစီနင်းသောအခါကိုမြင်းရှင်ရင်းရစေ။ ၎င်မြင်း ကိုအရပ်တပါးသို့ပေး၎ါး၍ သေသော်မြင်း၏ အတက် ငါးစီးဟူရာ၌။မွေး စမြင်းငါးကျပ်။ အလပ်မြင်း တဆယ်ငါးကျပ်။ ၎င်ထက်မြင်းသုံးဆယ်။ ၎င်ထက်မြင်းငါးဆယ်။၎င်ထက်အထက်မြင်းတပိတ်သာဖြစ်သတည်။၎င် တွင်တဝက်ကိုမြင်းရှင်ရင်းစားစေ။တံဘိုးအတိုင်းလည်းစားစေ။ငတ်မွတ်

cattle is these three classes, and eighty tickals, their price, is the amount to be levied on the offender. Besides this, let the price of the dead bullock be paid. Of the fine let the owner of the bullock have one half. In the case of buffaloes and goats, when they are not sent to another district, the rule is the same as with bullocks. If they be sent and concealed, lost, or hired into another district, a young buffalo just born is valued at one tickal, a middle sized one at five, and a full grown one at ten tickals of silver. The price of five young ones is five tickals; five middle sized twenty five, and of five full grown fifty, being a total of eighty tickals. Thus of buffaloes, fifteen " large and small hoofs" is the fine. Of this, one half, or forty tickals, shall be given to the owner of the dead buffalo. In the case of goats, the price of one is half a tickal of silver, and the fine is said to be fifty goats; one hundred is also said, but this applies to milk goats, and fifty said of males, Burman or foreign. The fine for all female goats is one hundred goats, or fifty tickals of silver; which is the half of twenty-five; for one male goat, fifty goats, or twenty-five tickals of silver; the half of which is twelve and a half tickals. This (the half) let the owner of the goat have. This is only what regards the fine. Let him also have the full price of the dead one. Thus Menoo, the son of the king of Bymahs, the sage recluse, hath said.

If the receiver in deposit of the animals we have mentioned, shall admit that he has killed and eaten them, let him pay double their price. If he has killed and eaten them and deny that he has done so, and it be proved, let him make compensation in one half of what we have laid down above. If they have not been killed, eaten, secreted, lent, given away, or sent into another district, but have strayed away and are lost; if the owner sue the receiver for killing or secreting them, let him pay the amount he sues for, and have back his own property. If a deposited horse be lent or hired out, and die or is lost, let two horses be given for him. It is also said the owner shall receive his proper price. If the receiver of the deposit admit the fact, let him pay his full price and half as much again. If he be not dead, let the owner have him back and have the full amount of him. If he be sent into another district and die, regarding the price of five horses it is this—a foal, just born, is valued at five tickals of silver; a middle sized horse at fifteen; a larger one at thirty, and a larger still at fifty, and still larger one at one hundred tickals of silver. Of this let the owner have one half, and let him also have the full value of the animal. If in a time of famine the receiver shall admit that, pressed for food, he killed and eat a horse deposited with him, let him pay his full value,

ရှားပါး၍နှံ့မြင်းကိုမှတ်ငတ်ချင်းကြောင့်သတ်စား မိပေသည်ဖြောင့်လျှင် ထုံမြင်းတံဘိုးကိုပေးစေ။ အပြစ်တွင်လည်းနှစ်ဆတက်ယူ၍နှစ်ဆတက် ယူသည်ကားသုံးဆယ်မြင်း၏အတက်တည်း။ ။အပ်နှံ့သောဆင်ကို သူဘပါးတို့သို့ပေး၄ါး၍စီးနင်းတင်ထွန်ရက်လေအံ့။သေသော်ဆင်ရင်းတံ သည်အတိုင်းပေးစေ။ အပြစ်ငွေငါးဆယ်လည်းဟူ၏။ အဘယ်ကြောင့် နည်းဟူမူကားမထိန်မဒုက်နိုင်သောအကြီးပေါ်ပေါ်ထင်ရှားသောကြောင့် တည်း။ ။ငှင်ဆင်တည်ရှိမူအရင်းတိုင်းယူစေ။အခကိုရက်လရှည် သည်အတိုင်းစားစေ။ ။ငှင်အပ်နှံ့ဆင်ကိုအရပ်တပါးသို့ထွန်ရက် တင်၄ါးရာသေလျှင်အရင်းတိုင်းတန်ရာပေးစေအပြစ်တပိဿာလည်းဆင် ရှင်စားစေဟူရာ၌ ဆင်တစီး ကိုနှစ်စီးဆိုချင်းကြောင့် ဆင်ကားမွေစငါး ဆယ်။ တန်သည်ကိုရည်၍ ဆိုသတည်း။ မသေလျှင်ဆင်ရင်းတိုင်ယူစေ။ နေ့ရက်လုတ်ခွန်အခကိုစားစေ။ရှင်ရသေ့ဆိုတော်မူ၏။

နှံ့သောကျွဲနွားဆိပ်တို့ကိုအပ်နှံ့ခံသောသူတို့။ မြီရှင်မှာသွင်းဆပ်၍ ပျောက်သည်ဆိုမှအဆပ်ကိုစိစစ်၍ ရလျှင်ကျွဲနွားဆိပ်အရင်း အတိုင်းအ ရှင်ရင်းရစေ။ ခွာပါကြီးရှစ်ခုလျော်ရစေ။ ကျွဲမှာခွာပါကြီးတခုလျှင်ငွေတ ဆယ်။နွားမှာခွာပါကြီးတခုလျှင်ငါးကျပ်။ ဆိပ်မှာတခုလျှင်နှစ်မတ်ကို တွက်၍လျော်စေ။

နှံ့သောကျွဲနွား။ ဆိပ်တို့ကိုအရပ်တပါးပြောင်းထား၍ပြေးခဲ့သည်ဆို အံ့။ ပြောင်းထားကြောင်းကိုဆို ၍ မှန်လျှင်ခွာပါငယ်လေးခုစီလျော်စေ။ ဥစ္စာရင်းကိုလည်းဥစ္စာရှင်ယူစေ။ဟုဗြဟ္မာမင်း၏သားရင်းဖြစ်သောရှင် ရသေ့ဆိုတော်မူ၏။

မြို့ပြရွာပြည်တိုင်းနိုင်ငံအရပ်တို့၌ဥစ္စာနှန်ချင်းဝယ်သူ သိသူထင်ဖြစ် ရာ၏။နှံ့သောဥစ္စာကိုပြန်ပေးရာ၌သူသိသူထင်ဖြစ်ရာ၏။နှံ့သူစုံမှအအပ်ခံ သူစုံမှာအပ်နှံ့သောဥစ္စာကိုပေးစေယူစေ။ အပ်နှံ့အပေးစကားများ၌ကြီး မားနိုင်ခန့် လှစွာသော ဓမ္မလောကရာဇဝတ်သုံးပါး အကြောင်းကိုသက် သေထုပ်၍ဆိုပေးအံ့။

၃ ။ဥစ္စာနှန်ရာ။မနှန်ရာစိစစ်၍ရဟန်းပုဏ္ဏားဆရာတပြည့်တို့တရား။

မြတ်သောမင်းကြီး။ ရှေးသောအခါဗါရာဏသီပြည်သို့ ပုဏ္ဏားခုနှစ် ယောက်တို့သည်ဖုမ်းတောင်းယာစကားပြုအံ့ဟုအရပ်တပါး ကလာလပ် ၍ဗါရဏာသီမင်းကြီး၏၌ယည်စောင့်အိမ်၌တဲလေ၏။ ဖုမ်းတောင်းယာစ ကားပြု၍ ငွေချောက်ရာရသတည်း။ တယောက်တရာစီမရသေးသော ကြောင့်အထုပ်ပြု၍ဥယည်သည်တွစ်ငွေချောက်ရာကိုနှံ့ထား၍။ ဤငါတို့

and double the value is the fine; as regards double the value, it is meant of (the average value) a thirty tickal horse. If a deposited elephant be lent or hired to a third person, and he shall ride, load, or put him in the plough and he die, let his full price be paid, and fifty tickals of silver may be inflicted as a fine. Why is this?—because it is a large and remarkable animal, and cannot be secreted. If it be not dead, let the owner have the full price and amount of the hire. If he be hired out of the district for burthen or the plough and shall die, let the receiver pay his full price and one hundred tickals; that is because two are to be restored for one, and an elephant just born is valued at fifty tickals. On this ground (one hundred) is laid down. If he do not die, let the owner have his full price and the amount of hire for the time he has been worked. This the sage recluse said.

If a person who has received buffaloes, cattle, or goats in deposit, shall make them over to his creditors in payment of his debts, and say they are lost; if this be proved, let the owner receive them back, and let him receive "eight large hoofs" as a hire. A "large hoof" buffalo is valued at ten tickals, a goat at half a tickal, an ox at five tickals. At this rate let the calculation be made.

If the above animals shall be removed into another district, and the receiver of the deposit shall say they have run away, and it is proved that they have been removed, let him pay a fine of four "small hoofs," and let the owner have back the animal originally deposited. This the son of the king of Bymahs, the sage recluse, hath said.

In any city, village, or country, when property is deposited there must be witnesses; and also when it is returned (to the depositor.) When the depositors and receivers are all present, let the deposited property be given and received. I will relate a case which is beautifully in accordance with the sacred book, the customs of the world, and the orders of princes.

### 3d. *The case of the Bramins, the Rahan teacher and his pupil, decided after inquiry as to the deposit.*

Oh excellent king! in former times seven Bramins came from a distant country to Benares, to exercise their calling of wandering mendicants, and took up their abode in the house of the king's gardener. By begging they obtained six hundred pieces of silver; but as this was not one hundred for each, they made it up into a bundle and deposited it with the gardener's wife, (saying,) "this is the property of us seven; let it only be given

ခုနှစ်ယောက်ဥစ္စာကို။ ငါတို့ခုနှစ်ယောက်ညီမှပေးပါ။ ငါတို့ခုနှစ်ယောက်
မညီဘဲကိုမပေးနှင့်ဟုဆို၍အပ်ခဲ့၏။ ဥယည်သည်လင်မယားလည်း
ကောင်းစွာဟုဝံခံပေ၏။ ထိုသို့ဆိုလျှင်ပုဏ္ဏားခုနှစ်ယောက်သွားလေကုန်၏။
ပုဏ္ဏားငယ်တယောက်မူကားခရုသင်းကိုမေ့ကျန်ပြု၍ထားခဲ့၏။ တခါမ
ကသောအရပ်သို့ရောက်မှခရုသင်းမေ့ရစ်ခဲ့သည်ဤတွင်ရပ်ပါလင့်ဟုဆို
၍ပြန်လေ၏။ ထိုသို့ပြန်လပ်သော်ဥယည်သည်တို့လည်းပုဏ္ဏားငယ်ကို
မေးလင့်၏။ ပုဏ္ဏားငယ်လည်းဆိုပေ၏။ အချင်ဥယည်သည် ငခင်းပွန်း
ပုဏ္ဏားတို့ဆိုသည်ကား။ ငါတို့ပြန်ရသည်မူလည်ရှိ၏။ မပြန်ရသည်မူ
လည်ရှိ၏။ ငါတို့ဥစ္စာပြန်ယူခြေဟုဆိုသော့ကြောင့်ယူလာရသည်။ အ
လျှင်ပေးလိုက်ဟုတောင်း၏။ ဥယည်သည်လည်းပုဏ္ဏားချောက်ယောက်
တို့ရပ်လင့်သည်ကိုမြင်၏ရပ်၍နေလင့်သောပုဏ္ဏားတို့သည်။ ခရုသင်းမေ့
သည်ကိုထင်နိုး၍ပုဏ္ဏားငယ်လျှင်စေဟုလက်ရပ်၏။ ပုဏ္ဏားငယ်လည်း
အချင်းဥယည်သည်ထိုကငခင်းပွန်တို့လျှင်လျှင်လာခဲ့ဟူ၍ လက်ရပ်သည်
ကိုမမြင်ပါလော လျှင်လျှင်ပေးလိုက်လော့ဟုဆို၏။ ဥယည်သည်လင်မ
ယားတို့လည်းပုဏ္ဏားတို့လက်ရပ်သည်ကိုမြင်၍။ အဟုတ်အမှန်ထင်နိုး၍
နှံသောဥစ္စာထုပ်ကိုအလျှင်ပေးလိုက်ချေ၏။ ပုဏ္ဏားငယ်ဥစ္စါထုပ်ကိုယူ၍
သွားလျှင်လေ၏။ ပုဏ္ဏားချောက်ရောက်တို့လည်း ပုဏ္ဏားငယ်လာလပ်
သည်မြင်လျှင်မငံ့ဘဲသွားနှင့်လေ၏။ ပုဏ္ဏားငယ်လျှင်လျှင်လိုက်ချွန်ပြု၍ခ
ရီးကြောင်းလွှဲ၍သွားလျှင်လေ၏။ ပုဏ္ဏားတို့ချောက်ရောက်သည်လည်း
ပုဏ္ဏားငယ်လာလပ် သည်ကိုမမြင်လျှင်ဥယည်သည်တို့အိမ်သို့တဖန်ပြန်
၍မေးကုံ၏။ အချင်းဥယည်သည်တို့ပုဏ္ဏားငယ်တယောက်မလာတကား
ဟုမေး၏။ ဥယည်သည်လည်းအရှင်တို့ကလျှင်လျှင်ပေးလိုက်ဟုတောင်း
လာသည်။ ထိုပုဏ္ဏားငယ်တောင်းစည်လည်းရှင်ပုဏ္ဏားတို့သည်လျှင်စေ
ဟုလက်ရပ်သောကြောင့်ဟုတ်မှတ်နိုး၍ အကျွန်တို့လည်းပုဏ္ဏားငယ်ကို
ပေးလိုက်ပေ၏။ ပုဏ္ဏားငယ်ထိုဥစ္စာထုပ်ကိုယူ၍သွားခဲ့ပြီဟုဆို၏။ ထိုစ
ကားကိုကြားလျှင်ပုဏ္ဏားတို့ဆို၏။ ငါတို့ယူခြေဟုမစေ။ ချင့်ခရုသင်းမေ့
သည်ဟုယူမည်ပြန်လေသည်။ ငါတို့ခုနှစ်ယောက်ညီမှပေးဆိုသည်မဟု
တ်လောထိုသို့ဆိုလျှက် ဥယည်သည်ငါတို့ဥစ္စာကိုပုဏ္ဏား ငယ်တရောက်
တည်။ တောင်းလှည့်ရာကိုပေးလိုက်ကောင်းအံ့လော။ ဥယည်သည်ကိုအ
ရေးလိုက်ကုံ၏ တရားဆင်အံ့ဟုဗာရာ ဏာသီမင်းကြီးသို့သွားကြလေကုံ၏။
ဗာရာဏာသီမင်းကြီးလည်း။ ဥယည်သည်နှင့်ပုဏ္ဏားတို့လာသည်ကိုမြင်
လျှင်အဘယ်ဆိုဘွယ် ရှိကြသနည်းဟု မေးတော်မူ၏။ ပုဏ္ဏားတို့လည်း

up when all seven are present." The gardener and his wife bound themselves in a firm promise that it should be so, and the seven Bramins went away. One young Bramin left his shell in the gardener's house, pretending to have forgotten it. When they had gone a little way, he said, "wait here; I have forgotten my shell;" and returned. When he reached the house, the gardener immediately asked the reason of his return. He said, "friend gardener, my friends say, 'we may, or we may not return here; our property had better go with us,' and have sent me to bring it. I have come by their direction; make haste and give it to me." Thus he demanded the money. The gardener saw the six Bramins stand waiting; and they, under the impression that the young Bramin had forgotten his shell, waved their hands to quicken him. He said, "friend gardener, see my friends wave their hands to hasten me; make haste and give me the money." Thus he said; and the gardener and his wife, seeing the other Bramins wave their hands, believed what he said, and hastily gave him the bundle that had been deposited with them, and he having taken it walked quickly away. The six Bramins seeing him coming, did not wait, but walked on. He pretended to make great haste, but having left the course of their journey, hastened away. The others, not seeing him coming, went back to the house of the gardener, and enquired thus—"oh friendly gardeners! did not the young Bramin come back here?" The gardener replied—"my masters, the young Bramin came here and said he had been sent to make haste and demand the money; and as ye waved your hands to him, we believed him and gave him the bundle; and on receiving it he went away." When the Bramins heard this, they said—"we did not send him back; he said he had forgotten his shell, and returned to bring it. Did we not say, 'the silver shall only be given up when we seven are present?' Is not this true?—and with these instructions, did you not consider if it would be right to give it up to the young Bramin alone demanding it?" So with this they went before the king of Benares and sued the gardener. When the king saw the gardener and the Bramins come—"what have you to say?"—thus he put the royal ques-

နားတော်လျှောက်ပေ၏။ မဟာရာဇာမင်းကြီး။ အကျွန်ုပ်တို့ပုဏ္ဏား
ခုနှစ်ယောက်သည်အရပ် တပါးကလာ၍ ဥယည်သည် အိမ်တွင် တဲနေ
ပါသည်။ ဖွမ်းတောင်းယာစကာပြု၍ငွေ။ ခြောက်ရာ ရသတည်။ တ
ယောက်တရာ မစေ့သောကြောင့်။ ဥယည်သည်တွင် ငွေခြောက်ရာကိုနှံ
ပါသည်။ ငါတို့ခုနှစ်ယောက်မညီသော် ၍ငွေကိုမပေးနှင့် ဟုလျှောက်ကျွန်
တော်တို့ခုနှစ်ယောက်မညီပဲကိုပုဏ္ဏားငယ်တယောက် တည်တောင်းလှည့်
ရာကိုပေးလိုက်သည် ပေးရာသည်လောဟု ဥယည်သည်မှာငါ တို့ဥစ္စာရ
ကောင်းမိမ့်ဟုအကျွန်ုပ်တို့ အရေးလိုသည်ဟုနားတော်လျှောက်၏။ ဥယည်
သည်လင်မယားကလည်း။နားတော်လျှောက်တုံ၏ အရှင်မင်းကြီးတို့ခုနှစ်
ယောက်ညီမှပေးဟူ၍နှံပေသည်တည်။ နှံခဲ့လျှင်ပုဏ္ဏားတို့သွား၍တခေါ်
မကသောအရပ်တိုင် မှရှင်ပုဏ္ဏားတို့ရပ်၍နေလင့်သည်။ ပုဏ္ဏားငယ်တ
ယောက်ကိုမူကားငါတို့ပြန်ရသည်မူလည်းရှိအံ့။ မပြန်ရသည်မူလည်းရှိ
အံ့။ ငါဥစ္စာပါမိပါစေပြန်၍ယူခြေဟုစေလိုက်၍ပုဏ္ဏား ငယ်ယူပြန်လာ
သည်။ ရှင်ပုဏ္ဏားတို့လည်းပုဏ္ဏားငယ်ကိုလျှင်လျှင် ယူခဲ့လက်ရပ်သည်
မြင်သောကြောင့် ပုဏ္ဏားငယ်ကိုအကျွန် ပေးလိုက်ပေသည် သို့ကိုဥစ္စာရ
မိမ့်ယူ ရှင့်ပုဏ္ဏားတို့အရေးယူဘိသည် ဟုနားတော် လျှောက်၏။ ထိုသို့နား
တော်လျှောက်သည်ကိုကြားသော်။ ဗာရာဏသီမင်းကြီးသည်မိန့်တော်မူ
၏ပုဏ္ဏားတို့ ဥစ္စာကိုဥယည်သည်၌ နှံသောခါငါ တို့ခုနှစ် ယောက်ညီမှ
ပေး။မညီဘဲကို မပေးနှင့်ဆိုလျှက် မင့်ကိုပုဏ္ဏားငယ် တယောက် တည်း
တောင်း လှည့်ရာဥယည်သည် ပေးခြေသည် ဥယည်သည် မတတ် လေ
ပုဏ္ဏားချောက်ယောက်ရပ်လင့်ရာသို့လိုက်ပေးကောင်းလေ၏။ ရှင်ပုဏ္ဏား
တို့ဥစ္စာကိုဆပ်ပေးစေဟုဗါရဏာသီ မင်းကြီး မိန့်တော်မူ၏။ ဥယည်သည်
လင်မယားတို့လည်း ပုဏ္ဏားတို့ဥစ္စာကိုမပေးရတတ်သော့ကြောင့် ပုဏ္ဏား
ချောက်ယောက်တို့ကျွန်ဖြစ်လေကုန်၏။ပုဏ္ဏားချောက်ယောက်တို့အမှုကို
အလှည့်အလှည့် လုတ် ကြံခံ ရကုန်၏။ နေ့ရှည်ရက် များ၍ လတ် သော်။
ဥယည်သည်မလည်းသို့းငယ်မြင်လတ်တည်းတဆယ် နှစ်နှစ်ရှိလပ်သော်
သို့းငယ်လည်း၍သို့မေး၏။ သူတကာတို့ကျွန်ဖြစ် သည်ကားအရှင်တဦး
တည်းသာအလုပ်အကြံခံရသည်။ငမိငဖတို့သည်ပုဏ္ဏားချောက်ယောက်
တို့၏ကျွန်ဖြစ်၍ တနေ့တယောက် အလှည့်အလှည် ပင် အလုပ် အကြံခံရ
သည်ကားအဘယ်ကြောင့်၍သို့ဖြစ်ရသနည်းဟုမေး၏။အမိအဖတို့ လည်း
ယခင်နှစ်ဦးဆို ချက် စကားကိုသို့းငယ်အားပြန်ကြားပေ၏။ ထိုစကားကို
သို့းငယ်ကြားလျှင်သို့းငယ် လည်းပညာဖြင့် ကြံမိ၍ ယနေ့ကစ၍ ပုဏ္ဏား

tion. The Bramins represented the case to the royal ear thus: "Oh exalted king and ruler! we seven Bramins came from a far country and lodged in the gardeners' house. By begging, we had obtained six hundred pieces of silver. As there was not one hundred pieces for each, we deposited it with the gardeners, (under an agreement) that if we seven were not present it should not be given up; yet when we were not present they gave it up to the young Bramin deceitfully demanding it. Had they any right to give it up? That we may receive our property from the gardener, is our business." The gardener and his wife replied: "Our lord and king! the Bramins said, when they deposited the property, 'when we seven are present give it,' and went away. When they had proceeded a little out of ear-shot my lords the Bramins stopped, and waiting, sent back the young Bramin to bring the property, saying, 'we may or we may not return here'—the young Bramin returned, and seeing the others wave their hands to quicken him, your slaves gave up the money to the young Bramin. Nevertheless, my lords the Bramins wish to obtain an order that the money may be restored to them." Thus the gardeners represented to the royal ear. Having heard these representations, the king of Benares gave his royal orders:—"when the Bramins deposited their property with the gardeners they said, 'when we seven are present restore the property; if we are not all present do not;' and the gardeners have given it up to the young Bramin alone on his falsely demanding it. The gardeners did not understand that it would have been proper to go to where the six Bramins stood and there give up the property. Let them make good the property of my masters the Bramins." Thus the king of Benares gave his royal order. The gardener and his wife not being able to restore the property to the Bramins, became their slaves, and worked for them by turns. After a length of time the gardener's wife had a daughter. When she was about twelve years of age, she enquired thus; "whilst others are the slaves of only one master, how is it that my father and mother are the slaves of six Bramins, working one day for each by turns?" Her mother and father told her both sides of the case; and she "caught a wise device," and said, "from this day do no more work for

ချောက်ယောက်တို့တွင်အလုပ်အကြံမခံနှင့် တော့ ဟု ဆိုပေ၏။ ထိုစကား ကိုကြားလျှင်သမ္မိးငယ်ဆိုတိုင်းပုဏ္ဏားချောက်ယောက်တို့၏အလုပ်အကြံမ ခံဘဲနေလေ၏။ အမိအဖတို့လည်းသမ္မီးငယ်ကိုဆီးနှင်လိမ်ပေ၏။ ဖြူညွှက် သောအဝတ်အစားတန်ဆာတို့ ကိုဝတ်စေပြီးမှ မင်းကြီးသို့ဆောင်လေ၏။ မိန့်မငယ်လည်းဤသို့လျှောက်၏။ အရှင်မင်းကြီးပုဏ္ဏားခုနှစ်ယောက်သည် ဥစ္စာနှန်သောအခါ ငါတို့ခုနှစ်ယောက်စေ့မှ ပေးဟူလျှက် မြဲမြန်စွာဆိုပြီး လျှက်ယခုချောက်ယောက်တည် သာတောင်းဘိသော့ကြောင့်အကျွန်ုပ်ရှေ့ တော်တွင်တရားဆင်ပါဒခံ့။ ။ရှေးဆရာတို့ထားသောဂါထာလေးပါး ကိုနှစ်လုံးတော်သွင်း၍အောင့်မေးတော်မူလော့။ ရှင်မင်းကြီးနာစေခြင်၏ ဟူ၍နားတော်လျှောက်ပေ၏။ ဒုမ္မလသဖလံရဇာ။ ကုမာရာနံ။ ရောဒနံဗ လံ။ အာကာသံဗလံ။ ပက္ခိနံ။ ပဏ္ဍနံဥတကံဗလံ။ ။ဤသို့ရွတ်ပြီးသော် ရှင်မင်းကြီးဒုဗလသ။ အားမရှိသောသူ၏ဗလံ။ အားကားရာဇာ။ မင်း လျှင်တည်း။ ကုမာရာနံသူငယ်တို့၏ဗလံ။ အားကား။ ယောဒနံ။ ငိုကြွေးချင်း တည်း။ ပက္ခိနံ။ ငှက်တို့၏ဗလံ။ အားကား။ အာကာသံ။ ကောင်းကင်လျှင် တည်း။ ပဏ္ဍနံ။ ငါးတို့၏ဗလံ။ အားကား။ ဥတကံ။ ရေလျှင်တည်း။ ။ထို ကြောင့်ရကား ရှင်မင်းကြီးငါတို့ကျွန်ကားအားနည်သည်ဖြစ်သောကြောင့် အရှင်မင်းကြီး ကိုအားပြုပါဒခံ့။ တရားဆင်ရုံအသပျာခြောက် ရာကိုချေး တော်မူပါမှ။ အကျွန်ုပ်တရားဆင်ပါရဒခံ့။ တရားဆင်၍အောင်မြင်ပြီးလျှင် ခြောက်ရာသောအသပျာကိုသိမ်းတော်မူပြန်ဟုနားတော်လျှောက်၏။ မင်း ကြီးလည်းထိုမိန်းမငယ်စကားကိုနှစ်သက်၍ခြောက် ရာသောအသပျာကို ချေး၍မိန်းမငယ်လက်တွင်ထားစေပြီးမှဗာရာဏသီမင်းကြီး ကသံတော် ခေါ်ရလေသော်။ ပုဏ္ဏားခြောက်ရောက်တို့သည်လာလတ် ရကားဥယည် သည်တို့၏။ သမီးငယ်သည်ပုဏ္ဏားခြောက်ယောက်သား တို့ကိုမြင်လျှင်။ မင်းကြီး ရှေ့ တော် သို့ဝင် လေ၍ ပုဆစ် တုပ် လက် အုပ်ချီ၍ နားတော် လျှောက်၏ပညာအရာလောကင်္ငံစွာသောမှောက်တော်ရှင်ရင်းအလောင်း မင်းပုဏ္ဏားတို့ဥစ္စာနှံ့သောခါ။ ငါတို့ခုနှစ်ယောက်ညီမှသာ ဤဥစ္စာကိုပေး ငါတို့ခုနှစ် ယောက်မညီသော် မပေးနှင့်။ ပုဏ္ဏားတို့ဆိုသည်ဖြစ်သော ကြောင့်။ ယခုခြောက်ယောက်ကိုအကျွန်ုပ်တို့ မပေးသာ။ ခုနှစ်ယောက်ညီ မှရှင်ပုဏ္ဏားတို့ဥစ္စာကို အကျွန်ုပ်တို့ပေးပါတော့ဒခံ့ ဟု နားတော်လျှောက် ၏။ ဗာရာဏသီမင်းကြီးလည်းထိုစကားကိုကြားသော် ဥယည်သည်သမ္မီး မိမ္မငယ်ဆိုသည်အတိုင်း ဟုတ်လှပေ၏။ ပုဏ္ဏားတို့နှံ့ သောအခါ ငါတို့ခု နှစ်ယောက်ညီမှပေး။ ငါတို့ခုနှစ်ယောက်မညီပဲကိုမပေးနှင့်-ဂုတ်ရင်းရှိ

the six Bramins." Hearing these words, and taking their daughter's advice, they refrained from doing any more work. They anointed her with turmeric, dressed her in fine, white clothes, and putting on her some ornaments, took her before the king, and she there represented—"My lord king! when the seven Bramins deposited their property they distinctly said, 'when we seven are all present give it up,' and now only six of them demand it. Your slave wishes to try the cause in your royal presence. Let four stanzas left by the sages of old, have the royal consideration." She then repeated them. "My lord king! the weak man's strength is the king; a child's strength is crying; a bird's strength is the expanse of the heavens; and a fish's strength is the water." "My lord's slaves are weak, and beg my lord in his strength to lend us six hundred (pieces of silver) to enter this suit. When we have gained, let the royal bounty be recalled, and take back the six hundred (pieces of silver.)" The kiug of Benares having placed the silver in her hands, sent a royal order for the six Bramins to attend. When the gardener's daughter saw they had arrived, she went into the royal presence, and with bended knees and her joined hands raised, she thus represented: "Oh, most excellent king, who art an incarnation of the god, and most rich in all scientific attainments, when these Bramins deposited the property they said, 'when seven are present only let this property be given up; when seven are not present, do not give it up.' As this is the engagement, we should not now give it up to six. When the seven are present, we will give up our master's property." The king of Benares heard these words; he said, "what the gardener's little woman says is true; when the Bramins deposited their property they agreed that it should only be given up to seven, and without the

ခြေသည် ဖြစ်သောကြောင့် ခုနှစ် ယောက်စေ့မှ ပေးလော့ ဟုဗာရာဏသီ မင်းကြီးမိန့်တော်မူ၏။ ပုဏ္ဏားတို့လည်း ခုနှစ်ယောက်စေ့အောင်မတပ်နိုင် သောကြောင့် ဥစ္စာမရ တရားရှုံးချေပြီသတည်း။ ဥယည်သည် လင်မယား လည်းသွီးငယ်ကျေးဇူးကြောင့် ပုဏ္ဏားတို့ကျွန်အဖြစ်မှလွတ်လေသတည်း။ ထိုသို့လွတ်လေပြီးသော်သွီးငယ်သည်ဤသို့ဆို၏။ မင်းများ စိုးများ မှူးမတ် တကာတို့ သိစေသောဟုတိုင်ကြား၏။ ခပ်သိမ်းသော မှူးမတ်မင်းများအ ပေါင်းတို့လည်း ဤမိမ္ဘငယ်အလွန် လိမ္မာ စိတ်ဖြာ ခွဲချမ် တရားတတ် စွတ ကား။ ဤသို့သော တရားကိုဆင်တတ်ပေ၏ဟူ၍ ဦးရစ်ပုဆိုးစသည်တို့ဖြင့် ပူဇော်ကုံ၏။ ဥယည်သည်သွီးမိမ္ဘငယ်သည်လည်း ချောက်ရ သော ဥစ္စာ တို့ကိုချိမ်၍။ မှောက်တော်ဘုရားကျေးဇူးတော်အားဖြင့် ဤဥစ္စာကိုအစွဲမှု ၍တရားအောင်သည် ဖြစ်သောကြောင့်။ အကျွန်ုပ်တို့ကား ကျွန်တော်ဖြစ် ပြန်၏ဟူ၍ဥစ္စာထုပ်ကိုထိုမင်းကြီးအားနှင်းပြန်လေ၏။ မင်းကြီးလည်းဤ မိမ္ဘငယ် သည်ကား တရား အရာတတ် လိမ္မာ၍ အလွန်တရာ ဆင်ပေတတ် သည်ဖြစ်သောကြောင့် ချင့်ကိုလျှင်မိဖုရားမြှောက်ထိုက်စွာ၏ ငါနှင့်ပေါင်း ဘော်သည်ရှိသော် ခပ်သိမ်းသောပြည်သူတကာတို့၏ စီးပွားချမ်းသာတိုး တက်ရာ၏ဟူ၍။ မင်္ဂလာသဘင်စီရင်ပြီးသော်။ ရှစ်သောင်းအဖျားမိဖုရား ဟုဘိသိတ် မြှောက်လျှင်းလေ၏။ ထိုကြောင့်မင်းကြီး ဘဏ္ဍာကာရိကဖြစ် သောအိမ်ရှင်တို့သည်။ နှံသောသူတို့အစုံယူလာမှပေးရသတည်း။ နှံသော ဥစ္စာကိုယူတုံသော်လည်း ကောင်းစွာယူရာ၏ဟု မြဟ္မာမင်း၏ သားရင်း ဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

တနည်းတုံတရားစမ်ရာလှည့်ဖျားဆောင်သောဥစ္စာတွင်အမှန်ဖြစ်ပြန် ရသည်အကြောင်းကိုပုံသက်သေဆိုပေတုံအံ့။

မင်းကြီးရှေးသောအခါ ရဟန်းတယောက်မှာ တပြည့် ရာဟူလာရှိသ တည်း။ ထိုတပြည့်အမိတွင် တံဆိပ်လက်ရာမှတ်သား၍ရွှေဥစ္စာထုပ်ကိုနှံ ပါသည်။ ထိုနှံသောရွှေကိုယူ၍ ခဲမကျေးနီအစားလဲ၍ တံဆိပ်လက်ရာမှတ် သားသောအတိုင်းထားပြန်လေ၏။ ထိုအရှင်လည်းကြာမြင့်မှလို၍တောင်း လပ်သော်။ တံဆိပ်လက် ရာမှက်သား သည်အတိုင်း ပေးလိုက်သတည်း။ ကြောင်းသို့ရောက်မှဖွင့်၍ကြည့်သော်ရွှေကားမမြင် ခဲမကျေးနီကိုသာမြင် ၏။ ထိုသို့မြင်လတ်သော်တကာမကို။ တော်တော် လျှားလျှား မှတ်၍ငါနှံ ထားပါသည်။ ရွှေသည် ရွှေကားမဟုတ် ခဲမကျေးနီနီဖြစ်ခဲ့၏တကားဟုမ သက်မသာ။ ငါနှံသောခါလည်း သိမြင်ပါသောသက်သေ သာမိကမရှိပါ ခြေသောကြောင့် တရားဆင်ဘိမူကား တရားမဖြစ်ကောင်းခဲ့။ တရားဖြစ်

presence of seven it should not be given up. As this was the original agreement, when the seven are present let it be given up." Thus the king of Benares gave his royal order; and as the Bramins could not get the seven present they did not get the silver, and lost their cause, and the gardener and his wife, by the favour of their little daughter, were released from their bondage to the Bramins; then the little daughter said: "Oh lords and chiefs, take note of this (decision.)" Then all the chiefs, lords and ministers said—"this young woman is wise beyond compare, and learned in the laws, and puts a case with the greatest skill." So they all made her offerings of their head dresses and other things, and she, having weighed the six hundred pieces of silver, said, "by means of my lord's favor we have entered our suit with this money and gained our cause, and we again become the royal slaves;" so she returned the money to the king. To this the king—"because this little woman is learned in the law beyond all others, she is most fit and worthy to be made a queen. When she is associated with me, the country will increase in wealth and happiness." So he ordered the propitious ceremony, and raised her by bithik above his eighty thousand queens. "From this, oh king! the receiver of deposited property should only give it up when all those who deposited it come for it, and it should be taken over most carefully, and properly." This the sage recluse Menoo, the son of the king of Bymahs, said.

I will record an instance where false goods were substituted, and the proper ones recovered.

Oh king! in former times a Rahan had a disciple called Yahoola, with whose mother he deposited a sealed packet of gold. She having taken out the gold and put in lead and copper, replaced the seal as before, and put the packet back in its place. After some time, when the Rahan asked for his gold, she gave him the packet sealed as it was. When he reached the convent he found no gold, but only lead and copper. When he saw this, he reflected, "thinking the woman honest, I deposited gold with her, and now I have received lead and copper.' He was disturbed in his mind. "When I deposited it (he reflected,) I had no witness; if I go to law with her, I can do nothing;

အောင်အဘယ်သို့ကြံရခဲ့နည်းဟု အောင့်မေ့လပ်သော် နှံ့ပါသောရွှေစင်
စစ်ကိုကားတပါးသို့ဖွက်၍ခဲမကျေးနီကိုအစားတည့်ဘိသော် ရွှေသည်ခဲမ
ကျေးနီ မဖြစ်ပဲကို ဖြစ်ဘိသော ပုံနှင့် ညီစွာ တရားဖြစ်အောင် ကြံခဲ့ဟု။
မျောက်တခုကိုရအောင်ပြု၍ထားသတည်း။ ထိုမျောက်ကိုရာဟုလာဟုအ
မည်မှည့်သတည်း။ ထိုမျောက်ငယ်ကိုရာဟုလာဟု ခေါ်ဝေါ်ခြင်း ဖြစ်စေ
သတည်း။ မျောက်ငယ်လည်းကြင်လည်သည်ဖြစ်၍ ရာဟုလာခေါ်လျှင်
လာလတ်သတည်း။ ထိုအခါ ရှင်ငယ်ရာဟုလာကို တပါးသော အရပ်သို့
ဖွက်ထား လေ၏။ မျောက်ကို တမူကား ရှင်ဖြစ်သော ရာဟုလာ အစား
ကြောင်းမှာထားမှရှင်ငယ်မိဘကိုခေါ်ခြစေ၏။လာလတ်လျှင်မျောက်ကို
ရာဟုလာဟုခေါ်၏။ထိုသို့ခေါ်လျှင် မျောက်ငယ်ကလည်းကြင်လည်သော
အားဖြင့်ထိုအရှင်သို့လာလတ်၏။ထိုသို့မျောက်ငယ်လာလတ်သည်ကိုမြင်
သော်ရှင်ငယ်မိဘလည်းအကျွန်ုပ်သားရာဟုလာအဘယ်မှာရှိတုံသနည်း
မေးလျှင်၏။ ထိုအရှင်လည်း ဧတကာ သားရာဟုလာသည် မျောက်ဖြစ်ခဲ့
သည်။ သည်မျောက်သည် ဧတကာသားရာဟုလာမဟုတ်တုံလောဟုဆို
၏။ထိုစကားကိုကြားလျှင်အကျွန်ုပ်တို့သည်သခင်ဘုရားတွင် အကျွန်ုသား
သည်ကျေးဇူးပညာ တတ်လိမ္မာပါစေအပ်ထားပါသည်။ အကျွန်ုသားရာ
ဟုလာသည်လူစင်စစ်တကား။ လူသည်အဘယ်ကြောင့် မျောက်ဖြစ်လေ
ခဲ့နည်းဟုဆို၏။ထိုအရှင်ဆိုတုံပေ၏။ ဧတကာတွင်နှံ့သောဥစ္စာသည်ရွှေ
စင်စစ်တကား ရွှေစင်စစ်သည် အဘယ်ကြောင့် ကျေးနီ ခဲမဖြစ်ကောင်းခဲ့
နည်း။ ထိုသို့ဖြစ် သည်ကို ထောက်သော် ဧတကာသား ရာဟုလာသည်
မျောက်မဖြစ်ကောင်း လေလောဟုညင်းခုံကြ၏။ ထိုသို့ညင်းခုံကြသောတ
ရားကိုပညာရှိသောတရားသူကြီးသည်ဤသို့ဆို၏။ကျေးဇူးပညာအတတ်
အလိမ္မာသင်ပါစိမ့်မည်ဟုအမိအဘတို့အပ်ထားပါသည်ဖြစ်သောကြောင့်
သားရာတွင်လူမျောက်ဖြစ်ခဲ့သည်လည်းမဖြစ်ကောင်း။လူဖြစ်ပြန်ပစေ။တ
ကာဥပါတော်တော်လျှားလျှားမှတ်၍ ရွှေစင်စစ်ကိုနှံ့ပါသည်။ နှံ့ထားပါ
သော်တကာလက်တွင် ရွှေသည်ခဲမကျေးနီဖြစ်ခဲ့သည် မဖြစ်ကောင်း။ ခဲမ
ကျေးနီရွှေစင်စစ်ဖြစ်ပြန်စေဟု ဆုမ်းဖြတ်လေသည်။ ထိုသို့ဆုမ်းဖြတ်သော
အတိုင်းရွှေစင်ကိုပေးရချေ၏။ထိုအရှင်လည်းရွှေစင်ကိုရ၏။ မျောက်ကိုတ
ပါးထား၍ ရာဟုလာမျောက်ဖြစ်သည်ကား လူဖြစ်ပြန်ပြီ ဟု အမိ အဖကို
ပေးပြန်သတည်း။

ဤအရာကားပရိရယ်ပြု၍ နှံ့သောဥစ္စာ မဆုမ်း ရပြန်လေ သတည်း။
ပုဏ္ဏားခုနှစ်ယောက်တို့တရားမှာသော်ကားခုနှစ်ယောက် မဇ္ဈေ နိုင် သော

how shall I make a case of it? The pure gold I deposited has been concealed somewhere, and this lead and copper put in its stead. Gold does not change into lead and copper, but I will act as if it did." So he got a monkey and called it Yahoola. By habit when Yahoola was called the monkey came. He then concealed Yahoola, put the monkey in his place in the convent, and caused his parents to be called. When they arrived he called, "Yahoola!" and by the force of habit the monkey came to its master. When the parents saw the little monkey they said, "where is our son Yahoola?" The master said, "my people's son has become a monkey. Is not this him?" When they heard this they said, "we placed our son with my lord to be instructed in knowledge and wisdom; our son Yahoola was a true man; how can a man become a monkey?" The master then said, "the property I deposited with my people was pure gold; why should that become lead and copper? As that was changed, cannot my people's son Yahoola change into a monkey?" Thus they argued, and a man, wise in the law thus decided: "The parents placed their son to be instructed in wisdom and knowledge; he ought not to become a monkey; let him again become a man. The (Rahan) deposited pure gold in the hands of his people, thinking them honest; it has become lead and copper, which it ought not to have done. Let the lead and copper become gold." Thus he decided, and accordingly they had to return the pure gold, and the owner having got it sent away the monkey, and saying, "Yahoola from his state of monkey has again become a man," he restored him to his parents.

In this case, by this device, he did not lose his property, but recovered it. In the case of the seven Bramins, as they could

ကြောင့်။ ချင့်တို့ဥစ္စာမရဆုမ်းချေသည်။ ။ဥယည်သည်လင်မယား ဝန်လွှတ်လေသတည်း။ ။ထိုကြောင့်အကြွင်တရားသူကြီးတို့သည် ဥစ္စာနှံသောတရားတို့ကိုနက်နဲသိမ်မွေ့စွာ။ ဆင်ချင်ရ၏ဟုမြဟ္မာ မင်း၏ သားရင်းဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။ ။ဥစ္စာနှံ သောတရားကားပြီး၏။

၄ ။သူဥစ္စာကျွဲနွားလူကိုအရောင်အဆင်းဖျက်၍ရောင်းသော်။မဖျက် မဆီးရောင်းဝယ်သောတရား။

သူဥစ္စာကျွဲ။နွားလူကိုအရုပ် ဖျက်မဖျက် ရောင်းစား သောတရား ကား။ သူဥစ္စာကျွဲနွားလူကို အရုပ်အဆင်းဖျက်၍ ရောင်းစားသည်။ ရောင်းသူဝယ်သူအညီလျော်သင့်သည်။ဆလျော်သင့်သည်။ အပြစ်လွှတ် သင့်သည်။စကားကိုဆိုလိုအံ့သောဂါထာမြွက်တည်။

ယောဂဟေ့တွာ။ပရာဟတ္တေပိကိနေယျအသက္ခိတောဇာနိတွာပိ။ အ ဇာနိယာ ရူပည္ဒဝိနာသယေ။ ။ယောအကြွင်သူသည်။ပရ ဟတ္တေ။သူတပါးတို့၏လက်၌။ဂဟေ့တွာ။ယူ၍။အသက္ခိ တော။ရှိုကပ်အံ့။ ဇာနိတွာပိ၊ သိစေမူလည်းကောင်း။ပိကိနေယျ။ရောင်းဘိအံ့။ ရူပည္ဒဝ။ အဆင်းကိုလည်းကောင်း။ဝိနာသယေ။ဖျက်ဆီးဘိအံ့။သော။ ထိုသူတို့ကို ဓိနိစ္ဆယျော။ဆုမ်းဖြတ်ရ၏။

မြတ်သောမင်းကြီး ဤသို့ဆိုသောကြောင့်။အရှင်ရှိသောဥစ္စာကိုအရှင် မသိယူ၍။ရောင်းဘိအံ့။ အရှင်တွေ့လေသော်။ ထိုဥစ္စာအလျောက်။ အ တက်လျော်စေ။ ။ဥစ္စာကိုယူ၍အရုပ်အဆင်းဖျက်ဘိအံ့။မရောင်း စားမှီလက်တွင်တွေ့လတ်သော်။အတက်အတိုင်းလျော်စေ။ ရောင်းစားခင် ၍ဝယ်သူလက်တွင်တွေ့လပ်သော်။ ဝယ်သူတို့က။ အတက်အတိုင်းလျော် စေ။သူဥစ္စာကိုယူ၍ရောင်းဘိအံ့။ ဝယ်သောသူသည်လည်း။ အဘိုးနည်း လည်းပေးအံ့။ သက်သေလည်းမရှိအံ့။ အရုပ်အဆင်းကိုလည်းဖျက်ဆီး အံ့။ ရောင်းသူကားနိုး တက်တဝက်လျော်စေ။ ဝယ်သောသူကားအတက် လျော်စေ။ အဘယ်ကြောင့်ရောင်းသူအတက်တွင်တဝက်ဖြစ်သည်။ ဝယ် သူကားအတက်အတိုင်းလျော်ရလေသနည်းဟူမူကား။ ရောင်းသူ ခိုးမှန်း သိ၏။အရုပ်အဆင်းမဖျက်။အဘိုးနည်းနှင့်ဝယ်သူအရုပ်အဆင်းဖျက်ခြေ သောကြောင့်တည်း။

အဘိုးထိုက်တံအောင်ဝယ်အံ့။ဝယ်သောအခါသူသိသူမြင်မရှိအံ့။အ ရုပ်အဆင်းကိုလည်းမဖျက်မူကားရောင်း သူလည်း တဝက် ဝယ်သောသူ လည်းတဝက်ခိုးတက်တွင်လျော်စေ။

not all be produced together, they did not recover their property, but lost it, and the gardener and his wife got rid of their burthen—for this reason, any judge in a suit regarding deposited property, must well, coolly, and deeply consider. Thus Menoo, the son of the king of the Bymahs said. End of the law of deposits.

*4th. Altering the appearance of buffaloes, cattle, or of men, the property of another, and selling them; also selling or buying them, without altering their appearance.*

Of the case when the property of another, buffaloes, cattle, or men, is sold, whether its appearance has been altered or not; when the property of another person, buffaloes, cattle, or men, is altered in appearance and sold by any one, (the law) when the buyer and seller shall equally make restitution—when they shall pay different portions—and when they shall be held free of blame, this (Pali) stanza sets forth the "shadow."

If any one shall take the property of another, conceal, and sell it, whether he knew it or not, and whether he alter its appearance or not, he may be judged.

"Oh excellent king! because it is thus said, if any one shall take property which has an owner and without his knowledge sell it, when he finds it out let (the seller) make restitution according to the nature of the property. If he shall have altered its appearance, and it be found in his possession before he can sell it, let him make restitution according to the scale laid down (for theft.) If they are found in the possession of the person who has bought them, let the buyer, according to the scale, make restitution. If any one shall take the property of another and sell it, if the buyer get it below its value, without witnesses, and alter its appearance, let the seller pay one half the amount laid down as the fine for theft, and the buyer the full amount of the same. Why is this—that the seller shall pay only half, the buyer the whole? It is thus because the seller knew he had stolen it, but did not alter its appearance, and the buyer who got it below its value, did so.

If it shall be bought for its value, and there be no witnesses to its sale, but the appearance not altered, let the buyer and seller each pay one half the amount taken from a thief.

အကြွင်သူသည်သူဥစ္စာကိုခိုး၍ရောင်းစားအံ့။ ဝယ်သောသူလည်းရှိုရာသောသူတို့မျက်မှောက် အဘိုးထိုက်တံအောင်ဝယ်ပေအံ့။ ဥစ္စာသခင်လည်းဝယ်သောသူလက်တွင် တွေ့လေမူကား ရောင်းသူကိုလည်း ညွှန်ပေရာ၏။ရောင်းရင်းသူမရမတွေ့နိုင်သည်ဟု ဝယ်သူ၌ခိုးဖြစ်မရှိရာ။အဘယ်ကြောင့်နည်းဟူမူကား။သူထင်သူသိအဘိုးတံရာဝယ်သောကြောင့်တည်း။ရောင်းရင်းသူကိုတွေ့မူ ဝယ်သောသူဥစ္စာမဆုမ်းရာအဘိုးကို တောင်းပြန်ရာ၏။

အကြွင်သူသည်။ရှိုရာသောသူတို့မျက်မှောက်အဝယ်။ အဘိုးလည်းမတံ။ အံနည်းအပါးဖြင့် ဝယ်ခြေမူကား။ သိရောင်းသိဝယ်သို့ ရောက်ခြေသောကြောင့်။ခိုးတက်တွင်တဝက်လျော်စေ။ဝယ်သောသူဥစ္စာလည်းဆုမ်စေ။၍ကားရောင်းသူကိုမတွေ့။ဝယ်သူလက်တွင် သခင်တွေ့သောစကား။သူသိသူထင်မဟူခြေသောကြောင့်တည်း။

လူကိုခိုးရောင်းခိုးဝယ်အတက်မှာ။ လူတယောက်ကိုနှစ်ယောက်တံဘိုးအတိုင်းလျော်ဖြစ်တည်း။ ။အကြွင်ရောင်းသောသူသည်။ မွတ်ရှားပါး၍အဘေးအဘိုးဆုမ်းသည်၊ပေါက်ဖေါ်ဦးရီး အရီးဘကြီးမိထွေးစသည်တို့၏ သားသွီးကျေးကျွန်ကိုရောင်းချင်း၌ ခရီးဝေး သွား၍ လည်းကောင်း၊ရပ်ရွာတွင်နေသော်လည်းကောင်း၊ရောင်းစားမိအံ့။ဝမ်းစာမကုံ၍ရောင်းမိချင်းဖြစ်သည်။ခိုးတက်မစားသာ။ သားသွီးကျေးကျွန်မှန်သမျှကိုအရင်းအတိုင်းပေးဆပ်စေ။ အပြစ်မစားသာ။ ဝယ်သူမှာအမျိုးရင်းမဟုတ်ခြေအပြစ်ကိုစီရင်သတည်း။ ပေါက်ဖော်သားချင်းဘေးဘိုးဆုံသည်ကိုအလျော်မရှိ။ ရည်၍ရောင်း စားချင်းမှာဥစ္စာရင်းအတိုင်းလည်းပေးစေ။ခိုဖြစ်မှာလည်းဥစ္စာမျိုးအတိုင်းအပြစ်ကိုပေးစေ။ ။ရာသည်ကားအမျိုးကိုမစောင့်ချင်းကြောင့်တည်း။အမြိုးတော်သောသူသည်သားချင်းမိဘချင်းပေါက်ဖော်ကိုကားမပေး၍သန္တေ့ရှိသော်မနေရှောင်လွှဲ သောင်ကားသားလွှဲသားထိန်းကျွန်ပေးစေ။

သန္တေ့မရှိမယားမမြောက်မချင်းမကပ်နေသောသူတို့မှာအမျိုးမစောင့်ဖြစ်သည်။ငွေစင်တရာပေးစေ။ ။အမျိုးမစောင့်ရောက် သည်အချက်နှင့်ဆိုသည်။

အမျိုးရင်တို့မင်းမူစိုးပြစ်ရှိလျှင်တယောက်ကြောင့်အမျိုး ဟူသမျှခံရသည်ကိုဆင်ချင်ရာ၏။ တကြိမ်နှစ်ကြိမ်သုံးကြိမ်မြောက်ကျင့်သော်အပြစ်အတိုင်းလျော်စေ။

ပေါက်ဖော်သားချင်း တို့ကိုထိခိုက်ရာလက်လွန် ၍သေလျှင် အလျော်

If any man take the property of another and sell it for its full value in the presence of respectable witnesses, and the owner shall discover it in the possession of the buyer, he must point out the seller, but he shall not on the ground of not being able to find him, be held guilty of theft. Why is this?—because he bought the property at its full value in presence of witnesses. If the seller be found, the buyer shall not lose the property; he has a right to sue him for the recovery of its price.

If any one shall buy property for less than its value, and not before respectable witnesses, because this is equivalent to buying goods knowing them to be stolen—let him pay half the fine on a thief, and let him lose the price of the thing bought. This is when the seller is not discovered, but the owner of the thing finds it in possession of the buyer, and he can produce no witnesses.

In case of stealing and selling, and stealthily buying a man, the fine on the thief is two for one. If any one being starving sells a descendant of his own ancestors, a relation his uncle by the mother's side, his aunt by the father's side, his uncle by the father's side, his aunt by the mother's side, or any such relation, whether it be to a distant part of the country, or in their own village, it being done because he (the seller) was in want of food, they (relatives) shall not have the price as for a theft, but let him (the seller) restore the true child or slave. They shall not have the fine. If the buyer was not of the same family he may be fined. If (the seller,) trusting to there being no fine for selling a relative shall sell them, let him restore the person sold and pay the fine for theft with reference to him, because he has not regard for his family.

If any man, without being given in marriage, shall get his cousin or other relative with child, and will not marry her, but keeps out of the way, let him give a slave to take care of the child.

If she be not with child and he (having had connection with her,) refuse to make her his wife, he is disregardful of the honor of his family; let him be fined one hundred tickals of pure silver. This is said because he has no regard for his family.

As amongst near relations, when one has committed an offence against the king, (treason, rebellion,) the whole family are liable to punishment. The case may be considered; if the offence have been committed once, twice and thrice, let the fine be as laid down.

In a quarrel amongst relatives, when one has been killed,

ကင်းစေ။ ။သေသူသားမယားမိဘတို့ကိုတသက်ကျွေးစေ။တင်မြီရှိလည်းဆပ်စေ။သင်ဂြိုဟ်စရိတ်ခံစေမှအမျိုးစောင့်မည်သည်။

## ၅ ။သားသမီးကျန်ရှိကိုခိုးရောင်းသောတရား။

ပေါက်ဖော်မိဘတွင်း သင်တို့သားသမီး တို့ကို အမျိုး မစောင့် ရောင်းစားသည်ကိုခိုးတံလျော်စေ။ သားချင်းဖြစ် သည်မဆိုသာဟုဗြဟ္မာမင်း၏။သားရင်းဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

## ၆ ။ကျွဲနွားသက်ရှိသက်မဲ့ဝင်သည်ကောက် ရသည်သူခိုးဖြစ်သင့်မဖြစ်သင့်တရား။

အကြွင်သူသည်ဥစ္စာကျ၍ပျောက်လေ၏။ ဥစ္စာရသလောဟုမေးမြန်း၏။ မရပျက်သောသူတို့ကားအရလည်းမစားရရာ။ ရသောဥစ္စာအတိုင်းလည်းပေးစေ။ ၎င်ရရင်းကိုလည်းလျော်စေ။

လူတည်ကောက်ရမူကား။အရွေးတကျပ်စားအပ်၏။ ကျွဲကောက်ရမူ။ ခွဲစားရအပ်၏။နွားကောက်ရမူကား။တမတ်စားအပ်၏။မြင်းကောက်ရမူကားတကျပ်စားအပ်၏။ဆယ်ရက်ကိုးရက်မွေးဖွားသည်ကျွဲနွား မြင်းဖြစ်လျှင်အကောက်မစားရရာ။အင်တံသောကျေးဇူးဆပ်စေ။အရောင်အဆင်းမဖျက်အပ်။အရောင်အဆင်းဖျက်၍။ဂြိုကိုချိုးမိအံ့။နားကိုလည်းလှီမိအံ့။အသင်းကိုမူလည်းကွပ်ဘိအံ့။ ခိုးတက်လျော်စေ။ အကောက်မတတ်ကသူခိုးဟူ၏။အခိုးတတ်ကအကောက်ဟူ၏ဆိုရာ၌။ဝေါ်မွတ်ရှားပါး၍ခိုးစားမိသည်ကို။အရှင်အားမှားရွှင်းလေသည်အဖြောင့်တည်း။စကားရောက်မူကားအရင်းတိုင်းယူစေ။အတက်မစားရာသည်ကိုရည်၍အခိုးတတ်သော်အကောက်ဟူသတည်း။ ။ကောက်ရသောကျွဲနွားတို့ကိုပြည်စိုးရွာသူကြီးတို့ကိုတိုင်ကြားအပ်၏။ ၎င်ကိုယ်တည်းမတိုင် မကြားမိသော်ရွာတွင်စုံရာတို့ဝယ်ပန်ကြား၍ထွန်ရက်ရာ၏။အရှင်တည်ပေါ်မူကား အရွေးစားအပ်သတည်း။

## ၇ ။ရွှေအိုးရဝေသင့်မဝေသင့်တရား။

သူတယောက်ရွှေအိုးရအံ့ပြည်ရှင်မင်းတို့မေးသော်မရဟုပျက်ကွယ်၍ဆိုမူကား။ ထိုရသောဥစ္စာကိုအကုန်ယူအပ်၏။ မပျက်မ၃က်တည်ဆိုမူကား။ထက်ဝက်ပေးအပ်၏။ကျန်သည်ရွှေအိုးရအံ့။အရှင်အကုန်ယူအပ်၏ သားသမီးရွှေအိုးရအံ့။ မိဘယူအပ်၏။ တပြည့်သည်ဥစ္စာရအံ့။ ဆရာနှစ်ဆယူအပ်၏။

အစားတည်စေ။လူသေလျှင်အကျပ်သုံးဆယ်အသက်ဘိုးပေးလျှော်စေ။အမည်ရတို့ကမင်းမျိုးတိုင်အောင်။ နှစ်ဆတက်စီလျှော်စေ။ သွားကျိုးသော်ငါးကျပ်။ ၎င်တဆယ်ငါးကျပ်။ဟူ၏။ ပေါင်ရိုးကျိုးသော် မောင်းရိုးကျိုးသော်ကိုးဆယ်ဟူ၏။ လက်သန်းပြတ်သော် အကျပ်တဆယ်က တက်၍လက်မတိုင်တခုလပ်အလျှော်ဟူပေ၏။ဤကားငွေတည်း။ ဆင်ချင်တုံ။ လုံထုလုံပွတ်ကိုယ်လုံးချွဲနှံ့၍ မလုတ်မစားနိုင်အောင်ရှိပေမူ။ တသက်ကြွေးမွေးစေဟူ၏။

အကြွင်ကျွဲနွားဆိတ် ဝက်ကြက် မြင်း ဆင်တို့အ ချင်း ချင်း။ ဌေ့ပက်ကြောက်ကန်ကိုယ်ခဲ၍သေလျှင်အပြစ်မရှိ။ ချင့်ကိုယ်မဆုံးရာ။ဤကားအထိန်းအကြောင်းမပါချင်းတည်း။ကျွဲနွားဆင်မြင်းတို့ဝယ်။အထိန်းအမှတ်ထားရာ၏။ အထိန်းအမှတ်ဟူသည်ကား ဆင်မှာတဘိုး။ မြင်းမှာလံကြိုး။ ကျွဲမှာတုံးဆွဲ။ ဝက်မှာထိပ်။ထားရာ၏။ ထိုကဲ့သို့ထားပေလျက်။ ခပ်ဌေ့ကျောက်ကန် သေကျိုးလျှင်။ ချင့်တိရိစ္ဆာန်တို့ သာဆုံးစေ။ သခင်အပြစ်လွတ်စေ။

အကြွင်မြင်းကျွဲနွားဝက်ကြက်တို့သည်။ ကျောင်းစားရာတွင် ခံရိုးလွှန်၍လေလွင့်ရာသူတပါးထံရောက်၏။ အရောက်ခံသူတို့သည်။ သူတပါးတို့အားသိမြင်အောင်တိုင်တန်း၍ထားရာမွေးရာ၏။ ။ထိုတိရိစ္ဆာန်တို့ကိုသတ်၍စားသော် ခိုးတက်တွင် တဝက်ဥစ္စာရှင်ပေါ်၍ ခွဲလျှင်လျှော်စေ။ သတ်၍မစားတပါး အရပ်သို့ဖြောင်း ထွဲထားရာ။ မဖြောင့် ကွယ်၍ပေါ်သော်။ခိုးတက်တိရိစ္ဆာန်အလိုက်အမျိုးအတိုင်းလျှော်စေ။ ။အချားသို့ကဲ့ဌက်လေသည်ကိုအရှင်ရင်မေးသည်ကာလ မကဲ့မဌက်။ သေသည်ပျောက်ခဲ့သည်ဟုဆိုအံ့။ နောက်ကဲ့ဌက်ပေသည်။ဥစ္စာရှင်တို့သို့ပြောပြန်လျှင်။ကဲ့ဌက်မိသည်ဒါဏ်တခုကိုနှစ်ခုလျှော်စေ။ဖြောင့်ပြီဖြစ်သည်အရင်တိုင်းယူစေလည်းဟူ၏။ဆင်ချင်တုံ။အဖြောင့်အသားဖြစ်ပေကလည်းထိန်သူကိုဥစ္စာရှင်ရင်းက။ဆယ်စုတစုလက်ရှိအကြားမွေးပွားလျှင်ယူစေ။ ထိုမှတပါးအရင်းတိုင်းမှာလည်း။ကောက်စားထုံအတိုင်းစားစေ။ ဟုဗြဟ္မာမင်း၏သားရင်းဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။ ။နွားရှင်နွားထိန်းကြောင်းသောသူတို့တရားကားပြီး၏။

or fowls, be killed, let him make them good. If a man be killed, let him forfeit thirty tickals of silver. If it be a man of title up to the royal family, let him pay double according to the class of the deceased. If a tooth be broken, five tickals (is the fine ;) fifteen has also been laid down. If a thigh or a shoulder bone be broken, it is laid down at ninety tickals. If a little finger be cut off, ten tickals, and from this up to the thumb there is an increase of one half on each; to be paid in silver. In this case there is a discretionary power left with the judge. If the whole body be bruised, and the legs and arms disabled, so as to disqualify the sufferer from gaining his livelihood, let the offender support him for life.

If any buffaloes, oxen, goats, pigs, fowls, horses, or elephants, shall of their own accord, butt, strike, and kick each other, and one shall die, there is no fault; the one which has killed the other shall not be forfeited. This is said when neither animal had a keeper. Buffaloes, oxen, elephants, or horses, ought to have something to indicate their locality, or restrain them. A buffalo should be clogged; a pig should have a wooden collar; an elephant keeper should have a horn; and to a horse a long rope should be attached. If they are so kept, and butt, strike or kick any other that they die, or have a limb broken, let the animal that does the wrong be forfeited; the owner shall be free from farther fault.

If any horse, elephant, buffalo, ox, pig, or fowl, shall stray from his keeper and usual place of feeding, and come to some other person's and he take charge of him, he should call people to witness the fact, and take care of and feed him. If he kill and eat an animal so coming, and the owner shall appear to prosecute him, let him pay half the fine for a theft. If he does not kill and eat him, but keeps him in another place, and denies having him, and it shall be discovered, let him pay the full fine for theft, according to the kind of animal. If he shall conceal him, and when questioned by the owner shall say he has not concealed him, that he is dead or lost, and shall after this admit to the owner that he has concealed him, as a punishment for the concealment, let him pay two for one. As he admitted the fact, it is alse said, let him restore the animal that was concealed. In this the judge may use his discrrtion. If he shall at once state the truth, let him receive from the owner one in ten of all increase whilst in his keeping. This is one rule. It is also said he shall recover the amount laid down in the law for the redemption of property found. The son of the king of Bymahs, the sage recluse, said. End of the law of owner of cattle and herdsmen.

၂၄ ။ကျွဲနွားငါးသောတရား။

အကြင်ကျွဲနွားဆင်မြင်း တို့ကိုအတိုက်အထွန်အတင်ငါးကြအံ့။ ခြေ
လက်မျက်စိဥဂျိုအမြီးနားရွက်အသက်အကြီး အငယ်အရွယ်တို့ကိုမှတ်
သားရာ၏။ အဝီးသမဂျိုကြီးဂျိုငယ်အစွယ်ရှည်တို့အစုတ်အပြတ်။အ
ကျိုးအဆက်တို့ကိုကြည့်၍တံဘိုးကိုလည်းပြတ်ဆိုရာ၏။ငါးသည်ကာလ
နှစ်အရှည်အတိုကိုလည်းပိုင်းချား၍ဆိုရာ၏။ ထိုငါးသောကျွဲနွားမြင်းတို့
ကိုတောင်ပို့ကံသင်းတွင်းကျင်းမညီမညွတ်ရာ၌လည်း မချည်မထားရာ။
ချည်ထား၍မြွေခဲ။ တွင်းကျသောကြောင့်သေပေခဲ့သော်။ အစားပြတ်ရင်း
တိုင်းပေးစေ။မသေမှီစေသည်လရက်ကိုလည်းတွက်၍ပေးစေ။ ။ကြ
ပတော့ကောင်းမွန်စွာ ချည်ထားရာ၌။ မြွေခဲသော်အပြစ်မရှိ အရေအသား
ခေါင်းအမြီးသခင်သို့ရောက်စေ။အစားရကောင်းသည်မဆိုသာ။ အခကို
တွက်၍ပေးစေ။ နာဖျားလျှင်သခင်ရင်းသို့တိုင်ကြားစေ။ တိုင်ကြားလျက်
ဥစ္စာရှင်တို့မလာသေလည်း အပြစ်မရှိအသား အရေခေါင်းအမြီးကိုသာ
ပေးစေ။နာဖျားသည်ကိုအရှင်သို့မတိုင်မကြားသေသော်လည်း။ နာဖျား
သည်မှန်၍သေသော်အပြစ်မရှိ။ အရေခေါင်းအမြီးနှင့်ငါးသူအသားစား
မိလျှင်လည်းဥစ္စာရှင်သို့တွက်၍အဘိုးပေးစေ။ ငါးသောကျွဲနွားတို့သည်။
အထွန်အတင်မကောင်းလျှင်ပြန်၍အပ်ပေအစားပေးလျှင်ပေးသောအစား
ကျွဲနွားကို။တင်ထွန်ရသည်ရက်လတွင်သာအခဖြစ်စေ။ လဲလျက်အလဲမ
ခံ။ ကျင့်ထွန်တင်ပါအပ်ပြန်၍။ ကျင့်ထွန်တင် ရလျှင်။ ထိုကျင့်ထွန်တင်
ကောင်ရသည်ခေါက်ရက် နေ့တွင်သာ တွက်၍ အခဖြစ်စေ။ အကြင်ငါး
သောကျွဲနွားတို့ခေါင်းအမြီးသခင်သို့မရောက်။သေသည်မှန်ကအသားအ
ရေတို့ကိုပေး။သေကြောင်း ကိုမတိုင်မကြားခေါင်းအမြီး အရေအသားမ
ရောက်ခြေက။ငါးဆိုရင်တိုင်းအခကိုပေးစေ။ ထိုကျွဲနွားကိုလယ်ယာထွန်
ပြီးလျှင်သခင်ရင်းသို့မပေး။နှစ်လည်တွင်မှပေးမူသည်ကား။ ငါးရင်းအခ
ငွေကိုဆိုလျှင်ထဘိုး။စပါးကိုဆိုလျှင်လည်းစပါးတဘိုးနှစ်နှစ်သီးတိုင်မှ။
အခကိုပေးလျှင်သုံးဆစားစေ။၎င်ထက်နှစ်များသည်ဟုမစားသာခြေ။ငါး
သောကျွဲနွားတို့ကို။ ထုံးစံရှိသည်တွင်သာထွန်ထိုက်စေ။ထုံးစံလွန်၍ထွန်
ထိုက်သော်နှစ်ဆငါးရင်းကတက်၍အခစားစေ။ပေးစေ။ ။ငါးရင်း
ကျွဲနွားနှစ်ခုဘင်တူချင်းတွင်တနေ့တခုချုံရှင် ကျွဲနွားကလဲ၍ငါးကျွဲနွားအ
စည်ဖက်ထွန် သော်လည်းအပြစ် မဆိုသာခြေအခဖြစ်ခြသည်။ ချင့်ထွန်
တင်၍ပခုံရောင်သော်။ ကုံပေါက်သော် မထွန်မတင်ရက်မျက် သည်မဆို

*24th. The law regarding the hiring of buffaloes or cattle.*

The law for hiring buffaloes, oxen, elephants, or horses, for the plough, the cart, or saddle. When any buffalo, ox, horse or elephant, is hired for the cart, plough, or carriage, (the appearance of) his hind or fore leg, his ear, eye, horn, tail, his age and size, should be noted, whether it be male or female; if the horns belong or short, the tusks large or small; if there be any part torn or broken off, any part broken and re-set, the price and time for which he is hired, should also be noted. The hird animal shall not be tied up where there are the small bunds of the paddy fields, holes or hollows. If he be so tied up, and die from the bite of a snake, or from falling into a hole, let compensation be made in the price fixed when he was hired, and the hire be paid up to the day of his death. If he be bitten by a snake when properly tied up in the usual way, there shall be no fine; let the skin, flesh, head and tail, be taken to the owner. He shall have no right to claim another in the place of the dead animal. Let the hire be reckoned and paid. If he be sick, let a report be made to the owner; if he do not come and see him, and he die, there is no blame; let him only have the flesh, skin, head and tail. If no report was made of the animal's sickness, and he died really from disease, there is no fault; let the skin, head and tail be given to the owner; and if the flesh has been eaten, let its price be reckoned and paid to him. If the hired buffalo or ox be not a good one for carriage or draught, let him be returned; and if another be given in his place, let the hirer only pay for the number of days' work actually done by the animal last given. If the owner refuse to change him, but give him back, telling the hirer to go on using him, and to break him in for carriage or draught, if he does get him to work, let him only pay for the jobs or days he shall work properly. If a buffalo or ox, hired to be trained, shall really die, though the head and tail be not taken to the owner, let him have the flesh and skin. If no report be made of the death, and the head, tail, skin and flesh be not brought to the owner of the animal, let him have the full amount of the hire originally agreed on. If the hired animal shall be returned a year after the cultivating season, let twice the amount of the hire originally agreed on be paid; if stipulated that paddy shall be paid, let paddy be given; if silver, let it be silver. If two years have elapsed, let three fold hire be paid. Hired buffaloes or oxen shall only be worked in the usual way. If they be worked more than is customary, let double the amount of hire originally agreed on be paid. If the hirer shall take one of his own cattle of equal strength with the one hired, and shall work them together daily, there shall be no blame attached to

သာခြေ။ချင့်အစေမတတ်၍ဖြစ်ခြေသည်။တိုက်ထွန်တင်ရာ။ပခုံးကုံးအနာ ရောက်၍ကြုံပိန်သော်။အစားတည်စေ။ အခကိုလည်းမဆုံးသာ။ဝှင်အနာ ကြောင့်သေသော်အစားတည်စေ။အဘိုးအခလည်းမဆုံးသာ။ချင့်ကျွဲနွား ကိုချည်ရာရုံး၍နွာဖား‌ဖြတ်အံ့။အပြစ်မရှိပြတ်ပိုင်စေ။ငှါးသူဆွဲငင်၍ဖြတ် ခြေလျှင်ကျွဲနွားအစားပေးစေ။ အခလည်းငှါးရင်းတိုင်းပေးစေ။ ဖျားနာ လျှင်အပ်စေ။ကျွဲနွားရှင်ကယူ၍ကုစားစေ။ အခမှာမနာမှီရက်လတွင်ရွေ့ ပေးစေ။ ငှါးရင်းကျွဲနွားအလျောက်ဖွေ့ပက်၍မျက်စိခြေလက်။ ကျိုးပျက် သေသော်ငှါးသူဝန်မဟုတ်။ခပ်သောကျွဲနွားရှင်တို့တာတည်း။

နွားမှာငှါးသူတို့ကြောင့်။ ဂျိုတချောင်းကျွတ်ကျိုးလျှင်ငွေတကျပ်နှစ် ချောင်းကျိုးသော်ငွေနှစ်ကျပ်။ နားတဖက်ပြတ်သော်နှစ်ဖက်ပြတ်သော်ဂျို နည်းတူဂျို နားနှစ်စုံကျိုးပျက်ခြေလျှင်။ အထက်ငှါးရင်း ကနွားအတိုင်း ဆပ်စေ။လက်ခြေကျိုးလည်းအစားဆပ်စေ။ မျက်စိနှစ်ဖက်ချင်နှင့်တံကျိုး သင့်၍ကမ်းလည်းအစားဆပ်စေ။ ချင့်အလျောက်မြွေဖြူတ်၍မျက်စိကမ်း မည်အပြစ်မရှိကြောင်းရာဠကျားကိုက်သော်အပြစ်မရှိ။လှောင်ရာချည်ရာ ကိုက်လည်းအပြစ်မရှိ။အသားအမြီးအရေခေါင်းရောက်စေ။ကျားရဲသော အရပ်မှာ ကျွဲနွားချည်လှောင်ရာက။ တတာနှစ်တာ။ လေးတာတွင်ပတ် လည်တိုင်စိုက်၍ထားရာ၏။ လင်လတ်တန်ကျိုးထားရာ၏။ ထိုသို့မထား သမျှချုံရှင်နွားထိန်းတို့သည်ပေါ့လျော့ရာကြ၍။ ကျားကိုက်သည်အဖြစ် ကြောင့်။ အထိန်းအမွေးစားရသောအစုကိုမစားစေနှင့်ချစေ။ ကောင်းမွန် စွာထိန်းကြောင်းပေလျှက်။ ငှါးသောကျွဲနွားကိုကျား ကိုက်၍ သေသော် ဥစ္စာရှင်အသားအရေရပစေ။ အခကိုငှါးသူကအကုံပေးစေ။ ဥစ္စာရှင်ကျွဲ နွားကိုလည်း။ ဤနည်းအတူကိုက်စားလျှင်။ ထွန်တိုက်သူက။ရက်ခသေ သည်နေ့တိုင်ရုံကိုတွက်၍အကုံပေးစေ။ ငှါးကျွဲမှာဂျိုတခြောင်းကျိုးသော် နှစ်ကျပ်။ နားရွက်တဖက်ပြတ်သော်ငွေနှစ်ကျပ်။ ဂျိုနှစ်ခြောင်းပြတ်ခြေ လျှင်။ နားရွက်နှစ်ဖက်ပြတ်မှမဆိုသာခြေ။ ကျွဲဖြစ်သည်ဂျိုအရှိန်ရှိသည် ကျွဲစားလည်းဟူ၏။ကျွဲကိုကျွဲရှင်ယူစေ။ တဝက်ဘိုးလည်းဟူ၏။ ဤကား ငှါးသူကြောင့်ဖြစ် သည်ကိုဆိုသတည်း။ တိရိစ္ဆာန်ချင်းမှာခတ်ဖွေ့သော်

this ; he pays for the labor (of the hired cattle.) If in working the shoulder shall be chafed or swell, the hirer shall have no right to claim deduction for days lost ; the accident was the result of his own ignorance in handling him. If from a sore on the shoulder or back, caused by working the ox, for draught or carriage, he shall become thin, let him be replaced by another, and let there be no dispute about paying his hire ; let it be paid. If the animal shall die from the effects of the sore, let him be replaced by another, and let the hire be paid. If the animal by starting whilst tied up shall tear out his nose string, there shall be no fault. If it be torn out by the hirer dragging him, let him replace the animal by another, and pay the full hire at first agreed on. If it fall sick, let it be returned, and let the owner receive it and administer medicine ; let only the hire for the time before it fell sick be paid. If hired cattle shall of their own accord butt or strike each other so that an eye is put out, a limb is broken, or one animal dies, it is not the affair of the hirer, but of the owner of the animal which does the damage.

If by any act of the hirer the horn of the ox shall be broken, or torn out, let him pay one tickal of silver ; if both, two tickals. If one or both ears are torn off, the fine is the same as for the horns. If both ears and horns are broken, let it be replaced by one as good as the animal hired. If a leg be broken, let it be replaced by another also ; or if both eyes are knocked out by the goad or driving rod, he shall also be replaced. If by chance the animal be blinded by a snake blowing in his eye, there is no blame ; nor if a tiger kill him when out at pasture with his keeper, nor if a tiger kill him whilst shut up in the pen, or tied up ; let the flesh and skin, tail and head, be given to the owner. If tigers are destructive in the district, it is proper to fix posts all around the pen, at the distance of one, two, or four tahs, and to stretch a rope with small flags attached between them. If this be not done, it is neglect on the part of the owner of the pen, and if a tiger should kill any of the cattle, let him forfeit his share of the increase. If hired cattle, though properly taken care of, are killed by a tiger, let the owner have the flesh and skin, and the full hire of the cattle. If the cattle of the hirer be also killed, let him reckon and pay the hire to the day the animal was killed. If the horn of a hired buffalo be broken, or an ear torn off, two tickals (shall be paid ;) if both horns be broken, there shall be no plea that both ears are not torn. It is a buffalo ;—his strength is in his horns. It is laid down that he shall be replaced by another. It is also said that the owner shall have his buffalo, and half his price, that is, when the injury is done by the hirer. If it be done by the brutes, of their own accord

ချင့်တို့တိရိစ္ဆာန်မှုချင်းခံစေ။မှိရကားငှါးသူကိုမတိသာ။ငှါးကျွဲနွားအမြီး
အဆနိကုံအောင်ငှါး သူတို့ခေါးတုတ်နှင့်တကြောင်ဖြတ်ခြေလျှင်။တဝက်
ဘိုးပေးစေ။အခလည်းပေးစေ။ ဖင်ငှါးသောကျွဲနွားတို့ကိုညည့်အခါသူခိုး
၏မရသော်တဝက်ဘိုးနွားရှင်သို့ငှါးသူကပေးစေ။ ခိုးသည်နေ့တိုင်အောင်
အခကိုလည်းတွက်၍ပေးစေ။ဤကားငှါးသူနှင့်မကျွာအရင်း အန္တိးရှိသည်
တွင်သာတည်း။ငှါးကျွဲနွားကိုအဝေးထား၍။ မစောင့်မရှောက်ခြေကတံ
ဘိုးပေးစေ။ ။နေ့တည်လူခိုးသော်အကုံအစားထည့်စေ။ထိုသို့ခိုးရာ
ချုံရှင်ကျွဲနွားပါသော်အပြစ်မရှိ။ သူခိုးရာနောက်ရသော်ကျွဲနွားကိုကျွဲနွား
ရှင်ယူစေ။ ခိုးသူအပြစ်မှာအလျော်စုတွင်အညီ အမျှစားပစေ။ အဘယ်
ကြောင့်နည်းဟူမူကား။အရင်တည်နှင့်ရလေသောအကြောင်းတည်း။ကျွဲ
နွားအရင်ရပေမူစိုက်လျော်နှင့်ရသောအစားကိုပြန်၍ရပစေ။ မြင်းအစီး
အတင်။ဆင် အစီးအတင်အထွန်အတိုက်ငှါးရာမှာ။ မြင်းဆင်ကိုစီးနင်းရိုး
တွင်မစီးပမာနမခန့်စီးနင်း၍ သေသော်အစားတည်စေ။ အစားဟူသည်
ကားငှါးရင်းကအဘိုးပြတ်သည်ကိုဆိုသတည်း။တယောက်စီးသောမြင်း
ကိုနှစ်ယောက်စီး၍ သေသော် ကျိုးသော်မြင်း စားလည်းပေးစေ။ စီးခမှာ
လည်းနှစ်ယောက်ခပေးစေ။ ဆင်မှာလည်းဦးစီးပဲ့နင်း ရှိလေသည်။သည်
ထက်လွန်၍စီးသော်စီးသည်မှန်သမျှလူအတွက်ပေးစေ။သေလည်းအစား
ပြတ်ရင်းအတိုင်းပေးစေ။ဆင်မြင်းအားနှင့်တန်ရာတိုက်တင်သည်မက။အ
လွန်အကြူးတင်၍။ကျိုးပြတ်သေခြေသော် အစားတည်စေ။ အခကိုလည်း
လွန်သည်အပါနှစ်ဆတက်ပေးစေ။ပျက်သောဆင်မြင်း တို့ကိုလျော် ရသူက
ယူစေ။ဆင်မြင်းနာဖျားလျှင်အရှင်နီးကကြားမြင်စေ။ကြားမြင်ရကအပြစ်
မရှိသေပိုင်စေ။အခကိုဖျားနာသေသည်နေ့ရက်တိုင်တွက်၍ပေးစေ။ ။
ခရီးဝေးဖြစ်၍မကြားနိုင်။နာဖျားသေလျှင် ထိုရွာထိုတောတို့တွင်အဖော်
အဆက်သဖဲသွေးသောက်။အိုးစားတို့ကိုတိုင်တန်ပြည့်နှံ၍သိလျှင်အပြစ်
မရှိအခတို့ကိုတွက်၍ပေးစေ။မြင်းမှာအမြီးအရှင်သို့ရောက်စေ။ဆင်မှာအ
စွယ်အရှင်သို့ရောက်စေ။မြင်းအမြီးမှန်လျှင်သေပိုင်စေ။ အမြီးမဟုတ်ခြေ
လျှင်သူပြစ်လက္ခဏာဖြစ်ခြေသည်။ တစီးကိုနှစ်စီးတန်ရင်းအဘိုးအတိုင်း
ပေးစေ။ နောက်ထိုမြင်းပေါ်လည်းမြင်းရှင်ရစေ။ ဆင်အစွယ် မှာရှည်တို
ကြီးငယ်အတိုင်းရှိပြီ။ ရက်နှင့်ထောက်၍ရှည်ကြီးရာ၏။ မတိုမငယ်ရာ။

butting each other, it is said the brute shall bear the blame and not the hirer. If the hair be all taken off the tail of a hired buffalo or ox by the knife or driving rod of the hirer, let him pay half the price of the animal, and the whole hire. If a hired buffalo or ox be stolen in the night and not be recovered, let the hirer pay the owner one half his price and hire to the day he was stolen; that is, when the cattle are kept near the hirer; if kept at a distance and not watched, let the full price be paid. If it be stolen in the day, let restitution be made in full. In these cases, if the cattle of the owner of the pen be also stolen, there is no fault. If the cattle are afterwards recovered, let the owner of each take his own and have one half of the fine levied on the thief. Why is this?—because both had a share (in the lost cattle.) If cattle stolen as above be recovered, let the hirer recover back the price he had paid to their owner. When horses or elephants are hired for the saddle, the pack, the plough, or the cart, and are not worked as usual, but beyond their power, and shall die, let them be replaced; that is, let the price fixed at the time of hiring be paid. If two people shall ride a horse, only one ought to ride, and he die or have a limb broken, let them replace him and both pay the hire. With an elephant, if beyond the one rider on his head and and one behind, any shall mount, let the hire for each such rider be paid; and if the animal die, let the price fixed at hiring be paid. If a burthen or draught be put on a horse or elephant beyond his strength, and he have a limb broken, be destroyed, or die, let him be replaced, and let double hire be paid for all beyond the proper load; let the payer of the fine have the destroyed animal. If a hired horse or elephant be sick, and the owner be at hand, let him be acquainted with the fact. If he has seen and known it, the hirer is not in fault; let the animal die, and let him pay the hire to the day he was taken ill. If it be at a distance from the owner, and he cannot be informed of it, and the animal dies from illness, if the hirer has reported that the animal was ill, in the country or in the village, and shown it to his companions, the head of his company, the Thoethouk, or those who eat of the same pot of rice with him, he shall not be held in fault, let the hire be reckoned and paid. If it be a horse, let the tail, and if an elephant the tusks be taken to the owner. If it be really the tail of the horse, let him die; if it be not, it is the act of a bad man; let the hirer pay double the price originally agreed on; and if the horse should afterwards be discovered, the owner shall have him. As regards the tusks of the elephant, the length and thickness have been noted. In proportion to the length of time they should be longer and thicker, they cannot become shorter or smaller. If they be found

တိုငယ်မှန်ခြေလျှင်ပြုပြင်ခြေသည်။တစီးကိုနှစ်စီးထားရင်းအဘိုးအတိုင်း
ပေးစေ။ နွှာင်ပေါ်လျှင်လည်းဆင်ရှင်ကယူစေ။ မျက်စိအစွယ်နှာမောင်း
နားအမြီးပျက်သော်။တိရိစ္ဆာန်ချင်းမဟုတ်ချင်းရိုက်နှက်ရာဖြစ်ကအစား
တည်စေ။အခလည်းပေးစေ။ တိရိစ္ဆာန်ချင်းဖြစ်လျှင်ဌါးသူဍ္ဍအပြစ်မရှိ။တိ
ရိစ္ဆာန်ရှင်ဝန်မကင်း။ ကျွဲနွားအမှုကဆိုခဲ့သည်တရားရင်းအတိုင်းတည်
စေ။ဆင်ကိုချည်သိပ်ရာ။ မြေညီတွင်မချည်သာ။ တောင်ပို့ကသင်းရှိက။
ချည်ရာ၏။ ငုင်မရှိကခေါင်းအုံးရန်ပေးရာ၏။ ထိုသို့မပေးမချည်တံအရပ်
မှာကုံနံလံ၍သေသော်။ အစားပေးစေ။ ဆိုခဲ့ပြီးသည်အတိုင်း ဖြစ်၍သေ
သော်အပြစ်မရှိ။

အရှင်ရှိလျှက်မထိန်းမသိမ်းကျွဲနွားမြင်းဆင်ဆိပ်ဝက်ကျက်တို့သည်။
လယ်ယာ စည်းစောင်ရန်းအကာရှိလျှက်။ ဝင်စားရာ ထိုးပြစ်သေသော်
လည်းအပြစ်မရှိ။နေ့ညည့်မဟူရာသတည်း။အရှင်ရှိလျှက်။မထိန်းမသိမ်း
စည်းစောင်ရန်းမရှိထိုးပြစ်၍သေသော်အစားတည်စေ။ မသေနာကမ်းကျိုး
လျှင်ကုမစေ။ကုမသည်အခိုက်ငကျွဲနွား။ငမြင်းဆင်။ ငဆိပ်ဝက်ရက်ခွန်
လစုရှိသည်မဆိုရာ။ချင့်တို့မထိန်ခြေသောကြောင့်တည်း။အနာကုမလွှတ်
လျှင်သခင်တို့ကသိမ်းစေ။ စပါးပြောင်း ပဲရာနက် လယ်နက်ကပျက်သည်
မှန် ရာကိုအစားပေးစေ။ဤကားဆင်းရဲသားချင်းတွင်၍သာဆို သတည်း။
အရှင်မင်းဧကရာဇ်ကျွဲနွားမြင်းဆင်ဆိပ်ဝက်ကျက်မှစ၍ ဖြစ်သော်လည်း
ကောင်း။အရှင်မိဖုရား။သားတော်သမီးတော်။ အိမ်ရှေ့ဥပရာဇာတို့ဘဏ္ဍာ
ဖြစ်ခြင်လျှင်။အပြစ်ကိုမဆင်ခြင်နိုင်ရာလည်းဟူ၏။ ဆင်ခြင်ရာလည်းဟူ
၏။အရှင်စိုးမင်းဘဏ္ဍာမသိ၍မှားသေအံ့။အရှင်မိဖုရားမှန်မသိ၍။သူတ
ပါးမှားမိအံ့။အပြစ်မရှိဟူသတည်း။ ထိုကြောင့်မင်းမိဖုရားသားတော်သမီး
တော်အိမ်ရှေ့ဥပရာဇာတို့သည်။ ကိုယ်ကိုရုပ်ဖျောက်မသိစေမူ မပြုအပ်
သည်ကိုဘုရားအဆူဆူဟောတော်မူသည်။မရှိုမဌက်တံ။ရှိုဌက်ခြေ၍ဆုံး
ရှုံးသည်အများရှိသည်။မင်းကြီးထိုကြောင့်အရှင်ဘဏ္ဍာဆင်မြင်းကျွဲနွား
အသက်ရှိသရွေ့မှာသိအောင်မှတ်ရခြေသည်။သက်မဲ့လျှေ လှည်းဘောင်။
သဘေ်ာ။မြို့ပြ။ ကျောင်းဇရပ်။ ရေကန်မှစ၍။ မင်းဘဏ္ဍာမှန်းသိသာ
အောင်။တံဆိပ်မှတ်ကွက်ရာသည်။သတိမလျော့ရာ။ထိုခဲ့သို့မှတ်လျှက်ကို
ပြုသူသည်။ဆင်းရဲသားတို့အလျှော်တွင်ဆယ်တက်လျှော်စေ။ ရာလယ်အ
ပျက်ကိုလည်း။မင်းဧကရာဇ်ပင်ဖြစ်သော်လည်း။လျှော်ပေအပ်၏။ သို့မှမြီ
မပါသည်။ မင်းဧကရာဇ်တို့သည်ကျွန်မယားကိုပြစ်မှား သော်လည်းအ

so, the hirer has committed a deception; let him pay double the price originally agreed on; and if the elephant be afterwards found, let the owner have him. If his eye, his tusk, his trunk, his ear or tail, be blinded or broken; if it be not the act of another animal, but from the blows of the hirer, let him replace the elephant and pay full hire. If it be the act of another animal, no blame is to be attached to the hirer; the owner of the animal doing the injury is not free from blame; let him pay as is laid down in the law on this subject. An elephant must not be tied on level ground, but where there is a small hillock or dyke. If there be neither of these, he must be furnished with a pillow. If he be not, and die in a place he ought not to have been tied in, let him be replaced. If he has what has been above stated, there is no fault.

If buffaloes, oxen, elephants, horses, goats, pigs, or fowls, the property of an owner who does not take care of them, shall trespass in a garden or field having a fence round, and they are speared or shot in the act, there is no fault, whether it be in the day or night; the owner is present and does not take care of them. If there be no fence, let them be replaced. If they do not die, but are hurt, blinded, or have a limb broken, let the offender see to their cure, and during the time they are under cure, let the owner have no claim for remuneration for lost time; he did not take care of his cattle. If the animal recover, let the owner have him back aud pay the damage done by the trespass. This is only said amongst people of low degree. If they be the the buffalo, ox, horse, elephant, goat, pig, or fowl of the king, queen, princes or princesses, it has been laid down that it cannot be tried. It has also been said that it can. If an animal belonging to the king shall be killed by mistake, not knowing him to be the property of the king, as it is said, if a person have connection with the queen not knowing who she is, there is no fault (beyond the fault in common people;) on this account the queen, heir apparent, princes and princesses, shall do nothing in disguise. All the gods have said that there has been great and frequent loss from disguising and concealing what ought not to be so; and for this reason oh king; the property of kings, horses, elephants, buffaloes, oxen, all animate, and boats, carts, barges, ships, cities, convents, zayats, with all inanimate property, should be marked that they may be known. If property so marked be killed or destroyed, let the offender make restitution to ten times the amount usual amongst common people. If trespass be committed in a field or garden, though (the animals be the property) of the king, compensation should be paid, and in that case he shall escape punishment in the next state of

လျှော်မရှိသည်ကို။ ဒိပင်္ကရာ ဘုရားရှင်လက်ထက်တော် ကမ္ဘာတွင်ရှင်ရ
သော့စီရင်သည်။ဆင်းရဲသားတို့သို့မင်းဘဏ္ဍာမထိစေရ။ မင်းဘဏ္ဍာသို့
လည်း။ဆင်းရဲသားတို့မထိစေရမှ။သင်္ဂဟာဝတ္ထုအကြောင်းလေးပါးနှင့်ညီ
မည်ဟုမြွက်ဆိုမင်း၏။သားရင်းဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်
မူ၏။

## ၂၅ ။လှည်းငှါးသောတရား။

လှည်းလို၍ငှါးသည်ကာလနှစ်ဦးသားအမြင့်အရှည်အတိုင်း။လှည်း
သံလှည်းအိမ်။ ဝင်ရိုးထံဘိုးမတောင်းခွေပတောင်းလှည်းထုပ်လက်ရမ်း
လက်တင်လှည်အိရိယာမှန်သမျှအခိုင်အခန့်အကွဲအရှကိုကြည့်၍ ခရီးအ
ဝေးအနီးဆို၍အခပြတ်ငှါးရာ၏။ ထိုသို့ငှါးရာမည်သည်ဝန်ကိုမည်မျှနိုင်
မည်။ ခရီးတောင်ကမ်းကျပ်မြောင်းကြောက်ခက်တန်သောခရီးပြပြော၍
ငှါးရာသည်။ထိုသို့ဆိုတိုင်းသိထင်ကြ၍။ငှါးသောလှည်းထိုအရပ်သို့သွား
သော်လည်း။ သွားမြဲတိုင်းမနှင်ဘဲလာကန့်လန့်ချင်ကျွဲနွားတက်သွားရာ
ကွဲရှပျက်စီးခြေသော်ပျက်သမျှကိုငှါးသူကအစားတည်စေ။ လှည်းငှါးသူ
၏ ကျွဲနွားနှင့်လှည်းရှင်မောင်းနှင်ရာ။ကျိုးပျက်ကွဲရှသော်ငှါးသူဝန်ကင်း
စေ။လှည်းရှင်တာဝန်ဖြစ်စေ။ငှင်ငှါးသည် အခမှာထိုက်ရာသမျှခရီးအင်
ကိုထောက်၍ပေးစေရစေ။

လှည်းကျွဲနွားရှင်တို့သည်ဘဏ္ဍာဥစ္စာကိုတိုက်မည် အခပြတ်၍တိုက်
ရာပျက်စီးသေလည်းအပြစ်မရှိ။ အခဆိုတိုင်းလည်းပေးစေ။တိုက်မည်ဝန်
ခံသည်အတိုင်းလည်းတိုက်စေ။

အခကိုယူ၍တိုက် မည်ဆိုတိုင်း မတိုက် ဇင့်နွှဲးလျှင် တိုက်ခမရသာ။
ပေးရင်းယူရင်းအခကိုပြန်ပေးစေ။သို့ကားဆိုတုံ၏။အခစားတိုက်သောသူ
တွင်။ကျွဲနွားသေပျောက်၍လှည်းကွဲရှ၍မတိုက်နိုင်ပါဆိုသည်အတိုင်းမှန်
က။တိုက်မိသည်အခကိုတွက်၍ပေးစေယူစေ။ အပြစ်မရှိရာ။သစ္စာမှန်ပါ
ပေလျက်အခြေပျက်ခြေသောကြောင့်တည်း။

လှည်းရှင်အလျောက်တင်၍ငှါးသောဝန်သွား ရာပြောက်ခြေလျှင်အ
စားတည်စေ။မုဒိန္နတိုက်၍။ ချင့်ကျွဲနွားနှင့်တကွပါ၍ပျက်လျှင်ပျက်ပိုင်
စေ။အစားမရရာ။ ကျွဲနွားမပါလှည်းပေါ်တွင် တင်သောဝတ္ထု တွင်သာ
တိုက်ယူသည်။ မုဒိန်ခါးပြတိုက်သည်ကိုထိုအရပ်တွင်သိထင်ကအစား
မရရာလွတ်စေ။ညည့်တည်းခိုးမှုအစားလျော်စေ။ မခိုးသည်ကိုခိုးခဲ့သည်

existence. It has been decided by the sage recluse in the world in which the god Depenkara had his existence, that if the king commit adultery with the wife of his slave, there is no fault. The king's property shall not touch the common people, and if the common people do not touch the king's property, the four laws* of Thengawootoo will be fulfilled. This Menoo, the sage recluse, the son of the king of Bymahs, said.

*25th. The law regarding the hiring of carts.*

When a cart is hired and both parties present, the length of the double pole that rests on the axletree, the body of the cart, the axletree, the yoke the (padaun-koe) wedges of the bush of the wheel, the (padaun) bush itself, the (hlay-tauk) bar across the inner end of the double pole on which the body of the cart rests, the (let-yam) little platform in front of the cart; the (let-ten) rails of the same, and every thing belonging to the cart, are to be looked to, if they be strong and perfect, or broken or cracked; the distance to be travelled should be stated; the amount of hire, and what weight is to be put on the cart; how much it can bear, should be settled; the nature of the road, if there be hills or banks, or sticking clay, trenches or stones. Having settled this, let them make their bargain. After all this is known, though the cart shall go the road agreed on, if it be drawn in an unusual manner crossing the usual track, or if it shall be broken or cracked from the cattle not being broken, let the hirer make good all damage done. If the owner of the cart shall drive the cattle of the hirer and the cart be broken, the hirer shall be held free of blame. The owner of the cart shall be responsible, and let the hirer only pay hire for the portion of the journey done or work accomplished.

If a cart, buffaloes or bullock, and the owner be hired to cart goods, and if after the hire is agreed on in carting the goods the cart is broken, or the cattle die, there is no blame to the hirer; let the stipulated hire be paid, and the work agreed on be done.

If a carter having received his hire does not cart the goods agreed on, or does the work with dilitoriness, he shall not have his hire, and shall return what he has received, though this is said if the cattle have died, or the cart been broken, and he urge this as a plea for not having finished his work in time; let him be paid for what he has done; he shall not be held in fault; he was true to his engagement, but had not the power to fulfil it.

If the goods agreed to be carted be put on the cart by the carter of his own accord, and are lost by the way, let him make it good. If he be attacked by robbers, and his cart and cattle as well as the goods be carried off, he shall not make restitution; let them be lost. If the cattle be not taken, but only what

*The 4 la[ws] … taking neit[her] more nor le[ss] … 10 per ct. … for duty;— … paying the servants … for their s… ence once … months;— … making ad… to poor … free of in… for three ye[ars] … using cou[rteous] and appr[opriate] language … ing to the … rank of the … addressed.

ဆို၍နေ၁င်မိစစ်ရာတွင်။ မခိုးမှန်ခြေက။ ဥစ္စာမျိုးအလိုက်အတက်လျော်စေ။ခ၁းပြမှာလည်းနည်းတူစီရင်။ ။လှည်းငှါးတရားပြီး၏။

၂၆ ။လှေငှါးသောတရား။

လှေငှါးတရားကား။ လှေနံလှေလျှားလောင်းစပ်တင်ပိန် ကောမ။ နှစ်လုံးနိုင်တလုံးနိုင်တက်ရွက်ကျိုးတိုင်း ဦးပဲ့အထေအဗာ အသစ်အဟောင်းကိုမှတ်သား၍လှေရှင်နှင့်ငှါးသူစုံရာတွ့မြောက်ဆိုရာ၏။ခရီးရှည်တိုသွားဆုမ်း။အရပ်ဝေး။ အရပ်နီးနေ့ရက်လအချိန်အထောက်နှင့်ချင့်၍အသိအထင်ငှါးရာ၏။ ထိုသို့ငှါးသွားရာ။ပကတိစုံရာဆန်ရာ၌။ သစ်ငုတ်တဆုန်ဝဲကြောင့်လှေပျက်ခြေလျှင်လှေစားကောင်းမွှန်အောင်လုတ်၍ ပေးစေ။ထိုသို့မဟုတ်ရေမိုဃ်မသာလေပြင်းစွာခက် ထယော်မဆီးမဆ နိုင်ပျက်၍ဆုမ်းလျှင်ထိုနေ့အဖော်လှေမပျက်က။တဝက်အဘိုးပေးစေ။သည်ကား။ လှေကိုအကောင်းမရအပျက်အစီးကြီးဘည်ကိုဆိုသတည်း။ ။ထေးဗာ၍ကောင်းလောက်လျှင် ထေးဗာ၍လှေကိုအပ်စေ။လှေရှင် လှေကိုသိမ်စေ။လှေမပျက်မှီလရက်ပြတ် ဆိုကြအတိုင်းတွက်၍ပေးစေ။ လေရိုး လာရာတွင်။ရွက်တိုင်ရွက်လက်တက်မမခိုင်၍ပျက်စီးကျိုးဒ်ခ့။ ငှါသောအခါတွင်ရောက်ထောက်သောလေကြောင့်လှေရက်ရှည်လေသည်။ ထိုးခက်ဆွဲငင်လာရလေသည်လေမမှိရက်ကိုတွက်၍အဘိုး အခလွတ်စေ။ဆိုသည်ခရီးကြောင်းမတော်ရာသွားမိ၍ပျက်ခြေသော်။ ငှါးရင်းကလှေအတိုင်အစားလုပ်၍ပေးစေ။လှေဟောင်းကိုပြင်လုပ်မေးရကောင်းသည်မဆိုသာ။အခမှါလည်းတိုးပွားသွားသည်ရက် ဃရှိရာအတိုင်းပေးစေ။ အကြင်လှေကိုစီးနင်းသွားရာမခိုက်မတိုက်ပေါက်ပြဲအဆေး အဗာမလုံအကွပ်အညှပ်ပျက်စီး၍တက်မလည်းကောင်း။ လှေတွင်ပါသမျှကျိုးထိုးဝါး။ ရွက်တိုင်ရွက်လက်မကောင်းမခိုင်းပျက်စီး၍အသစ် ထေးဗာလုတ်ရသည်မှန်သမျှ။ အဟောင်းပျက်သည်ကိုလည်းလှေရှင်သို့အပ်စေ။ အသစ်ကုံကျ ရသည်တံဆာအဘိုးဇရိပ်ကိုလည်းလှေရှင်ကစီးသူသို့ပေးစေ။

was on the cart, if it be known in the neighbourhood that robbers did attack him, he shall not make restitution; let him be free. If they be stolen in the day time, he shall make them good. If he shall say they have been taken, when they have not, and it be proved on inquiry that they have not been stolen, let him restore double of the same kind of goods. The rule is the same as regards robbers. This is the end of the law regarding the hiring of carts.

*26th. The law regarding the hiring of boats.*

When a boat is hired, the owner of the boat and the person hiring shall note in the presence of witnesses. If it be a *laung*, (small canoe without side boards;) a *tsat-teng*, (a boat with side boards;) a *peng-gau-ma*, (a kind of rough hewn boat,) that one or two can pull; the oars, the sails, the ropes, the masts, the head, the stern, dammering or repairs, and whether it be old or new; they shall declare as to the journey, whether it be long or short, when it shall end, whether at a distance or near the place of hiring; and having estimated the time, let the boat be hired. If in performing the journey in the usual way, in ascending or descending the stream the boat be injured by a snag or whirlpool, let the hirer replace it. If this be not the case, but from stormy weather the hirer be unable to manage it, and the boat be lost or destroyed; if on the same day the boats in company be not destroyed, let him pay half the price of it; that is, when the boat is not repairable; if it be so, let it be repaired and returned to the owner, and let him receive it back, and the hire agreed on shall be paid up to the time the boat was destroyed or damaged. If in a common breeze the masts, yards or helm, not being strong, shall break, having considered the prevailing winds at the time, whether the voyage has been prolonged by the necessity of rowing, poling, or dragging the boat, let the days the hirer could not take advantage of the winds be reckoned, and let him not pay for them any hire. If happening to go out of the proper track the boat is injured, let the hirer make a boat like the one hired, and give it to the owner. He shall not claim a right to repair and return the old one. Let him also pay hire for all delay beyond the time agreed on. In voyaging in a boat, if it shall spring a leak without striking any thing from the insufficiency of the dammering or repairs, if any of the fastenings are destroyed, the helm, or any of the ropes, masts or yards, shall break, being bad or weak, let them be made over to the owner of the boat, and let him pay the hirer all the expenses incurred in consequence of the breakage.

လှေကိုငှါး၍စီး မည်သိမ်ပြီးမှမသွားမစီး ဖြစ်ပြီလှေရှင်သို့အပ်လျှင်။ ဆယ်ရက်မလွန်သမျှတလခတွင်တဝက်ဆုမ်စေ။ ကျန်သည်ကိုပြန်၍ပေးစေ။ဆယ်ရက်လွန်၍တလနှစ်လတိုင်လျှင်။ လပြတ်ဆိုရင်ရှိကမသွားဖြစ်သော်လည်းလရှိသည်အတိုင်းလှေခကိုပေးစေ။ လှေကိုလှေရှင်သို့အပ်စေယူစေ။လရက်မဆိုအမည်သညာနှင့်ဆို၍အဘိုးအခပေးပြေအံ့။ မသွားမစီးဖြစ်လျှင်ဆယ်ရက်ကိုး ရက်မဆိုတဝက်ဆုံမ်းစေ။ လှေရှင်လှေကိုယူစေ။ ။ငှါးစီးသူကငွေကိုပေး၍။လှေရှင်ကလှေရင်းကိုမရလျှင်။ လှေစားပေးစေ။ လှေစားလည်းမပေးလှေရင်းလည်း မရကအသွင်းကိုမည်မျှနေ့မဆိုထဘိုးပြန်စေ။နှစ်လည်လည်တဘိုးပင်တဉ်း။လှေစီးနင်းရာပျောက်သော်လှေစားပေးစေ။ရောင်း၍စားခြေသော်နှစ်ဆတက်ပေးစေ။ အရှင်မိုးမင်းကောက်သိမ်းယူသည်မှန်လျှင်။ ကောက်သိမ်းယူသူကိုစီးငှါးသူပြစေ။ မှန်လျှင်စီးငှါးသူ၌အပြစ်မရှိ။ လှေရှင်ကံရှိစေ။ အရှင်မိုးမင်းမသိမ်းမယူသည်ကိုသိမ်းယူသဉ်ဆို၍ ရောင်းစားကဲ့ဖှက်ဖျောက်ဖျက်ခြေလျှင်ငါးဆတက်လျော်စေ။မင်းကိုမှီ၍ဆိုခြေသောကြောင့်တဉ်း။စီးနင်းသွားရာ။ဥစ္စါမပါလှေချည်းတွင်မီးလောင်လျှင်လှေဘိုးအလုံပေးစေ။ ၎င်မှာလည်းချင့်လှေချဉ်းတွင်လောင်သည်ကိုဆိုသတည်း။ သူတပါးလှေပါဆိုက်ရာ။မြို့ရွာမီးသင့်ရာ။လေပြင်းလာ၍။တောမီးစီးနင်းသွားရာလွှဲပါလျှက်မီးဟုန်စွဲ၍ကျလောင်လျှင်ကံကိုရှုံးစေ။အစားမရသာ။ဤသို့ငှါးရာသွားရာအလုံစုံ။အခန်းခန်း၌ဆိုခဲ့သမျှနှင့်။အမှုမျိုးကိုစိစစ်၍စီရင်မှသာ။ သင်္ဂဟဝတ္ထုလေးပါးသို့လည်းဝင်သည်။ ကမ္ဘာတည်စည်ထားသောက မ္ဘာအဆက် ဆက်မကွယ်မပျောက်နိုင်ရာသော။ ဓမ္မသတ်နှင့်ညီမည်သည် ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။ ။မနူကြယ်ဓမ္မသတ်ဒုတိယတွဲကားပြီ၏။

Having hired a boat and taken charge of it, if the voyage cannot be performed, and it is returned to the owner within ten days, let the hirer lose half a month's hire, and let the owner pay back the rest. If it be beyond ten days, a month or two, and there be an original agreement as to time, even though the hirer should not be able to perform the voyage, let him pay the hire; let the boat be returned to the owner, and let him receive it. If there be no agreement as to time, but the whole hire for the job be advanced, if the hirer cannot go, without reference to nine or ten days, let half the hire be forfeited, and let the boat be returned to the owner. If, after the money has been paid the owner cannot furnish the boat agreed on, let him give another; if he do not, and cannot procure the original one, let him, without reference to time, restore double the sum advanced; even if a year has elapsed, nothing more than double shall be refunded. If during the trip the boat be lost, let the hirer replace it. If he sell it, let him pay double. If the chief has really taken it away, let the hirer point out the person, and if it be proved true he shall not be held in fault; it is the bad luck of the owner. If the chief has not taken possession of it, and the hirer shall say that he has, when he himself has sold, concealed or destroyed it, let him pay five times its value, because he tried to shield himself under the name of the chief. If on the voyage the boat be burned, and none of the goods, let the hirer pay the full value of the boat; that is, when it is the only boat burned. But if the boats of others are also burned at the halting place, the town or village being on fire, and the wind high; or if the jungle was on fire, and the hirer shifted his berth to get out of the way, and it was burned by flakes of fire falling on it, let it be considered the fortune of the owner; he shall not have it replaced. In cases of hiring and travelling, if they be inquired into and decided according to what has been laid down under each head, the four laws of Thenga-wootta will be fulfilled, and the laws of the Damathat which were first established at the beginning of the worlds, and which through all succeeding worlds cannot be lost, will also be fulfilled. Thus Menoo, the sage recluse, hath said.

END OF THE SECOND VOLUME OF THE DAMATHAT MENOO-KYEA.

။မနုအကြယ်တတိယျှတွဲ။

နမောတဿဘဂဝတောအရဟတောသမ္မာသမ္ဗုဒ္ဓဿ။

။မာတိကာ။

မနုအကြယ်အမြစ်တရားတဆယ်ရှစ်ခဏ်းကစ၍။ ဌာဝရလေးပါး။ မူလငါးပါး။ ။

၁ မြီးရှင်အားနည်းမြီးစားအားရှိမြီးစကားတပါး။

၂ မြီးစားအားနည်းမြီးရှင်အားရှိမြီးစကားတပါး။

၃ မြီးကြောင့်လူကိုအပိုင်အဖိုးပြတ်၍သွင်းသောစကားတပါး။

၄ မိုဃ်းမြေလယ်ယာဥယည်တို့ကိုအဖိုးပြတ်၍မြီးနှင့်ဝယ်ရာမပိုင်ရာသောစကားတပါး။

၅ မြီးနှင့်ဥယည်လယ်ယာကိုဝယ်ရာ၌ပိုင်သောစကားတပါး။

၆ မြီးကြောင့်အချားဥစ္စာကိုအဘိုးပြတ်၍သွင်းလျှင်။ပိုင်ရာသောတရားတပါး။

၇ မြီးဆပ်သူကိုမဆပ်ဆိုသောတရားတပါး။

၈ မြီးချေလျှက်ကိုမချေဆိုသောတရားတပါး။

၉ မြီးရှင်မြီးစားနှစ်ဦးညင်းခုံကြသောစကားတပါး။

၁၀ အလောင်အတည်စကားတပါး။

၁၁ အဘေးဆုံးအဘေးမဆုံးစကားတပါး။

၁၂ စည်ချိန်ခွင်ပြန်စကားတပါး။

၁၃ စည်ချိန်မပြန်စကားတပါး။

၁၄ ကျေးမျိုးချေယူသောစကားတပါး။

၁၅ စပါးမယောပြောင်းပဲချေယူသောစကားတပါး။

၁၆ သက်မဲ့ကိုလက်လှယ်ဆပ်ခြေသောစကားတပါး။

၁၇ သက်ရှိသက်မဲ့ကုံကို။အဖိုးပြတ်၍ချိုးနိုချက်ဆိုရာစေ့၍။မပေးပြီဆိုရောက်သောစကားတပါး။

၁၈ ခေါက်ပြန် အရောက် ချေသူရောင်း စားသော စကား တွင်မြီးသို့ရောက်တပါး။

၁၉ မြီးစားကမြီးရှင်ကိုလှည့်ပတ်ချင်းချောက်ပါး။

THE THIRD VOLUME OF THE

# GREAT WORK OF MENOO.

*I worship the god who is worthy of homage, who possesses an intuitive knowledge of good.*

CONTENTS.

The third volume of the large work of Menoo commences with the 18 roots, and contains the four unchangeable and the five original laws.

1. When the lender of silver is poor and the borrower rich.
2. The law when the borrower is weak and the lender powerful.
3. The law when a man is valued and paid over as part payment.
4. The law why a person receiving lands, wet or dry, cultivated fields, garden, which have been valued, in payment of a debt, shall not have a right to them.
5. The law when he may have a right to then when so paid over.
6. The law when other property is valued and handed over in payment of a debt.
7. The law when a debt has been paid and payment denied.
8. The law when a debt is incurred and denied.
9. The law when borrower and lender dispute.
10. One word regarding bets.
11. The law regarding debt when the parties are descended of a common great-grand-father, or when they are not.
12. The law when there is new transaction when the gold or silver is weighed out again.
13. The law when it is not weighed out afresh.
14. The law regarding borrowing all kinds of copper.
15. One law regarding borrowing grain.
16. One law regarding borrowing inanimate property for a hands turn.
17. One law when merchandize, animate or inanimate, ordered but not delivered at the time agreed on, takes the nature of a debt, or money lent.
18. One law when (merchandize) sold to be paid for on return, takes the nature of money lent.
19. The law regarding the six ways in which debtors deceive their creditors.

၂၀ မြီးရှင်ကမြီးစားကိုလှည့်ပတ်ချင်းချောက်ပါး။

၂၁ မြီးရှင်နှင့်မြီးစားတိုင်ပင်၍အချား မြီးရှင်တို့ကိုလှည့် ပတ်ချင်းသုံးပါး။

၂၂ မြီးစပါးကြောင့်နွားကိုကိုင်ချင်းတပါး။

၂၃ ဆင်မြင်းကျွဲနွားချေသည်တပါး။

၂၄ စပါးကိုငွေပေးမည်ယူချင်းတပါး။

၂၅ မြီးချေးသောခါအများ ချေးသည်ကိုအချို ကျင်းသူဆပ်ချင်းတပါး။

၂၆ မြီးချေးရာစာရင်းမပါအတူပါသူဆပ်ရချင်းတပါး။

၂၇ မြီးကိုလူအများချေးရာမဆပ်သင့် ဆပ်သင့်နှစ်ပါး။

၂၈ ရဟန်းသုမယားကိုအသိချေးမြီးတပါး။

၂၉ လင်ကုံသွားသည်စစ်သွားသည်အခိုက်မယားချေး၊မြီးတပါး။

၃၀ လင်ချေးစားသည်မယားမသိကဆပ်ရာမဆပ်မြီးနှစ်ပါး။

၃၁ မယားချေးစားသည်ကိုလင်မသိ၊ ဆပ်ရာမဆပ်ရာသောမြီးနှစ်ပါး။

၃၂ ရင်လင်၊ရင်မယားကျက်တိုက်အံခတ်လောင်းတမ်းကြရာ၊ သေရည်သေရက်သောက်ကြူးကြရာတင်ချင်းမြီးသုံးပါး။

၃၃ သားသို့မြေးတို့မှာ၊ရင်မြီးကိုဆပ်သင့်မဆပ်သင့်မြီးသုံးပါး။

၃၄ အဘိုးအထွားယူသောမြီး ကိုမြေးမြစ်တို့မသိသော် လည်းရင်းပွါးဆပ်မဆပ်ရာသောစကားလေးပါး။

၃၅ အတူနေမြေး ချေးသောမြီးကိုဘိုးဘွားမသိသော်လည်းမြေးသေလျှင်ရင်းပွားဆပ်ရသောမြီအရင့်တွင့်သာဆပ်ရာသောမြီနှစ်ပါး။

၃၆ မိဘချေးယူ သောမြီးကိုသားသို့မြေးတို့မသိသော်လည်း ဆပ်စေရာသည်မြီးသုံးပါး။

၃၇ မိဘတာဝန်သားသို့မြေးတို့ယူချင်းမြီးနှစ်ပါး။

၃၈ မိဘတို့ယူသောမြီးကိုသားသို့မြေးတို့မသိသော်လည်း ဆပ်ရာသောတရားသက်သေခန်းတပါး။

၃၉ မြီးအပျားချောက်ပါး။

၄၀ မြီးစားကိုထိပ်ခပ်သင့်မခပ်သင့်နှစ်ပါး။

၄၁ မြီးစားကိုမြီး ရှင်မခန့်ချေး မမှာ တံထွေးနှင့်ထွေး ပြစ်သည်၊ ထောင်းထုသတ်ပုတ်သည်ပိုးဆံဆွဲသည် အဝတ်ကိုချွတ်သည်၊ လှံကံနှင့်ရိုက်သည်ဓါးလှံနှင့်ထိုးခုပ်သည်တရားတပါး။

20. The six laws where creditors deceive their debtors.

21. The three means by which some of the creditors and debtor combine to deceive other creditors.

22. One law where for a debt of paddy a oow is taken.

23. One law when elephants, horses, buffaloes or oxen are borrowed.

24. One law when paddy is bought on credit, or silver is taken on a promise to give paddy.

25. One law that when a number of persons have incurred a debt, those who remain (in the place) shall pay.

26. One law when a party, though not mentioned in the engagement, if he accompanied the borrower, shall pay.

27. Two laws when there are many parties to a debt, when they ought to pay, when not.

28. One law when a Rahan lends silver to a woman knowing her to be a wife.

29. One law when a woman incurs a debt in the absence of her husband on a trading expedition, or with the army.

30. The law as to whether a wife shall or shall not pay debts contracted by her husband without her knowledge.

31. The law as to whether a husband shall or shall not pay debts contracted by his wife without his knowledge.

32. The three kinds of debts incurred by a husband or wife in cock fighting, putchees, or betting when drunk.

33. The three laws when children or grand children should pay such debts.

34. The four laws whether children, grand children, or great grand children shall or shall not pay, principal and interest, debts contracted by their grand parents without their knowledge.

35. The law whether grand parents shall pay principal and interest, or interest only, of debts contracted by their children, grand children, or great grand children, who have lived with them, on their death.

36. Three kinds of debt contracted by parents, which their children shall be caused to pay, even if they be ignorant of their contraction.

37. The two kinds of debt incurred by children on account of their parents.

38. A traditionary tale or precedent, that children shall pay in certain cases debts contracted by their parents, even without their knowledge.

39. The six kinds of debt.

40. Two laws as to the propriety of confining debtors in the stocks.

41. The law when a creditor is disrespectful to his debtor, when they hank and spit on, strike, slap, pull his front hair,

၄၂ မြီးရှင်ကိုမြီးစားကလွန်သောစကားတပါး။

၄၃ မြီးရှင်မြီးစားအမျိုးမြတ်အမျိုးနိမ့်နှစ်ပါး။

၄၄ မြီးမှံလျှက်မကိုင်မချုပ်ရသူကိုးပါး။

၄၅ တဆယ်သာချေးသည်ကိုနှစ်ဆယ်ချေးယူသည်မြီးရှင်ဆိုတပါး။

၄၆ လင်တယောက်တည်းမယားကြီး မယားငယ်နှစ်ပါးအပြောင်းခြောက်ပါးလင်ယောက်ျားမသိချေးစားသောမြီရှစ်ပါး။

၄၇ မယားကြီးမယားငယ်နှစ်ပါးအပြောင်း ခြောက်ပါးတို့မသိလင်တယောက်တည်းချေးမြီးတပါး။

၄၈ မယားမျိုးငါးပါးမြီးဆပ်စကားငါးပါး။

၄၉ သူကျွန်ပြေးကိုမြို့ရွာအကြီးတို့လက်ခံ၍မြီးယူပေးချင်းတပါး။

၅၀ ဝပြောသည်ကာလစပါးကိုချေးယူ၍ငတ်မွတ်သည် ကာလမှအချိုးကျွင်းကိုဝပြောမှပေးမည်ဆိုမြီးတပါး။

၅၁ မြီးစားကိုမြီးရှင်ချုပ်ကိုင်ထားရာ။ အမိအဘမယားလင်သားသမီးတို့တောင်းပန်ရာမလွှတ်သော်လည်းပြေးပြောက်သောဝံမကင်းတရားတပါး။

၅၂ ငင်ကဲ့သို့သူစိမ်တောင်းမန်ချင်းတပါး။

၅၃ ဝန်ခံချင်းသုံးပါးပေးရာသောအကြောင်းလေးပါး။

၅၄ မြီးစားအများကိုခံဝံသူတယောက်တည်းခံချင်းတပါး။

၅၅ မြီးစားတယောက်တည်းကိုခံဝံသူအများတပါး။

၅၆ မြီးတိုင်မျိုးတဆယ်နှစ်ပါး။

၅၇ မြီးတိုင်းရှိလျှက်မြီးစားကိုတောင်းသောမြီးတပါး။

၅၈ ခံဝံသူရှိလျှက် မြီးစားကိုတောင်းသောမြီးတပါး။

၅၉ မြီးအများတင်ရှိလျှက်၍။သားသမီးတို့ကိုရောင်းမည်တပါး။

၆၀ မြီးစားကိုမြီးရှင် ကိုင်ထားရာ။ ပြေးသည်မိဘဆွေး မျိုးတို့လွှတ်သင့်မလွှတ်သင့်မြီးတပါး။

၆၁ မြီရှင်ချုပ်ထားရာမြီးစားသေဆွဲမူ၍ခြောက်ကမ်ပါးတွင်းကျဉ်းဆင်း၍သေချင်မြီးတပါး။

၆၂ သူကျွန်မှန်း။ကျွန်မှန်းသိမသိ။ မြီးချေးတပါး။

pull off his clothes, strike him with a stick, stab, or cut him with a spear or sword.

42. The law when the debtor is disrespectful to the creditor.

43. The two laws where the debtor and creditor are one of a higher and the other of a lower class.

44. The nine classes of men who shall not be arrested or confined though the debt is really due.

45. The law when a creditor shall say he lent twenty, when only ten was lent.

46. The two laws, when a man has a head and lesser wife, and the six kinds of concubines; regarding the eight kinds of debts incurred by them without his knowledge.

47. The law when the husband contracts debts without the knowledge of the two wives and six concubines.

48. The five kinds of wives, and the five ways of paying debts.

49. The law when a head-man of a town or village shall receive a runaway slave and borrow money for him, or lend him his own.

50. The law when paddy is borrowed in a time of plenty, and a promise made in a time of scarcity to pay a balance due when it shall again be plentiful.

51. The law when a debtor is confined by his creditor, that his parents, wife, husband or children shall be held responsible for his debt if they have begged him off, even though he be not released, if he run off and is not to be found.

52. In the same case, when one not related to the debtor shall intercede in his favor.

53. The three laws regarding security, and four cases where it shall be made good.

54. The law when one person is security for money debtors.

55. The law when one debtor has many securities.

56. The twelve kinds of security.

57. One kind of debt which may be demanded of the debtor, though the security is present.

58. The law when a debt is demanded of the original debtor, though the security be present.

59. The law when heavy debts are incurred, and parents are about to sell their children.

60. The law whether parents or relatives shall or shall not be held responsible in case of the debtor getting away from his creditor.

61. The law when a debtor confined by his creditor hangs himself, or when he puts an end to his life by throwing himself over a bank or pricipice, or into a ravine.

62. The law when a slave borrows money from one who knows him to be so, or from one who does not.

၆၃ သခင်နှင့်ကျွန်အတူချေးမြီးတပါး။

၆၄ မြီးဆပ်သောခါအတူပါသူဆပ်ရာမဆပ်ရာတပါး။

၆၅ သခင်မှာအမွေခံသားသွီးမရှိ။ စေကျွန်ရှိရာတွင် ကျွန်နှင့်အရှင်မြီးချေးတပါး။

၆၆ မှတ်ဆိုးဘိုမချေးမြီးတပါး။

၆၇ မြီးလွှဲစကားနှစ်ပါး။

၆၈ မြီးတောင်းမင်းစေမျိုးငါးပါး။

၆၉ မြီးမတောင်းရာအရပ်ခုနှစ်ပါး။

၇၀ မြီးစားကိုသင်ပြိုဟ်သူဆပ်ရာမဆပ်ရာနှစ်ပါး။

၇၁ လင်ကြီးကပါမြီး။မယားကြီးကပါမြီးကို။ မယားငယ်လင်ငယ်ဆပ်ရာမဆပ်ရာမြီးနှစ်ပါး။

၇၂ လခြေယူမြီးတပါး။

၇၃ မြီးတက်ရာလေးပါး။

၇၄ မြီးတလင်လှည်တပါး။

၇၅ မြီးဘောင်ခွဲစကားတပါး။

ဓမ္မသတ်အမြစ်တရားတဆယ်ရှစ်ပါး၏ဂါထာတို့ကား။ ။ဣနကောဓါပကောစေဝ။ ပရတပ္ပါပိနေ့ာဓနံ။ ဒိန္နပဋ္ဌာဟရဏတော။သမဂ္ဂဝဒ္ဒနံဘာဂံ။ ။သတိဖိုပိထံကမ္မေဏ။သစ္စံပိပရိကာရဏံ။ဂေါပါလညွလက္ခဏံ။ကထပိကာယအာဘတံ။ ။ဘုမ္မိပမာဏတောစေဝ။ အဘ္ဘာစက္ခနတောပိစ။ ထေယကောယတောစာဃာတကောပရစရိယာ။ ။ ။ဒါသာနညွပိဝါဒါနံ။ဒါယစ္ဆုဝုဍ္ဍကိဋ္ဌိတာ။ဣဓဏနာပိဝါဒါနို။အဋ္ဌာရသဘဝန္တိတေ။ ။ဣနကော။မြီးချေးသောတရားတပါး။ ။ဓါပကောစ။ဥစ္စာနှံသောတရားတပါး။ ။ပရတပ္ပပိနေ့ာဓနံ။သူတပါး၏။ဥစ္စာကိုအရောင်အဆင်းဖြက်၍ရောင်းခိုးသောတရားလည်းတပါး။ ။ဒိန္နံ။ပေးပြီးသောဥစ္စာဝတ္ထုကို။ပဋ္ဌာဟရဏတော။တဖန်တောင်း၍ရရာ။မရရာသောတရားလည်းတပါး။ ။သမဂ္ဂ။အညီအညွတ်။ဝဒ္ဒဓနံ။ လက်သမားတို့၏။ ဘာဂံ။အဖို့ကို။ ဝေစားကြသောတရားလည်းတပါး။ ။ကမ္မေဏ။အမှုလုပ်သောကိုယ်ခဖြင့်။ဖိုပိတံ။အသက်ကို။သတိ။မွေးသောတရားလည်းတပါး။ ။သစ္စံပိပရိကာရဏံ။အဟုတ်အမှံသစ္စာကိုဆိုပြီလျှက်။ဖောက်ပြန်ချင်းတရားလည်းတပါး။ ။ဂေါပါလာနံ။နွားထိန်းတို့၏။လက္ခဏညွ။ မှတ်ကြောင်းတရား လည်းတပါး။ ။ကထပိကာယအာဘထံ။ရောင်းဝယ်ပြီးသောဥစ္စာကို။တုံနှံပြန်။

63. The law when a master and slave contract debt conjointly.

64. The law when a person who accompanies another to pay shall or shall not pay.

65. The law when a master has no children or heirs, and goes with his slave to borrow money.

66. When a widow or widower borrows money.

67. Two laws regarding the transfer of debt.

68. The five descriptions of people who may be sent by the chief or judge to demand payment of money due.

69. The seven places where payment of a debt may not be demanded.

70. The cases in which the person who pays the funeral expenses of a deceased debtor shall, or shall not pay his debts.

71. Two kinds of debts incurred by a first husband or wife, which the second wife or husband shall, which he or she shall not pay.

72. Debts incurred and a promise made to pay in so many months.

73. The four rates of interest.

74. The law when debts are swept away, (or the law for the relief of insolvent debtors )

75. The law for breaking up the collection of debts, (or surrendering of creditors.) The total of these laws is 158. [This number cannot be made out.]

This (Pali*) verse relates to the eighteen radical laws of the Damathat.

---

မတုန့်ပြန်ရာသော။တရားလည်းတပါး။ ။ဘုမ္မိပမာဏတောစေဝ။
မြေ၏အပိုင်းအချားပမာနကိုဆုံးဖြတ်သောတရားလည်းတပါး။ ။
အဇ္ဈာစက္ခနတောဝိစ။ရှိခွပ်သောတရားလည်းတပါး။ ။ထေယ
ကောစ။ခိုးဝှက်သောတရားလည်းတပါး။ ။ပဟာတောစာဝိ။ပုတ်ခပ်
ကြသောတရားလည်းတပါး။ ။ဃာတကောစ။အသေသတ်ကြသော
တရားလည်းတပါး။ ။ဘရိစရိယာ။လင်နှင့်မယား။ကျင့်ရာသော
တရားလည်းတပါး။ ။ဒါသာနညွှဝိဝါဒါနံ။သုကျွန်ဖြစ်ရာမဖြစ်ရာညင်း
ခုံချင်းကိုဆုံးဖြတ်သောတရားလည်းတပါး။ ။ဒါယဇ္ဇံ။အမွေဝေကြ
သောစကားလည်းတပါး။ ။ဇုတ္တကိဠိတာ။ကြက်တိုက်အံခတ်။အစ
ရှိသောကစားချင်း၌။လောင်းတန်းကြသောတရားလည်းတပါး။ ။
ဣတ္တိဇုတ္တပကာရနေနာ။ဤသို့ဆိုခဲ့ပြီးသောအပြားအားဖြင့်။ဣခလောကေ။
ဤလောက၌။ဇနနံ။လူတို့၏။ဝိဝါဒါနိ။ အညင်းအခုံဖြစ်ကုံသောတရားတို့
သည်။အဋ္ဌာရသ။တဆယ့်ရှစ်ပါးတို့သည်ဘဝန္တိ။ဖြစ်ကုံ၏။ ။ဤသို့
ဆိုသောကြောင့်။တဆယ့်ရှစ်ပါးသောဆင်ယိုးခမ္မသတ်ဟူသည်ကား။

၁ မြီးချေးတရားလည်းတပါ။

၂ ဥစ္စာနှံ့တရားလည်းတပါ။

၃ ဥစ္စာကိုအရောင်အဆင်းဖျက်၍ ရောင်းခိုးသောတရား လည်းတပါ။

၄ ပေးပြီးသောဥစ္စာကိုတောင်း၍ ယူပြန်သော် ရရာ မရရာသောတရားလည်းတပါ။

၅ လက်သမားတို့၏ အခကိုအညီအမျှဝေစားကြသောတရားလည်းတပါ။

၆ အမှုလုပ်ကိုယ်ခကိုအမျှဝေစားကြသောတရားလည်းတပါ။

၇ မဖောက်မပြန်လျှင်ပြီဟူ၍ သူတကာတို့ရှေ့မှောက် အမှုံသစ္စာကိုဆိုပြီလျှက်ဖောက်ပြန်သောသူတို့ကိုဆုံးဖြတ်သောတရားတပါ။

၈ နွားရှင်နှင့်နွားထိန်းသောသူတို့ကိုဆုံးဖြတ်သောတရားလည်းတပါ။

၉ ရောင်းဝယ်ကြသောဥစ္စာတို့ကိုတုန့် ပြန်မတုန့်ပြန် ရသောတရားလည်းတပါ။

၁၀ မြေချား ကြောင်း၊ ခိုက်ရာန်များ စကြသောစကား ကိုဆုံးဖြတ်သောတရားလည်းတပါ။

၁၁ ရိုးစွပ်ဆွဲသည်ကိုဆုံးဖြတ်သောတရားလည်းတပါ။

၁၂ ခိုးဝှက်သည်ကိုဆုံးဖြတ်သောတရားလည်းတပါ။

၁၃ ပုတ်ခတ်ကြသည်ကိုဆုံးဖြတ်သောတရားလည်းတပါ။

၁၄ သူကိုအသေသတ်သည်ကိုဆုံးဖြတ်သောတရားလည်းတပါ။

၁၅ လင်နှင့်မယားကျင့်ယာသည်ကိုဆုံးဖြတ် သောတရားလည်းတပါ။

၁၆ သူကျွန်ဖြစ်ရာမဖြစ်ရာညှင်းခုံချင်း ကိုဆုံးဖြတ်တတ်သောတရားလည်းတပါ။

၁၇ ကြက်တိုက်အံ့ခတ်စသောလောင်းတန်းချင် ဌ်ရရာမရရာကိုဆုံးဖြတ်သောတရားတပါ။

၁၈ အမွေဝေစားကြသောအရာကိုဆုံးဖြတ်တတ်သောတရားလည်းတပါ။

ဤသို့ဆင်ရိုးခမ္မသတ်တရားတဆယ်ရှစ်ပါးဟူလိုသတည်း။

မင်းကြီးလူတို့အမှုတွင်၊ ဌာဝရလေးပါး၊ မူလငါးပါးရှိသည်၊ ဌာဝရလေးပါးဟူသည်ကား။

၁ ဘုရားစေတီကြောင်းကံလှူသောမြေတပါး။

ခြေ။ ။တောင်းခြေသော်အမျိုးအားထိုက်လျောက်ပတ်အောင်ပူ
ဇော်ကံတော့စေ။အရှက်ရလေသည်။ မြီးရှင်မင်းဒါဏ်ကိုလည်းခံစေ။မြီး
ရင်းမြီးပွားမှာဆပ်စေ။ဟုမနူမည်သော၅ှင်ရသော့ဆိုတော်မူ၏။ ။
လက်သန်းပြတ် သော်အပြစ် ငွေအကျပ် တဆယ်။ လက်သကျွယ်လက်
လယ်လက်ညှိုးလက်မတိုင်အောင်။တခုလပ်တွက်၍လျော်စေ။ ။
ဥကျွောင်းအရေပြတ် ကွဲသော်အပြစ်ငွေတဆယ်ငါးကျပ်။ ရင်ကိုခြေနှင့်
ကြော့က်မိသော်တဆယ်ငါးကျပ်။ ရှော်သွားကျိုးသော်ငွေ ခုနှစ်ကျပ်နှစ်
မတ်။အံကျိုးသော်ငွေငါးကျပ်။ အရေစုတ်၍သွေးရှိသော်။ ငွေခုနှစ်ကျပ်
နှစ်မတ်။နားပြတ်သော်နှစ်ကျပ်နှစ်မတ်။ အသားအရေပွတ်ပွန်းသော်ငွေ
ငါးကျပ်။မြက်စိကန်းသော်ငွေအကျပ်သုံးဆယ်။ ခြေသန်းခြေမမှာလည်း
လက်နည်းတူဖြစ်စေ။ ဤကားမြီးရှင်သည်မြီးကိုလို၍ကိုင်ငင်ချင်း၍ကျိုး
ပြတ်သေကျေစေချင်းနှလုံးမရှိသောကြောင့်တည်း။ ။မြီးတောင်းမင်း
စေဖြစ်ခြေက။ဆို ခဲ့ပြီးသမျှအပြစ်တွင်သုံးဆစီလျော်စေ။ ။အဘယ်
ကြောင့်နည်းဟူမူကား။ မြီးရှင်မဟုတ်မင်းစေဟူက။ အမှုကိုရှိသေရာပြု
အပ်သောအကြောင်းဖြစ်လျှက်တရားလွန်ခြေသောကြောင့်တည်း။ ။
မြတ်သောမင်းကြီးမြီးချေးသောခါဆယ်စုတစု။ လက်ဆောင်ပါစေ။ချေး
သောခါမပါ။ဆပ်သောခါလက်ဆောင်ပါစေ။ ပါပေလျှင်လက်ဆောင်တနို
ဘိုးအပွားတွင်လျော့ပေး။ မင်းစေစားမှာဆယ်စုတစုစားစေ။ တခုလက်
ဆပ်လျှင်မင်းစေစားကိုမြီးစားကပေးစေ။ နှစ်ဆတက်ပေးဆပ်လျှင်မြီးရှင်
နှင့်မြီးစားအညီပေးစေ။ ။မြတ်သောမင်းကြီး။မြီးကိုမင်းစေတိုက်
၍တောင်းလေဒခံ့။ မင်းစေတို့နေ့လအလျောက်မချုပ်သာ။ မြီးရှင်နှင့်အ
သိချုပ်ရမည်။အငံ့လက်ဆောင်ဆယ်ခိုင်တခိုင်ကိုမြီးရှင်နှင့်မင်းစေအညီ
စားစေ။ မြီးရှင်မသိမင်းစေအလျောက်ချုပ်သည်ကို။ မြီးရှင်သိလျှင်မင်း
စေကိုသာဆိုရမည်။ မြီးစားကိုငါမသိမင်းစေနေ့ရက်ကိုဆိုလေသည်ဟု။

with propriety demanded, who may be confined, or put in the stocks. Yet the creditor shall not demand his due wherever he may see his debtor. If he do so (demand in an improper place,) let him make a peace offering, according to his rank or class, to the person so put to shame; let him also be fined; let the debtor pay the debt, principal and interest; he shall not be forgiven that. If the creditor shall lay hands on his debtor, thinking the place was not one of the sort in which an arrest shall not be made, if there be no violence done, no blood, no scratches, let them pay one tickal of gold; if he cannot pay this, let him pay ten tickals of silver. If blood be drawn, a limb broken, or violence done, let the creditor pay according to his (the sufferer's) rank and class. Thus the sage recluse Menoo said. If the little finger be cut off, let ten tickals of silver be paid; and for each finger up to the thumb included, let an increase of five tickals be levied. If the skin of the hand be broken, let fifteen tickals be paid. If a kick be inflicted (by creditor on the debtor's) breast, let fifteen tickals be paid. If a front tooth be broken, let seven and a half tickals be paid; if a back tooth be broken, five tickals; if the skin be abraded, or blood drawn, seven and a half tickals; if an ear be torn, two and a half tickals; if the skin or flesh be rubbed, five tickals; if an eye be put out, thirty tickals; if any of the toes are cut off, let it be as with the hand. This when a creditor seizes his debtor to obtain payment of his debt without any intention of breaking his limbs, hurting or killing him. If the offence be committed by a person sent by the chief to demand payment of a debt, let him pay three times the amount laid down. Why is this?—because he was not the creditor, but a person sent by the chief, and ought to do his duty respectfully; he has exceeded the power the law gives him. Oh excellent king! when a person goes to borrow money, he should take with him a present of the value of ten per cent.; if he does not take it when he borrows the money, let him take it when he pays. If he does take such a present, let him deduct its value from the amount of interest. As regards a person sent by the court or chief, let him have hire at the rate of ten per cent. If fifty per cent. be paid, let the creditor pay the messenger sent. If cent. per cent. be paid, let the debtor and creditor pay equally. Oh king, the messenger shall not of his own accord enter into an engagement with a debtor to pay on a certain day, let him do it with the cognizance of the creditor, and let them divide equally between them the ten per cent. given by the debtor for extension of time. If the messenger shall make an engagement (with the debtor to pay on a certain day) on his own authority without the knowledge of the creditor, and he shall afterwards come to know it, his complaint shall only lie against the mes-

းရှိ ရှင်ကမြီးစားကိုမတောင်းသာ။ တောင်းခြေသော်မြီးရှင်မင်းဒါဏ်သင့်စေ။ မြီးမှာမလွှတ်သာ။ မြီးစားကဆပ်စေ။ ထိုမင်းစေလည်းမြီးရှင်တောင်းစေလိုပြီ။ မနှုပ်သာခြေ။ ချုပ်ရက်လစေ့ရောက်လျှင်တောင်းထုတ်လျှင်စေ။

တနည်းတုံမြီးရှင်မသိမင်းစေအချုပ်ထားရာ။ မြီးစားရှောင်၍မတွေ့သော်။ ရင်းပွားကိုမင်းစေကဆပ်စေ။ မရှောင်မသွေမဖြည် မင်းစေအလျောက်ချုပ်သည်ရက်လအတွင်းသေသော်။ မင်းစေကအရင်းဆပ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ မင်းစေသည်ဥစ္စာရှင်တဆူပြုခြေသောကြောင့်တည်း။

၄၅ ။တဆယ်သာချေးသည်ကိုနှစ်ဆယ်ချေးယူသည်မြီးရှင်ဆိုတပါး။

မြတ်သောမင်းကြီး။ တဆယ်သာချေးသည်ကို။ နှစ်ဆယ်ချေးသည်မြီးရှင်ဆိုမြီးတပါးဟူသည်ကား။ မြီးရှင်ဆိုတိုင်းမဟုတ်။ တဆယ်သာမြီးစားကဆိုမည်မြီးရှင်ကဆိုတိုင်းမမှန်ခြေသော်။ မြီးစားဖြောင့်သည်ငွေနှင့်ငွေရှင်စွပ်သည်ငွေပြေစေ။ မြီးရှင်ဆိုတိုင်းမှန်ပေကနှစ်ဆတက်ဆပ်စေ။ ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၄၆ ။လင်တယောက်တည်းမယားကြီး မယားငယ် နှစ်ပါးအပြောင်းချောက်ပါး။ လင်ယောကျ်ားမသိချေးစားသောမြီးရှစ်ပါး။

မင်းကြီးမယားကြီး မယားငယ်နှစ်ယောက်အပြောင်း ချောက်ပါးတို့သည်လင်ယောကျ်ားမသိချေးသော မြီးရှစ်ပါးတည်း။ ရှစ်ပါး ဟူသည်ကား။ မယားကြီးသုံးရန်ချေးသောမြီးဆိုခဲ့ပြီးသမျှ မယားငယ်အပြောင်းတို့စားသုံးရန်ချေးသောမြီးကိုလင်ယောကျ်ား မသိသော်လည်း။ ထိုချေးသောသူတို့အသက်ထင်ရှားရှိစည်မြီးရှင်တောင်းဘူး၍ သေးကွမ်လာဘက်သေစာထမင်ဟင်းကျွေးမွေးတည်ဘူခြေအခံ့။ ပေးမည် မပေးဘူးမဆိုနေခြေလျှင်။ ထိုမယားကြီးသေခြေသော်နှစ်ဆတက်မြီးကိုဆပ်စေ။ ။လက်ဆုံပြိုင်မယားငယ်တည်သေသော်တခုလက်တည်ဆပ်စေ။ ကြေးငွေမစပ်လက်စုံမစားအပြောင်းသေသော် အတက်တွင်လေးစုစု၍ အစုနှင့်အရင်းကိုဆပ်စေ။ ။နှစ်ပါးစုံဝယ်ကျွန်ပြောင်းမှာအရင်းကိုဆပ်စေ။ ။မယားကပါးကျွန်မလင်ကပါကျွန် မမယားမိဘကအမွေရကျွန်မ။ လင်မိ

senger; he shall not demand of the debtor on the ground that he did not know the messenger had given time. If he does make the demand, let him be fined: the debt shall not be foregone; let it be paid. If the creditor wish the messenger to make the demand, he shall not recall his engagement; when the time is up let him immediately make his demand.

In another case; if the messenger has made an engagement without the knowledge of the creditor, and the debtor shall abscond and not be found, let the messenger pay the debt, principal and interest. If the debtor does not keep out of the way, but shall die before the time granted by the messenger is up, let him (the messenger) pay the principal. Why is this?—because the messenger took on himself the power of the owner of the property.

45. *The law when a creditor shall say he lent twenty, when only ten was lent.*

Oh excellent king! the law when the creditor, though only ten was borrowed, shall say it was twenty, is this; If the debtor shall deny the statement of the creditor, and say the debt is only ten, if the statement of the creditor be not correct, let the amount admitted by the debtor be a settlement of the demand in full. If the statement of the creditor be true, let the debtor pay double the amount. This the sage recluse said.

46*th. The two laws when a man has a head wife, and a lesser one, and the six kinds of concubines; regarding the eight kinds of debt incurred by them without his knowledge.*

Oh king! regarding the eight kinds of debt incurred by a head wife, a lesser wife, or the six kinds of concubines, without the knowledge of the husband, they are these: Money borrowed by the head wife for (necessary) expenses, or by the others, even if the husband does not know (at the time,) if the creditor shall during the life (of the borrower) have demanded the amount, and he (the husband) shall have placed before him tobacco, betel, tea, spirits, rice, or stew, without either promising or refusing payment, if it be the debt of the head wife, and she dead, let it be paid, with cent. per cent. interest. If it be of the lesser wife, who had eaten out of the same dish at the same time with the husband, let him pay the principal and fifty per cent. interest. If it be of a concubine, who was not bought or connected by means of money, but who did not eat of the same dish, who has died, let him pay the principal and twenty five per cent. interest. If it be the debt of one who was a slave concubine, bought by him and his wife, who dies and leaves the debt, or a slave bought by the wife at her marriage, or by himself, or a slave inherited by the wife from her parents, or by himself from

ဘကအမွေရကျွန်မ။ အပြောင်းတို့မှာအရင်းလေးစုစု၍သုံးစုဆပ်စေ။ ဤကားသေသူတို့ယူသောမြီးကိုလင်နောက်မှသိသောအမှုတည်း။ ။ ဧင်တို့မသေလျှင်ဆိုခဲ့ပြီးသမျှအပြောင်းချောက်ပါး။ မယားကြီးမယားငယ်တို့တွင်တစုံတယောက်တို့လင်မသိချေးလျှင်။ ရင်းပွားဆိုင်သည်အတိုင်းဆပ်စေ။

၄၇ ။ မယားကြီးမယားငယ်နှစ်ပါးအပြောင်းချောက် ပါးတို့မသိလင်တယောက်တည်းချေးမြီးတပါး။

မင်းကြီးမယားကြီးမယားငယ်မသိအပြောင်းချောက်ပါးလည်းမသိ။ လင်ယောက်ျားအလျောက်ချေးစား၍မြီးရှင်တောင်းလာရာလည်း။ နည်းတူအထက်စကားအတိုင်းအစုကျကိုဆပ်စေ။ ဧင်တို့တွင်သားသမီးရှိလည်းအမိတို့၏အစုကျအတိုင်းဆပ်စေ။ သားသမီးတို့မှာ ချင့်မိယူမြီးကိုအလုံးစုံဆိုင်အောင်မဆိုနိုင်ချေလျှင်။ ယူသူသားသမီးတို့သာဆပ်စေ။ ထိုကဲ့သို့မဟုတ်မယားကြီးမယား ငယ်တယောက်နှစ်ယောက်ဖြစ်လည်း နည်းတူ။ အလိုက်သင့်ဆပ်စေ။ ဟူမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၄၈ ။ မယားမျိုးငါးပါးမြီးဆပ်စကားငါးပါး။

မြတ်သောမင်းကြီး။ အကြင် လင်သည် မင်းမျိုး ပုံဏ္ဏားမျိုး သဋ္ဌေးသူကြွယ်မျိုးကုံသွယ်မျိုးသူဆင်းရဲမျိုးတို့ကိုမယားပြုရာတွင်။ လင်ချေးသည်ကိုမယားတို့မသိလင်သေသော်တိုးပွားရှိသမျှတွင်။ ငါးစုမင်းမျိုးမယားဆပ်စေ။ လေးစုပုံဏ္ဏားမျိုးမယားဆပ်စေ။ သုံးစု သဋ္ဌေးသူကြွယ်မျိုးမယားဆပ်စေ။ နှစ်စုကုံသွယ်မျိုးမယားဆပ်စေ။ တစုကိုသူဆင်ရဲမျိုးမယားဆပ်စေ။ ဤကားမြီးဆပ်စုကိုတဆယ်ငါးစုစု၍ဆပ်ကြလေရာသတည်း။ သားသမီးရှိကြလျှင်နည်းတူဆပ်စေ။ ။ ထိုငါးယောက်တို့တွင်တယောက်ယောက်လင် သေ၍ ယူသုံးရသည် မှန်လည်းနည်း တူဆပ်စေ။ ထိုငါးယောက်တို့တွင်လင်မသိ။ အလျောက်ယူသည်မြီးမှာ။ ချင့်ကိုယ်မရှိသော်။ ချင့်သားသမီးတို့ဆပ်စေ။ ထိုမယားတို့တယောက်ယူသည်ကိုတယောက်မသိမစားရ။ ယူသူသေသော်မြီးရှင်တို့ကကျွင်းသောသူတို့မှာမတောင်းသာခြေ။

တနည်းကား။ ထိုလင်သည်ဆိုခဲ့ပြီသောမယားတို့ကိုတရွာစီဖြစ်စေတရွာတည်း၌။ အိမ်သီးအိမ်ချားနေကြသည်။ တအိမ်ကလင်ချေးယူသည်။ လင်သေသော်ထိုအိမ်၌မယားသားသမီးတို့ကသာဆပ်စေ။ ။ အဘယ်ကြောင့်နည်းဟူမူကား။ လက်ရောက်သင့်သီးဖြစ်ခြေသောကြောင့်တည်း။ ဟူမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

his parents, let him pay three fourths of the principal. This is when the husband became acquainted with the existence of the debt after it was contracted. If they do not die, and any of the above two wives or six concubines shall incur debt without the husband's knowledge, let the person by whom it is due pay, both principal and interest.

*47th. The law when the husband contracts debts without the knowledge of the two wives and six concubines.*

Oh king! if the husband, without the knowledge of his two wives or six concubines, shall contract debt on his own account, and the creditor shall come and demand it, let it be paid as above, according to the proportions there stated; let each pay her share. If there be any children, let them pay the proper share of their mother. As to children, as regards a debt of their mother, if they cannot prove it to be the general concern, let only the children of the person who incurred the debt pay it. If it be not thus, but there is a head wife and a lesser wife, or two, let them in the same way pay according to their proportion. Thus the sage recluse called Menoo said.

*48th. The five kinds of wives, and the five ways of paying debts.*

Oh excellent king! if any man shall have taken a wife of the royal, the brahmin, the wealthy the mercantile, and the poor class, and incur debts without their knowledge, at his death let principal and interest be paid in full, five parts by the wife of the royal class, four by the brahmin, three by the wealthy, two by the mercantile, and one by her of the poor class. This is the way the debt is paid, having divided it into fifteen shares. If there be children, let them pay in the same way. Amongst the five, if one on the death of the husband shall have taken money for really necessary expenses, let it be paid in the same way; and as regards debts contracted by one amongst themselves, without the knowledge of the husband, if she be dead, let her children pay. If one shall have contracted debt without the knowledge of the rest, and if they had no share in the expenditure of the amount borrowed, this debt shall not on her death be demanded from the others.

In another case; if the husband shall have the wives above noted, in separate villages, or separate houses in the same village, and shall contract debts in the house of one only, the wife and children in that house shall pay it on his death. Why is this?—because the property came into their possession; it is their own separate share.

၄၉ ။သူကျွန်ပြေးကိုမြို့ရွာအကြီးတို့လက်ခံ၍ မြီးယူပေးချင်းတပါး။

မြတ်သောမင်းကြီး။ သုကျွန်ပြေးကို။ မြို့ရွာအကြီးတို့လက်ခံ၍ မြီးယူပေးသောစကားမှာကျွန်မှန်းမသိ၍ ထိုမြို့ရွာအကြီးတို့လက်ခံ၍ မြီးယူပေးသောစကားမှာ။ ကျွန်မှန်းမသိ၍ထိုမြို့ရွာသူကြီး တို့လက်ခံသည်။ထိုကျွန်မြီးယူ၍စားသည်မှာ။ ကျွန်မှန်းမသိလျှင်ထိုမြီးကိုသခင်ရင်း ပွားဆပ်၍ကျွန်ကိုရစေ။သုကျွန်မှန်းသိလျက်လက်ခံကြွေးမွေးသော်။ မြီးမှာမရသာ။ ကျွန်ကိုသခင်ရစေ။ကြွေးမွေးသောသူဥစ္စာဆုံးစေ။ ။အဘယ်ကြောင့်နည်းဟူမူကား။သုကျွန်မှန်းသိခြေသောကြောင့်တည်း။ ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၅၀ ဝပြေးသည်ကာလစပါး ကိုချေး ယူ၍ငတ်မွတ်သည် ကာလမှအချိုးကျွင်းကိုဝပြော မှပေးမည်ဆို မြီးတပါး။

မြတ်သောမင်းကြီး။ဝပြေးသည်ကာလ။ စပါးကိုချေးယူ၍။ငတ်မွတ်သည်ကာလ။ အချိုးပေး၍အချိုးကျွင်းကို။ ဝပြေးမှပေး မည်ဆိုသည်မြီးစကားမှာ။ လေးသီးယောက်မှသွင်းသော်လေးသီး အမြီးဆပ်မှပြေစေ။ ထဘိုးရောက်တွင်အရင်းအမြီဆပ်သော်။နောက်အပွားကျွန်တွင်သာဆပ်စေ။ အပွားကိုသာဆပ်နှင့်၍အရင်းကျွန်ချေးလျှင် နှစ်ဆတက်ပြေစေ။ ဆပ်စေ။ ။ ။အဘယ်ကြောင့်နည်းဟူမူကား။စပါးကိုလေးသီးမှမြီးသက်ကုံခြေသောကြောင့်တည်း။

၅၁ ။မြီးစားကိုမြီးရှင်ချုပ်ကိုင်ထားရာ။ အမိအဘမယားလင်သားသွီးတို့တောင်းပန်ရာမလွှတ်သော်လည်း။ ပြေးပြောက်သောဝံမကင်းတရားတပါး။

မြတ်သောမင်းကြီး။ မြီးစားကိုမြီးရှင်ချုပ်ကိုင်ထားရာ။ အမိအဘသားမယားလင်ပေါက်ဘော်တို့တောင်းပန်ရာ။ မလွှတ်သော်လည်းပြေးပျောက်သော်မကင်းရာ။ တရားဟူသည်ကား။ မြီးရှင်ချုပ်ကိုင်ထားရာ။ ရေတွက်ဆို ခဲ့ပြီးသော်သူတို့လွှတ်ပါတောင်းပန်သည်ထိုတောင်းပန်စည်မလွှတ်နေ၍နေါက်မှမြီးစားပြေးပျောက်သော်တောင်းပန် ဘူးသောသူတို့ကိုစွဲလျှင်မြီးစားကိုရှား၍အပ်စေ။မအပ် နိုင်လျှင်မြီးရင်းပွားကိုဆပ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ အမျိုးရင်းချာမှန်ခြေသောကြောင့်တည်း။

၅၂ ။ငင်ကဲ့သို့သူစိမ်တောင်းပန်ချင်းတပါး။

တနည်းတုံ။မြီးစားကိုချုပ်ကိုင်ထားရာ။ သူစိမ်တို့လွှတ်ပါတောင်းပန်

*49th. The law when the head man of a town or village shall receive a runaway slave, and borrow money for him, or lend him his own.*

Oh excellent king! the law when the head man of a town or village, having received a runaway slave, shall borrow, and others shall lend money for him, is this: If at the time he received him and incurred the debt on his account, he did not know that he was a slave, let the master on paying the debt take the slave. Money lent when he was known to be a slave shall not be recovered; let the master take his slave; let the person who received and fed him lose his property. Why is this?—because he knew he was the slave of another. Thus the sage recluse called Menoo has said.

*50th. The law regarding paddy borrowed in a time of plenty, and a promise made in a time of scarcity to pay when it is again plentiful.*

Oh excellent king! as regards the law when one has borrowed paddy in a time of plenty, and in a time of scarcity, having paid a part, shall promise to pay the balance when it is again plentiful, is this. If four seed times have passed, let the debt only be considered paid when the balance has been returned four fold. If when the time for the payment of double arrives, the quantity originally taken is returned, afterwards let the interest left only be paid. If the interest only (three fold) has been paid at first, and the quantity originally borrowed be left, let two fold be returned, and the debt paid in full. Why is this?—because debts in grain are only fully settled when four fold is paid.

*51st. The law when a debtor is confined by his creditor, that his parents, wife, husband, or children, shall be held responsible for his debt if they have begged him off, even though he be not released, if he run off and is not to be found.*

Oh excellent king! the law as regards the responsibility of parents, wife, husband, children, or relatives, when they have interceded for the release of a debtor, though unsuccessfully, if he run off and is not to be found, is this: If when a creditor has confined his debtor, the people we have mentioned try to have him released, if at the time of making the request he be not released, but shall afterwards run off and not be found—should the creditor sue the person who made the request, let him seek out the debtor and return him to his custody; if he cannot do this, let him pay the debt, principal and interest. Why is this?—because he is certainly his near relative.

*52d. In the same case, when one not related to the debtor, shall intercede in his favor.*

In another case; when a debter is confined, and a person not

သည်။ထိုတောင်းပန်စည်မလွတ်နောက်မှ။မြီးစားပျောက်သော်။ထိုသူတို့ကိုမစွဲသာခြေ။ကင်းလွတ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ အမျိုးမတော်ခြေသောကြောင့်တည်း။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၅၃ ။ဝိခံချင်းသုံးပါး။ပေးရာသောအကြောင်းလေးပါး။

မြတ်သောမင်းကြီး။ခံဝံချင်းအကြောင်းသုံးပါးပေးရာသောအကြောင်းလေးပါးဖြစ်သတည်း။ ။ခံဝံချင်းသုံးပါးဟူသည်ကား။

မြီးဥစ္စာကိုပေးမည်ခံဝံချင်းတပါး။

လူကိုပေးမည်ခံဝံချင်းတပါး။

မြီးဥစ္စာနှင့်မြီးစားကိုပေးအပ်မည်ခံဝံချင်းတပါး။

ထိုသုံးပါးတို့တွင်မြီးဥစ္စာ နှင့်မြီးစား ကိုပေးအပ်မည်ခံဝံချင်းမှာ။ မြီးဥစ္စာကိုပေးလျှင်မြီးစားကိုပေးကောင်းသည်မဆိုသာလွတ်စေ။ ။အဘယ်ကြောင့်နည်းဟူမူကား။မြီးဥစ္စာရလေပြီသောကြောင့်တည်း။

ပေးချင်းလေးပါးဟူသည်ကား။

မြီးဥစ္စာကိုပေးချင်းတပါး။

မြီးစားကိုပေးချင်းတပါး။

ကျွန်နှင့်ဥစ္စာကို ပေးနှစ်ပါး။ ကျွန်နှင့်ဥစ္စာကိုပေးချင်းမှာ။ ကျွန်ကိုလည်းပေးဥစ္စာကိုလည်းပေးမှလွတ်ရခြေသည်။ ကျွန်ကိုသာပေး၍ဥစ္စာကိုမပေးဥစ္စာကိုသာပေး၍ကျွန်ကိုမပေးသော်။ ခံတန်ချင်းကမလွတ်သာခြေ။ကျွန်နှင့်ဥစ္စာနှစ်ပါးဖြစ်၍လေးပါးဟူသတည်း။ ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၅၄ ။မြီးစားအများကိုခံဝံသူတယောက်တည်းခံချင်းတပါး။

မြတ်သောမင်းကြီး။ မြီးစားအများကိုတယောက်တည်းခံဝံသောမြီးစကားမှာ။မြီးစားအများတယောက်မကျန်ရှောင်သော်။ ခံဝံသူတယောက်တည်းအရင်းဆပ်စေ။ အင်မတန်သည်ကိုဆိုသတည်း။ အင်တန်ပေးနိုင်လောက်အောင်ဥစ္စာ ခံဝံသူတွင်ရှိလျှင်ခံဝံ တိုင်ပေးစေ။ ခံဝံသူမှာပေးရန်ဥစ္စာဆိုသော်လည်းမယားသားသို့တို့ကိုယ်ဆုံးစေ။ ။တနည်းကား မြီးစားသေသော်။ အရင်းသာပေးစေ။ ရင်းပွားခံဝံသည်ဟုမရသာခြေ။အဘယ်ကြောင့်နည်းဟူမူကား။ မြီးစားအများဆုံးခြေသောကြောင့်တည်းဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

related to him shall beg his release, if he be not released at his instance, but be afterwards missing, the person who made the request shall not be liable for the debt; let him be free. Why is this?—because he is no connection of his. Thus the sage recluse called Menoo said.

*53d. The law regarding security, and four cases where it shall be made good.*

Oh excellent king! there are three kinds of security, and four reasons for (cases in) which it shall be enforced:

1st. Security for the property, or the thing borrowed:

2d. Security for the person:

3d. Security for the person and the property also.

In these three kinds of security, as regards that for both the person of the debtor, and the thing borrowed: if the security return the thing borrowed, he shall not be called on to produce the person of the debtor; let him be held free of that. Why is this?—because the creditor has got back his property.

As regards the four cases where the security shall be enforced:

1st. The property borrowed shall be returned:

2d. The debtor shall be produced and given up:

3d & 4th. The slave and the property shall both be given up.

In this case the security shall only be released on giving up both the slave and the property, and not on producing one or the other; the slave and the property make up the four cases in which the security shall be enforced. Thus the sage recluse called Menoo said.

*54th. The law when one person is security for many debtors.*

Oh excellent king! when one person is security for many debtors, the law is this: If all the debtors, without one exception, shall keep out of the way, let the security pay the principal; that is, when his property will not cover the full amount. If he has sufficient property, let him pay in full, as he has engaged: although it is said, "if he has property," (if not,) himself, wife and children, shall become slaves. In another case; if the debtors die, let him only pay the principal; the creditor shall not recover the whole on the plea that the security is for both principal and interest. Why is this?—because the debtors are all dead. This the sage recluse called Menoo said.

၅၅ ။ မြိုးစားတယောက်တည်းကိုခံဝံ့သူအများတပါး။

မြတ်သောမင်းကြီး။ မြိုးစားတ ယောက်တည်းကို အများ ခံဝံ့သောစကားမှာ။ မြိုးစားသေပျောက်သော်ခံဝံ့ သမ္ဗုလ်လူတို့အထိုက် ခံဝံ့ရင်းအတိုင်း ပေးဆပ်စေ။ ခံဝံ့သူအများတို့တွင်အချို့သေအချို့မတွေ့မရှိသော်ခံဝံ့သမ္ဗုလ်လူတို့ဆပ်ရန်မြိုးတွင်အစုအမျှပြု၍သေပျောက်သူတာလွတ်စေ။ ကျွင်းသူဆပ်စေ။ အထက်ခံဝံ့ရင်းက၊ ခံဝံ့သူအချို့သေပျောက်သော်လည်း။ ကျွင်းသူရင်းပွားဆပ်မည်သစ္စာကမ္ဗည်းရှိခြေကလည်း။ ကျွင်းသူရင်းပွားဆပ်စေ။ မရတတ်မှုအတူနေတစုကိုယ်ဆုံးစေ။ ရှောင်သူတို့ခံဝံ့ဖော်ခံဝံ့ဘက်ကရှာ၍။ မြိုးရှင်သို့အပ်စေ။ ရှာလျက်မတွေ့သော်ရှိသူအစုတွင်သာဆပ်စေ။

၅၆ ။ မြိုးတိုင်မျိုးတဆယ်နှစ်ပါး။

မင်းကြီး မြိုးတိုင်မျိုး တဆယ်နှစ်ပါး ရှိသတည်း။ တဆယ်နှစ်ပါးဟူသည်ကား။

ဘိုးဘွားချေးစားသည်ကို။ မြေးတိုင်ချင်းတပါး။

မြေးချေးစားသည်ကိုဘိုးဘွားတိုင်ချင်းတပါး။

မိဘချေးယူစားသည်ကို။ သားသ္မီးတိုင်ချင်းတပါး။

သားသ္မီးတို့ချေးစားသည်ကိုမိဘတိုင်ချင်းတပါး။

ပေါက်ဖော်ချေးစားသည်ကိုပေါက်ဖော်ချင်းတိုင်ခံသည်လည်းတပါး။

ကျွန်ချေးစားသည်ကိုသခင်တိုင်ချင်းတပါး။

ဆရာချေးစားသည်ကိုတပည့်တိုင်ချင်းတပါး။

တပည့်ချေးစားသည်ကိုဆရာတိုင်ချင်းတပါး။

မြိုးတွင်မြိုးတိုင်ပြု၍။ မြိုးကိုယူသူနှင့်ဝေစားချင်းတပါး။

မြိုးစားတွင်မြိုးတိုင်ပြု၍အချို့ကိုတိုင်ချင်းတပါး။

မြိုးစားကအချားသူကိုခေါ်၍တိုင်ချင်းတပါး။

မြိုးရှင်ကသည်သုကိုတိုင်ခံစေပြည့်နှင်ခေါ်၍တိုင်ချင်းတပါး။ ။

ဤသို့ပေါင်းတဆယ်နှစ်ပါးတည်း။ ။ ထိုတဆယ်နှစ်ပါးတို့တွင်။ ဘိုးဘွားမိဘသားမြေးပေါက်ဖော်။ ဆရာတပည့်အရှင်နှင့်ကျွန် မြိုးစားမြိုးတိုင်ဝေမျှစားသူတို့ဆယ်ပါးမှာမြိုးတိုင်စားစေကာမူမြိုးတိုင်စာရင်းထား၍သူသိသူမြင်ကမ္ဗည်ရှိစေကာမူ။ မြိုးတိုင်ဖြစ်သည်မဆိုသာခြေ။ စားသူတို့သေပျောက်လျှင်။ ရင်းပွားဆိုင်သည်အတိုင်းဆပ်ငေ။

ဘိုးဘွားမိဘသားမြေးပေါက်ဖော်အရှင်နှင့်ကျွန်။ ဆရာနှင့်တပည့်။ ဝေမျှမစားပါ။ ဆိုင်သည်သာဖြစ်သည်မဆိုသာခြေ၊ ရင်းပွားဆပ်စေသတည်း။

*55th. The law when for one debtor there are many securities.*

Oh excellent king! the law when one debtor has many securities, is this: If the debtor shall die, or is not to be found, let each of the securities pay the amount he was originally security for. If amongst the securities some are dead, and some not to be found, let the whole of the debt for which they were all security be divided into shares, and, excluding the shares of the dead and missing, let those who are left pay. If at the time of entering into the security bond there was an engagement that if any should be dead or missing the remainder should pay, let them pay principal and interest. If they have not property to cover the amount, let them and their females become slaves. Let the parties to the security search for the others who are keeping out of the way, and deliver them up to the creditor. If they search for, but do not find them, let the share of those only who are present be paid.

*56th. The twelve kinds of security.**

Oh king! the twelve kinds of security are—

1. Security of grand children for debts of grand parents.
2. Security of grand parents for debts of grand children.
3. Security of children for the debts of their parents.
4. Security of parents for the debts of their children.
5. Relations security for each other.
6. Security of the master for the debts of his slave.
7. Security of the scholar for the debts of his teacher.
8. Security of the teacher for the debts of his school apprentice.
9. Security for only a part of the debt.
10. Division of the money borrowed between the borrower and security.
11. A witness called, and caused to become so, by the debtor or borrower.
12. A witness called, and caused to become so, by the creditor, or lender saying, "let this person be security witness."

These are the twelve; of these the ten first, including the security with whom the money borrowed is divided, if they shall have taken three per centage, and shall have entered into a written engagement before witnesses that they are "mee-taing;" they shall not pay; they are only "taing" witnesses. If the person who incurred the debt shall die, or is not to be found, let them pay, principal and interest.

The grand parents, parents, children, grand children, relations, master and slave, teacher and pupil, shall not plead that they had no share of the money borrowed; that the borrower only told them, or called them to witness; they shall be caused to pay principal and interest.

* မိတိုင် is not in all cases "security;" in some it only stands for "witness"—the literal meaning of the word.

မြီးစားခေါ်ခဲ့၍တိုင်သည်မြီးတိုင်မှာ။ မြီးစားသေပျောက်သော်။အ ရင်းဆပ်စေ။ မြီးစားမသေရှောင်သော်။ ဆပ်နှုင့်ရသည်အရင်းမြီးသူတပါးမှာ တိုင်ခံယူနှုင့်ရသည်ကိုအရင်းအတိုင်းမြီးစားကဆပ်စေ။မြီးတိုင်ယူသည်အပွားမှာမြီးစားနှုင့်မြီးတိုင်အညီဆပ်စေ။ အထက်မြီးရှင်ရင်းက။ အပွားကျန်ကိုမြီးစားရင်ကသာဆပ်စေ။ မြီးတိုင်မဆပ်သာ။ကုလားပင်လယ်ရွာမြီးစားပြေးသော်မြီးတိုင်လိုက်စေ။ ။မြီးရှင်မလိုက်သာပြီ။ မြီးတိုင်လိုက်၍ဇရိပ်ပင်ပန်းရသည်ကို မြီးရှင် ကဆယ်စုတွင်ကိုးစုမြီးတိုင်သို့ပေးစေ။တစုမှာမြီးတိုင်ကခံစေ။

မင်းကြီးမြီးစားကတိုင်သူကိုမရုံသည်သူကိုခေါ်၍တိုင်စေ။မြီးရှင်ညွှန်ပြ၍တိုင်ရသည်။ မြီးတိုင်မှာမြီးစားသေပျောက်သော်။ မြီးရင်းတဝက်ကိုမြီးတိုင်ဆပ်စေ။မသေမပျောက်ရင်းပွားကိုမြီးစားဆပ်သော်။ အပွားကိုမြီးတိုင်တဝက်စားစေ။ မြီးစားကုလားပင်လယ်ရွာ သို့တိုင်အောင်ပြေးသော်လည်း။ မြီးရှင်နှုင့်မြီးတိုင်ဇရိပ်အညီစိုက်၍ ကုံကြချင်းမျှအောင်လိုက်ကြစေ။အဘယ်ကြောင့်နည်းဟူမူကား။တိုင်လိုသောသဘောနှုင့်မြီးစားခေါ်၍လာသည်မဟုတ်ခြေ။မြီးရှင်ကညွှန်ပြ၍မြီးစားခေါ်ရာလိုက်ရခြေသည်။ အကျိုးဆောင်အကြောင်းပြုဖြစ်သောကြောင့်တည်း။ ။တနည်းလည်း။မြီးစားမသေမပျောက်ရှိရကား။မြီးရှင်မနေတောင်းလျှင်။မြီးစားကိုအပ်သော်လည်း မြီးရှင်မယူကမြီးတိုင် ဝန်မကင်းခြေ။ မြီးစားရှိလျက်မဆပ်နေခြေသော်အရင်းကိုမြီးတိုင်ဆပ်နှုင့်စေ။အပွားကိုမြီးရှင်ကမြီးတိုင်ကိုတောင်းစေ။မြီးတိုင်ဆပ်နှုင့်ရသည်ကိုမြီးစားပေး၍ မြီးတိုင်မှာပြေမည်မြီးရှင်မှာအပွားမရခြေသော်။ အတိုးအပွားကို မြီးတိုင်ကပင်မြီးရှင်သို့ပေးစေ။မြီးတိုင်ကသာမြီးစားမှာဆင့်ကဲတောင်း၍ယူစေ။ အဘယ်ကြောင့်နည်းဟူမူကား။ ချင့်အဘို့ကိုချင့်ခံခြေသောကြောင့်မြီးရှင်းမှာအပွားကျန်ကိုဆပ်ရခြေသတည်း။

၅၇ ။မြီးတိုင်ရှိလျက်မြီးစားကိုတောင်းသောမြီးတပါး။

မင်းကြီးမြီးတိုင်ရှိလျက်မြီးစားမှာတောင်းသော်။ မြီးစကားမှာ။ မြီးတိုင်ကိုတောင်းရကောင်လျက်။မြီးတိုင်ကိုမတောင်း။ မြီးစားကိုမြီးရှင်ကချုပ်ကိုင်တောင်း၍မရသော်။သေပျောက်သော်။ မြီးတိုင်ကိုမစွဲမတောင်းသာခြေ။မြီးတိုင်လွှတ်စေ။ ။တနည်းတုံမြီးတိုင်ကမြီးစားကိုချုပ်

As regards the person called to witness by the borrower; if he, the borrower, shall die, or cannot be found, let him pay the principal; if the borrower be not dead, but keeping out of the way, and the "mee-taing" has borrowed money to pay his debt, let the borrower repay him the original amount, and let them pay the interest on the money borrowed by the "mee-taing" in equal proportions, and let the original borrower pay the original lender any balance of interest that may be due to him; the "mee-taing" shall pay no part of that. If the debtor shall abscond to the foreign villages in the ocean, let the "mee-taing" follow him; the creditor need not do so, but let him pay ninety per cent. of his expenses; the other ten per cent. he must bear himself.

Oh king! if the lender shall put no trust in the "mee-taing" called by the person wishing to borrow, and shall point out a person he wishes to be called, should the borrower die, or not be found, let him pay one half the original sum lent. If the borrower be not dead, or absconded, but shall pay his debt, principal and interest, let such a "mee-taing" receive one half the interest; and if the debtor run to the foreign villages of the ocean, let the lender and "mee-taing" pay an equal share of the expense of following him. Why is this?—because he did not come at the wish of the borrower, but the lender having named him he came at the request of the borrower, and because he was the cause of advantage to the lender.

In another case; if the debtor shall not die, or is not to be found, and the creditor will not wait, but demands his money, though the "mee-taing" hand the debtor over, if the creditor will not receive him, he shall not be released from his responsibility. If the debtor be present, and do not pay, let him (the "mee-taing") advance and pay the principal, and let the creditor employ him to demand the interest. If the debtor shall so pay the amount he advanced, his account is settled with the "mee-taing." If the creditor does not get his interest, let the "mee-taing" pay it, and demand only the farther sum. Why is this?—because he has recovered his interest; he shall pay the remaining interest to the creditor.

### 57th. *One kind of debt which may be demanded of the debtor, though the security be present.*

Oh king! as regards a debt that may have been demanded of the debtor though the "mee-taing" was present; if when a debt ought to have been demanded of the "mee-taing," the creditor has demanded it of the debtor, if on arresting and confining him he does not get his money, or if he die, or abscond, he shall not then demand from the "mee-taing;" let him be free of the debt. In another case; if the "mee-taing" make over the debtor to the

ကိုင်တောင်းပါအပ်၍။ မြိုးရှင်ထိပ်နှင့်မြိုးစားကိုချုပ်ကိုင်တောင်းရာ။ မြိုးစားရှောင်သော်လည်း။ မြိုးတိုင်ဝန်မကင်းသာခြေ။ မြိုးစားကိုမြိုးတိုင်ရှာ၍အပ်စေ။ မရခြေလျှင်မြိုးတိုင်လွှတ်စေ။

၅၈ ။ခံဝံသူရှိလျှက် မြိုးစားကိုတောင်းသောမြိုးတပါး။

မြိုးတိုင်မဟုတ်ခံတန်ချင်သုံး ပါးမှာလည်း။ ခံတန်သူကိုမတောင်းအရင်းလူတို့မှာဥစ္စာရှင်တောင်းခြေသော်ခံတန်သည်လူလွှတ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ ဥစ္စာရှင်ကတိမတည် ခြေသောကြောင့်တည်း။ ။ ။မြိုးတိုင်ခံဝံသူတို့မယားလင်သားသမီးမသိတိုင်ခံသူသေသော်မယားလင်သားသမီးမြေးမြစ်တို့ကိုမြိုးရှင်ကမစွဲသာ။ သိလျှင်စွဲရာ၏ဟူမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၅၉ ။မြိုးအများတင်ရှိလျှက်၍။ သားသမီးတို့ကိုရောင်းမြိုးတပါး။

မြတ်သောမင်းကြီး။ သားသမီးတို့ကိုသူတပါး သို့မိဘရောင်းစား၍ရှိလေအံ့။ ထိုမိဘတို့တွင်မြိုးရှင်အများရှိ၍တောင်းကိုင်သော်လည်း။ ထိုတပါးသို့ရောင်းစားသောသားသမီးတို့ကိုမတောင်းမကိုင်သာခြေ။ ထိုကျွန်ဖြစ်သူတို့။ မိဘမြိုးစားဖြစ်သူသေသော်မြိုးရှင်ကံကျမ္ဘာရိုးစေ။ ။မိဘတို့သည်။ သားသမီးတို့ကိုခွဲဝေပေး၍ တစုံတယောက်သောသားသမီးတို့နှင့်အတူစားအတူနေရာ။ တင်သောမြိုးမှာအိုးသီးစားအချားနေတို့ကို မတောင်းသာခြေ။ အဘယ်ကြောင့်နည်းဟူမူကား။ အမွေဥစ္စာကွဲပြားသီးချားသည်ဖြစ်သောကြောင့်တည်း။

၆၀ မြိုးစားကိုမြိုးရှင်ကိုင်ထားရာပြေးသည်မိဘဆွေမျိုးတို့လွှတ်သင့်မလွှတ်သင့်မြိုးတပါး။

မြတ်သောမင်းကြီး။ မြိုးစားကိုမြိုးရှင်ကိုင်ထား ရာပြေးသည်။ မိဘစသောဆွေမျိုးဝန် လွှတ်မလွှတ် စကားနှစ်ရပ်ရှိသည်။ အတူနေမြိုးစား၏သားသမီးတို့ကိုမြိုးရှင်ချုပ်ကိုင်ထားရာက။ ထွက်ပြေးသွား၍ မိဘကိုမေးသော်ရောက်ပေ၏ဆိုလျှင်ထိုသားသမီးတို့ကိုကိုင်မြဲကိုင်စေ။ ။ရောက်လျှက်ကိုမရောက်ကွယ်၍ နောက်မှမိဘထိန်ကြောင်ကဲ့ကြောင်များကိုမြိုးရှင်သိ၍ဆိုသော်လည်းအပြစ်မရှိ။ သားသမီးကိုချစ်ချင်းကြောင့်။ ထိန်ဝှက်ချင်းဖြစ်သည်။ ထိုမြိုးကိုရင်းပွားဆပ်၍လွှတ်စေ။

တနည်းတုံမြိုးရှင်ချုပ်ထားရာ။ မြိုးရှင်ရေခပ်ထင်းခွေထည့်ရာ။ မြေကျားထိပါးသေသော်။ သေသူ၏ကိုယ်ဆိုးတံရာဆုံးစေ။ မြိုးကျန်သော်ဆပ်

creditor, requesting him to confine him, and demand the money, and if the debtor shall get away when confined in the creditor's stocks, the responsibility of the "mee-taing" is not at an end; let him find the debtor, and again give him over to the creditor; if he cannot find him, he shall then be free of responsibility.

58*th. The law when the debt is demanded of the original debtor, the security being present.*

If it is not a "mee-taing," but a security who is present, and the debt be demanded by the creditor, not of him, but of the person who originally borrowed the money, the debtor, let the securities be held free of responsibility. Why is this?—because the creditor did not abide by his engagement. If the wife, husband, or children of the "mee-taing," or securities, are not aware of their being such, and the "mee-taing," or security, shall die, the creditor shall not demand the debt of them. If they were aware of the fact, he may make his demand on them. Thus the sage recluse called Menoo hath said.

59*th. The law when heavy debts have been incurred, and parents are about to sell their children.*

Oh excellent king! when parents who have many debts, shall have sold their children, their creditors shall not demand the debts from the children so sold. If the debtor die, it is the creditor's luck; he must bear the loss. If parents have divided their portions amongst the children, and are living with one of them, any debts they may have incurred shall not be demanded of those who are living separately. Why is this?—because their inheritance has been already divided amongst them.

60*th. The law whether parents or relatives shall, or shall not be responsible in case of their relative or debtor getting away from his creditor.*

Oh excellent king! when the debtor escapes from the custody of the creditor, there are two things to be considered involving the responsibility, or otherwise, of the parents and their relatives. If the creditor has taken the children of his debtor who live along with him, and they shall escape and return to him, and if on inquiry of the parents they shall admit that they have returned, let the creditor take them as before. If the parents shall deny that they have returned, and the creditor shall afterwards learn that they have, there is no fault; it was done from affection to their children; let them pay the debt, principal and interest, and be free.

In another case; when the debtor is in the custody of his creditor, if he send him to hew wood or draw water, and he be bitten by a snake, or tiger, and he die, let the price of his body be

စေ။ မြီးထက်ကိုယ်ဘိုးလွန်သော် သေသူမိဘတို့အားပေးစေ။ သေခမ်းစရိတ်ကိုမြီးရှင်ခံစေ။အဘယ်ကြောင့်နည်းဟူမူကား။မစေတန်စေခြေသေါကြောင့်တည်း။ ။တနည်းတုံမြီးရှင်မစေမပါချင့်အလျောက်။သွားရာမြေ ကျားစား၍သေသော်လည်း။ မြီးရှင်အပြစ်မရှိသေသူကျွမ်ရှိုးစေ။ မြီးကိုရင်းပွားဆပ်စေ။ ။ချုပ်ထားသောမြီးစားသားသ္မီးကိုဦးဆံရိပ်ဖါဆိုသည်။မြီးရှင်တို့မရိပ်သာခြေ။ရိပ်ခြေသော်အပြစ်ငွေအကျပ်သုံးဆယ်လျော်စေ။ မြီးနှင့်တံရာဖြစ်လည်ပြေစေ။ မြီးကျွင်လည်းဆပ်စေ။မြီးနည်း၍အလျော်ကျွင်လည်လျော်စေ။ ။အကြင်မြီးစားကိုချုပ်ထားရာအလုပ်အဆောင်မစေမခိုင်းသာခြေ။ စေခိုင်း၍လုပ်ပေရမူ။ တလငါးမတ်လုပ်ခွန် တွက်၍ချစေ။ မစေမခိုင်း အလိုအလျောက် လုပ်လို၍လုပ်သော်။ လုပ်ခွန်မချသာ။ မြီးရှင်ထမင်းဟင်း စားရပေသည် ဟုလုပ်ရာရောက်စေ။ ထမင်းဘိုးမြီးရှင်ကမတောင်းသာ။ လွတ်စေဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၆၁ မြီးရှင်ချုပ်ထားရာမြီးစားသေဆွဲမူ၍ခြောက်ကမ်းပါးတွင်းကျည်းဆင်၍သေချင်းမြီးတပါး။

မြတ်သောမင်းကြီး။ မြီးစားကိုချုပ်ထားရာမြီးရှင်အိပ်ထက်သေစွဲမူသေသော်။မြီးရှင်မြီးစားနှစ်ဦးသားအပြစ်လွတ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။အိမ်ပြစ်သေပြစ်ရှိခြေသောကြောင့်တည်း။ ။မြီးရှင်အိမ်မှလွတ်၍သေစွဲမူခြောက် ကမ်းပါး တွင်းကျည်း ဆင်၍သေသော်။ သေသူကိုယ်ဘိုးတန်တဝက်ကိုမြီးရှင်ကအဆုံးခံစေ။ ငါစေစားသည်လားမဆိုသာခြေ။ အဘယ်ကြောင့် နည်းဟူမူကား။ မြီးရှင်ချုပ် ကိုင်ခြေသောကြောင့်တည်း။

၆၂ ။သုကျွန်မှန်း။ကျွန်မှန်သိမသိမြီးချေးတပါး။

မြတ်သောမင်းကြီး။ သုကျွန်မှန်းမသိ ကျွန်မှန်သိမြီးချေးသောစကားနှစ်ရပ်ရှိသည်။ သုကျွန်မှန်းသိလျှက်မြီးကိုပေး၍ထိုကျွန်ပြေးသော်မြီးရှင်လိုက်၍ကျွန်ရှင်သို့အပ်စေ။ မအပ်ရခြေလျှင်။ ချေးရင်းမြီးလည်းဆုံးစေ။ ထိုကျွန်ကိုယ်ဘိုးလည်းမြီးရှင်ကပေးစေ ။မြီးရှင်သည်ထိုကျွန်ကိုသခင်အလုပ်ပျက်အောင်မချုပ်မထားသာခြေ။ ကျွန်မှန်းမသိချေးသောမြီးမှာထိုကျွန်သေလျှင်တဝက်။မြီးရှင်သို့ကျွန်သခင်ကဆပ်စေ။ ။မြီးချေးသည်ကာလ။ကျွန်မှန်းမသိ။မြီးချေးပေးသည်နောက်မှ။ငကျွန်ဆိုသည်အ

deducted, and the balance of the debt be paid. If the price of the body of the deceased be more than the amount of the debt, let the difference be paid to his parents, and let the creditor bear the funeral expenses. Why is this ?—because he sent the person he had confined where he ought not to have sent him. In case he shall go of his own accord, and a snake or tiger bite him, and he die, the creditor is not in fault; let it be considered the fate of the deceased, and let the debt be paid, principal and interest. If the creditor shall order the children of the debtor he has confined to shave their heads, he shall have no right to enforce the order; if he does, let him be fined thirty tickals of silver. If this equals the amount of the debt, let it be considered as paid. If there be a balance, let it be paid. If the amount of the debt be the smaller sum, let the creditor pay the difference. No debtor who is confined shall be set to work; if he be so, and does work, there shall be a monthly deduction of one and a half tickals for his labor. If he works of his own accord, without being ordered, there shall be no deduction from the amount of his debt; let it be considered as done by way of return for the food given by the creditor; and he shall make no demand for subsistence; let the debtor be free of that. Thus the recluse called Menoo said.

61*st. The law when a debtor, confined by his creditor, shall hang himself, or put an end to his life by throwing himself from a bank.*

Oh excellent king! when a debtor is confined in his creditor's house, and shall die by hanging himself, let neither the debtor nor creditor be held in fault. Why is this ?—because there is the fault of dying in the house of another, and the fault of having another die in the house. If the debtor shall hang himself out of the house, or shall put an end to his life by throwing himself down a steep bank, into a pit, or down a ravine, let the creditor pay, or lose, one half of the price of his body. He shall not say, "did I send him?" Why is this ?—because he confined him.

62*d. The law when a slave borrows money from one who knows him to be so, or one who does not.*

Oh excellent king! there are two cases when a person knows another to be a slave and lends him money, if he abscond, let the creditor follow him and hand him over to his master; if he cannot do so, let him lose the money lent, and pay the price of his body to the master. He shall not confine the slave to the detriment of his master's work. When money is lent to a slave who is not known to be so, if he die, the master shall pay one half the amount to the creditor. If at the time of lending the money the lender did not know the borrower to be a slave, but he af-

တိုင်း။ကျွန်မှန်းမည်။မသိသည်လည်းမှန်မည်ဖြစ်လျှင်။ အရင်းတိုင်းကျွန်
သခင်ကမြီးရှင်သို့ဆပ်စေ။

၆၃ ။သခင်နှင့်ကျွန်အတူချေးမြီးတပါး။

မြတ်သောမင်းကြီးသခင်နှင့်ကျွန်အတူချေးသောမြီးစကားမှာစာရင်း
တချတ်တည်း။ကျွန်အရှင်ပါသော်လည်း။ ထိုကျွန်သည်ကိုယ်ဘိုးပေး၍။
ပြေးနေရာ။မြီးရှင်ကမတောင်းသာခြေ။ သခင်ကိုသာတောင်းစေ။အဘယ်
ကြောင့်နည်းဟူမူကား။ ကျွန်နှင့်သခင်ဖြစ်၍သာစာရင်းပါခြေသည်ဖြစ်
သောကြောင့်တည်း။

တနည်းကားကျွန်မဖြစ်မှီ။ ချေးယူစားသည်မြီးကို။ ထိုမြီးစားသည်
ကျွန်ဖြစ်ရာ။ မြီးရှင်ကတောင်းသော်ကိုင်သော်။ တောင်းကိုင်ချုပ်ပိုင်စေ။
ကျွန်ကိုရလိုသော်။ထိုမြီးကိုဆပ်စေသတည်း။ ။ထိုကြောင့်ကျွန်ဝယ်
ကာလသုကျွေးသုမြီးအရှင်သူကြီးဟောင်း မပေါ်မရှိရကျွန်စယ်စာရင်းခံ
ဝံထားရခြေသတည်း။

၆၄ ။မြီးဆပ်သောခါအတူပါသူဆပ်ရာမဆပ်ရာတပါး။

မြတ်သောမင်းကြီး မြီးဆပ်ခါအတူပါသောသူဆပ်ရာမဆပ်ရာသော
စကားနှစ်ပါးတည်း။ ။မြီးဆပ်သောခါအတူပါလေ၏။အဝင်အကျန်
စာထားရာအသိအကြားစာဝင်လေ၍ထိုငွေကို။နေ့ရက်ချိန်း၍ပေးမည်နေ့
မတိုင်မရောက်မှီ မြီးစားသေသော် ကျွန်ထက်ဝက်ကိုပါသူဆပ်စေ။ ပြေး
သော်ပါသူကအလုံးဆပ်စေ။ပြေးသူကိုဆပ်ရသူကရှာ၍တောင်းစေ။

တနည်တုံချိန်းချက်သည်နေ့လန္ဟစ်အလွန်အရှည်အကြာထိုချုပ်သည်
နေ့ရက်နှစ်ကခါ လည်ခါကြူး။ မြီးစားသေပျောက်မူ။ အထက်ပါသူဖြစ်
သည်တောင်းသော်မရရာ။ အဘယ်ကြောင့်နည်းဟူမူကား။ စာချုပ်က
လည်းအခံအဝံမပါ။လန္ဟစ်လွန်ခြေသောကြောင့်တည်း။ ဤကားသူစိမ်ကို
ဟူသတည်း။ ။ဘိုးဘွားမိဘပေါက်ဖော်သားသို့မြေးတစုံတယောက်
ဖြစ်က။ထိုမြီးစားသေပျောက်သော်လည်းကျွင်းသမျှကိုအကုံဆပ်ရ၏ခြေ။

၆၅ သခင်မှာအမွေခံသားသို့မရှိစေကျွန် ရှိရာတွင်။ ကျွန်နှင့်အရှင်မြီး
ချေးတပါး။

မြတ်သောမင်းကြီးသခင်မှာသားသို့အမွေခံအမွေသက်မရှိစေ။ ကျွန်
ရှိရာတွင်ကျွန် သခင်မြီးချေးသော် စကားမှာ။ အကြွင်ကျွန်အရှင်တို့အတူ
လုပ်ဆောင်စားနေကြရာ။သုမြီးကိုအတူချေးယူကြ၍။သခင်သေလေ၏ထို

terwards turn out to be really the slave of one claiming him, if the lender did really not know he was a slave, let the master pay the debt, principal and interest.

63*d.* *The law when master and slave contract debts conjointly.*

Oh excellent king! when a master and slave together borrow money, if the names of both are included in the bond, the creditor shall not demand the money of the slave, if he has been redeemed, but only from the master. Why is this?—because it was only from being a slave that his name was originally inserted in the bond.

In another case; if the money was borrowed before he became a slave, and the creditor demands the money whilst he is a slave, and arrests and confines him, let him have a right to do so. If the master wishes to recover his slave, let him pay the debt; for this reason—when a slave is bought, that his old debts may not come against the buyer, he ought to enter a security in the slave bond.

64*th.* *The law when a person accompanying another to pay a debt, shall, or shall not, pay any balance left.*

Oh excellent king! the law whether a person accompanying another at the time of paying a debt, shall pay or not, is: A person accompanying another to pay a debt, and becoming witness to any written agreement regarding the payment of any balance left, if the debtor shall die before the day fixed for the payment of the balance, shall pay one half thereof; if the debtor abscond, let him pay the whole, and having found the debtor he may sue him for the amount.

In another case; if the day of payment has been passed for a year, and the debtor shall die or abscond, the money shall not be demanded of him. Why is this?—because he is not in the bond as a security, and the time of payment is passed by a year. This is said of a person not related to the borrower; if the grandfather or grandmother, the parent, child, grandchild, sister, or father, let them pay the whole balance due.

65*th.* *The law when the master has no children, or heirs, and goes with his slave to borrow money.*

Oh excellent king! when a master who has no heirs shall, whilst he has a domestic slave with him, borrow money, the law is this: If any master and his slave, whilst acting and working together, have incurred a debt, and the master shall die, let the slave who has got the good and bad (inherited the debts and assets) of his master, pay principal and interest. If there be not

သခင်၌ဆိုးကောင်းဥစ္စာကိုရ၍ရင်းပွားဆပ်စေ။ ပေးကမ်းရန်ဥစ္စာတည်မဖ ရှိသော်။ထိုကျွန်ကိုယ်ဘိုးနှင့်ဆပ်၍ပြေစေ။

### ၆၆ ။မုတ်ဆိုးဘိုမချေးမြီတပါး။

မြတ်သောမင်းကြီး။ မုတ်ဆိုးဘိုမတို့သည်။ လင်မယားဖြစ်ကြ၍ကွာ ကြမည်။ရှေးမသင့်မနေမှီကမြီကိုလင်ဖြစ်သည်မယားဖြစ်သည်စာ။မြီရှင် တို့မတောင်းသာခြေ။ယူရင်းသူကိုသာတောင်းစေ။

### ၆၇ ။မြီလွှဲစကားနှစ်ပါး။

မြတ်သောမင်းကြီး။ မြီလွှဲစကားကားနှစ်ပါးတည်း။ နှစ်ပါးဟူသော် ကား။ငမြီမည်သူမှာရှိလေသည်။ မင်းဥစ္စာကိုငါကလည်းပေးရန်ရှိသည် ထိုမှာတောင်း၍ယူလေ။ ငမြီမည်သူမှာ ရှိလေသည်တောင်း၍ ယူခဲ့ပါ။ မျက်နှာမညီဆိုသောစကားနှင့်။ ပေးသူမသိမကြားတောင်းခြေသော်။ မ ပေးနေကနေရခြေ၏။ ။ထိုသို့ကားမဟုတ်တုံ။သုံးဦးမျက်နှာညီတွင် လွှဲအပ်ဆိုမည်။ ဥစ္စာပေးသင့်သသူကမညင်းမဆို။ တိတ်တဆိပ်နေခြေ သော်။ငါပေးမည်မဆိုတကားမဟူသာခြေပေးစေ။ ။မြီရှင်ကသည် သူမှာတောင်း။မြက်နှာညီသုံးဦးလွှဲ၍ရှိခြေကမြီစားမှာမတောင်းသာ။

### ၆၈ ။မြီတောင်းမင်းစေမျိုးငါးပါး။

မြတ်သောမင်းကြီး။ မြီတောင်းမင်းစေမျိုးငါးပါးဟူသော်ကား။ မြီ စားရှင်သားသမီးမြေးတို့ကို။တောင်းခြေစေချင်းတပါး။ ။မြီရှင်ကျွန် ကိုတောင်းခြေစေချင်းတပါး။ ။မြီစားအမှုလုပ်ကိုတောင်းခြေစေချင်း တပါး။ ။အရှင်မိုးမင်းတို့ကိုပန်ကြားလျှောက်ထား၍တောင်းစေချင်း တပါး။ ။ထိုထိုကဆင့်၍တောင်းစေချင်းတပါး။ ။ထိုသူတို့သည် မြီစားတို့သို့နံနက်အခါ။လှေကားရင်းကနေ၍တောင်းရာ၏။ အိမ်ထက်သို့ တက်၍မတောင်းရာ။ မိုးဆီးချုပ်နေဝင်အခါမတောင်းရာ။ မြီစားကအိမ် သို့တက်၍ တောင်းပါဆိုမှတောင်း ရာသည်။ မြီတောင်း မင်း စေတို့ခါးလှံ လက်နက် စွဲကိုင်၍ တောင်းသော်။ အိမ် ထက် သို့ တက်ပါ မဆိုဘဲ တက် တောင်းခြေသော်။ ညည့်အခါမှတောင်းခြေသော်။ မြီစားအရေးပြုလျှောင်။ တောင်းသူမင်းဒါဏ်ခံစေ။ ။မြီစားလှေကားလက်သုံးကိုမြီတောင်း တို့။ခါးနှင့်ခုပ်သော်။ချစ်သော်။မြီစားအိမ်ထက်ကျက်ဥစိမ်ကို။မြီတောင်း တို့ခွဲသော်။မြီစားအိမ်ထက်ကျက်ဥငှက်ဥ။ပြုတ်ချင်းအခြေနှစ်ချောင်း။အ ခြေလေးချောင်း။ အခြေမရှိတိရိစ္ဆာန်တို့ကိုသတ်၍။ မြီစားအိမ်ထက်ချက် ပြုတ်စားချင်း။ခြေသည်းလက်သည်းလှီးချင်း။ ဥကျွောင်းဆေးလျှော်ချင်း။

property to the amount of the debt, let him discharge it with the price of his body.

*66th. The law when a widow, or widower, shall borrow money.*

Oh excellent king! when a widow and widower shall separate, after having been married, debts contracted before they were married shall not be demanded by the creditor on the ground of their being husband and wife. Let him only make his demand on the party by whom they were contracted.

*67th. The two laws regarding the transfer of debts.*

Oh excellent king! regarding the transfer of debts there are two laws. (One shall say,) such a one owes to me, and I am indebted to you—do you demand the money from him, and take (your due,)—or, such a one is indebted to me, demand and bring the money to me. If this be said in the absence of the debtor, and he does not know or has not heard of the transfer, if when the demand is made he shall refuse to pay, let him have the right to do so; but if this be not the case, if the transfer has been made when all three were present, and the debtor made no objection, but remained silent, he shall not afterwards say he made no engagement to pay; let him pay the amount. If the creditor shall make the transfer in this way all three present, he shall not himself afterwards demand the amount of the debt from the original debtor.

*68th. The five people who may be sent by the chief or judge to demand payment of money due.*

Oh excellent king! the five people who may be sent to demand payment of a debt (are) the children or grand children of the creditor, the slave or servant of the same, a person for sending of whom leave is obtained from the governor, or a person sent immediately by him—these people may go in the morning to the foot of the steps of the debtor's house and demand payment. They shall not go into the house to make the demand, nor in the dusk, or after sun-set. If the debtor shall request them to come in and make their demand, they may do so. If a peon, or messenger of the chief, shall demand payment of a debt, with a sword, spear, or other weapon in his hand, and without invitation from the debtor shall go up into the house, or if he demand payment at night, should the debtor sue him, let him be punished criminally. If one demanding a debt shall cut or scratch the steps or banisters of the house of the debtor with a sword, or break an egg, or kill an animal with two legs or four, or without any legs at all, and cook and eat it in the house of the debtor; if they cut the nails of their fingers or toes, wash

မြို့စားအိမ်ထက်ကြင်ကြီးကြင်ငယ်သွားချင်း။ မြို့စားအိမ်ထက်။ မြို့တောင်း
တို့ကာမရောကအလျောက်ရှက်ချင်း။ အမှုမျိုးတို့ကိုပြုခြေသျှင်ထိုပြုကျင့်သ
သူတို့က။တကိုယ်အပြစ်ငွေအကျပ်သုံးဆယ်ကျ။ မြို့စားသို့လျော်စေ။ မြို့စာ
ဆပ်စုရင်းပွားမှာလည်းဆပ်စေ။ မြို့ရှင်မင်းစေငါးပါးပြုကျင့်သမျှသူတို့အ
ပြစ်တည်း။ ထိုမင်းစေငါးပါးတို့တွင်။ မြို့ရှင်သားသမီးနှင့်မြို့ရှင်တို့ပြုသည်
ကျွန်အမှုမှာငါမသိ။သည်ခဲ့သို့ကျင့်လေ။ ငါမမှာမဆိုမဟူသာခြေ။ထိုအ
ပြစ်ကိုမြို့ရှင်ခံစေ။ ။ထိုမှတပါးကျွင်းသောမင်းစေသုံးဦးမှာမင်းစေ
ဒါဏ်သာဖြစ်ခြေသည်။ မြို့ရှင်ဝန်လွတ်စေ။ မြို့စားကိုမြို့ရှင်မြို့တောင်းမင်း
စေတို့တွေ့ရာမတောင်းမကိုင်သာခြေ။တောင်းကိုင်ခြေသော်တောင်းမိသည်
ဝန်အမျိုးအလိုက်ခါသာလဘက်ချောင်းငွေဘလားတကျပ်ထုတ်။ မျိုးနှင့်
တန်ရာကတော့စေ။ကိုင်ငင်၍မစုတ်မပြတ်သော်ရွှေတကျပ်ပူဇော်ကတော့
စေ။ရွှေမရတတ်သော်ငွေအကျပ်တဆယ်ပူဇော်ကတော့စေ။

၆၉ ။မြို့မတောင်းရာအရပ်ခုနှစ်ပါး။

မြတ်သောမင်းကြီး။ မတောင်းရာသောအရပ်ခုနှစ်ပါးရှိသတည်း။ ခု
နှစ်ပါးဟူသည်ကား။ဘေးမဲ့ရာနှစ်ကူးရေသွန်းသဘင်အခါတပါး။ ။
အောင်ပွဲစစ်သဘင်ချီသောအခါတပါး။ ။ရာဇာဘိသေကခံသွန်းသော
အခါတပါး။ ။နက္ခတ်သဘင်ကြီးမူသောအခါတပါး။ ။မဟာ
ပိနဲသဘင်တပါး။ ။မင်းနေရွှေမြို့တော်ကြီးသန္တေးတော်မူသောအခါ
တပါး။ ။မြို့စားတရားနာသောအခါတပါး။ ။မြို့စားသည်း
ထံစွာနာ၍အိမ်နတ်ပသည့်အခါတပါး။ ။ဤခုနှစ်ပါးသောအရပ်
အခါတို့ကိုဆိုသတည်း။ ။နှစ်ဦးသဘင်။စစ်ပွဲချီသောခါ။ရာဇာဘိ
သေကခံသောအခါ။နက္ခတ်သဘင်အခါ။ရွှေမြို့တော်ကြီသန္တေးသောအခါ။
ဤငါးရပ်မှာမြို့ရင်းပွားနည်းများမဆိုတောင်းသော်။ ကိုင်သော်ဆုံးစေ။
မြို့နည်း၍ အပြစ်လွန်သည်။ မြို့လွန်၍ အပြစ်နည်းမဆိုသာ။ အဘယ်
ကြောင့်နည်းဟူမူကား။မင်္ဂလာကြီးလူတို့ဝယ်မဖောက်မပြန်။အစည်မင်း
ကျင့်ပြည်တံထွာကမ္ဘာမင်းဆက်ဥဒါဏ်းဖြစ်သောကြောင့်တည်း။ ။
မြို့စားတရားနာရာတောင်းခြေသော်။ တောင်းသူကိုမင်းဒါဏ်တရာခပ်။
ကိုင်းခြေသော်။မင်းဒါဏ်တထောင်ခပ်စေ။ ။မင်းဒါဏ်မခံဝံ့သော်

*2nd. Of a boy stealing the patsoe of another.*

Oh king! if any young person shall steal the clothes or ornaments of another, let the parents enquire into it, and cause the original price to be paid; if they conceal the theft, it shall not be pleaded that the child is not of age, to be responsible in law; let (the property stolen) be restored two fold. If the person who committed the theft be of a responsible age, he shall be caused to restore double, and also be punished criminally.

*3rd. The law by which the district to which the foot-marks of stolen cattle are traced, shall be caused to make good the loss.*

Oh king! if any one's horses, buffaloes or oxen, be stolen, and the foot-marks are really traced to any district, that district may be sued; if the fact be not ascertained, or there be no foot-marks, there shall be no claim against the district. Wise men must note this. If horses, buffaloes or oxen, be lost, and the owner shall trace their foot-marks into any village, the people of the village and the thoogyee, that they may be free from blame, ought to go with him, and point out the place where the foot-marks leave the village. If they do not show the place by which they left the village, they should be caused to replace them.

*4th. The law when herdsman and the owner of the cattle shall, or shall not, both share in the fine, or one who may have stolen them.*

If the owner and herdsman shall find the person who stole their cattle in the day time, the hired person shall have the fine levied. If the cattle were lost in the night, and the thief be discovered, the hired person shall have one half, and the owner of the cattle the other, of the fine inflicted.

*5th. The law when buffaloes or cattle trespass without the knowledge of the owner, and are killed by the owner of the field, after enquiry a fine is levied, though the inflictor of the injury be not known.*

If any buffaloes or cattle shall enter into a field and eat therein without the knowledge of their owner, and shall be stabbed or cut that they die, or if their blood be drawn, or they are injured so as to be unfit for further work, though the person who injured them be not discovered, having measured the nearest village, field or garden, let (the people or owner of) that make restitution.

*6th. The law when buffaloes, oxen, or elephants attack each other.*

If any brute, oxen, buffalo, goat, pig, elephant or horse, shall be attacked by another, kicked, butted, followed and struck so that

၂ သူငယ်ဝတ်သောပုဆိုးကိုသူငယ်ချင်းခိုးသောတရား။

မင်းကြီးအကြောင်းသူငယ်ချင်းဝတ်သောတန်ဆာကိုတည်း။ သူငယ်ချင်းခိုးမိမူကား၊ မိဘတို့ကစစ်၍အရင်းတိုင်း ပေး စေ။ မိဘတို့ထိန်ချော့လှူင်တရားမဆိုသာတခုကိုနှစ်ခုဆပ်စေ။ တရားဝင် သောသူမူကား၊ နှစ်ဆဆပ်စေ။ မင်း ဒါဏ်လည်းပေးရာ၏။

၃ ကျွဲနွားမြင်းဆင်တို့ကိုသူခိုးခိုး၍ခြေရာကျရာအရပ်တို့ကလျော်ရသောတရား။

မင်း ကြီး အကြောင်း သူ တို့၏ မြင်း ကျွဲ နွား တို့ကို ခိုး လေ သည်။ ခြေ ရာ ကျ သော အရပ် တို့ကို ဟုတ် မှန် စွာ စစ် ကြော ၍ ထိုရွာပြည်သို့စွဲဆို ရလေ၏။ မဟုတ်မမှန် ချေရာတည်း။ မရှိမူကား၊ မစွဲမဆို ရပလေ။ ပညာရှိတို့မှတ် ရာသ တည်း။ ။အကြောင်းမြင်း ကျွဲနွားတို့သည်ပျောက်ရှ ခဲ့မူကား၊ အရှင်လည်း ခြေရာကိုစီစစ် ၍ လိုက်လေရာသောရွာသို့နွားခြေရာဝင်လေမူကား ရွာသား သူကြီး တို့ သည် အရာ မှ လွတ်အောင် ခြေရာထွက်လေသော် အရပ်ကိုကျပါ လိုက်အပ်၏။ ထိုသို့တည်းမထွက်ချေမူကား၊ ရွာသားသူကြီးတို့သည်အစား ဆပ်စေအပ်၏။

၄ နွားထိန်းနှင့်နွားရှင်။ နွားကိုသူခိုးခိုးသည်တွင်ခိုးပြစ်ကိုနှစ်ဦး ရသင့်။ မရသင့်တရား။

အကြောင်း နွား ရှင် နှင့် နွား ထိန်းသောသူတို့သည်နေ့အားတည်း ပျောက်၍ ခိုးသောသူတို့ကိုတွေ့သော်။ ထိုအပြစ်ကား ငါး သော သူသည်စားရ၏။ နွား သည်တည်းညည့်ပျောက်၍ခိုးသောသူတို့ကိုတွေ့မူကား၊ ငါးသောသူအဝက် နွားရှင်အဝက်စားရာ၏။

၅ လယ်ရာတို့ကိုကျွဲနွားထိခိုက်၍ကျွဲနွားရှင်မသိလယ်ရှင်တို့အလျောက်သတ် သည်လက်သည်မပေါ်။ စစ်၍လျော်ရသည်တရား။

အကြောင်းကျွဲနွားတို့သည်လယ်ယာ သို့ချင်းနင်းစား လာ ၍ နွား သခင်မသိ မမြင်ထိုး ခုပ် ၍ သေသော် သွေးသံတချင် ထွက်ဖျက်ဆီး ၍ မစေ စား ရဘဲ ရှိ သော်။ လက်သည်မပေါ်သော်၊ ထိုအရပ်တွင်ရွာလည်းကောင်း။ လယ်လည်း ကောင်း။ ယာလည်းကောင်း။ နီးရာတာထိုး၍လျော်စေရာသတည်း။

၆ ကျွဲနွားမြင်းဆင်ချင်းရွှေပက်သောတရား။

တိရိစ္ဆာန်နွားကျွဲဆိတ်ဝက်ဆင်မြင်းတို့သည်၊ အချင်းချင်းထိပါးကျောက် ကန်လိုက်လံရွှေပက်၍သေခဲ့အံ့၊ ကျိုးပဲ့ပျက်စီးပေအံ့။ ထိုထိပါးရွှေပက်သော

it die, or is injured, or have a limb broken, the attacking animal shall be forfeited. If they fight by mutual consent, the victorious animal shall not be forfeited; if the other animal dies, there is no fault. But if it be not thus, if one is in a pen, or tied up, and a loose animal shall come and attack it that it die, or is injured, if it be in the night, the animal (that was loose) shall be forfeited, and let his owner pay the law expenses, as he was not tied up.

*7th. The law regarding throwing stones or bricks.*

In any town or village, by night, or by day, if any one shall be struck by a stone, stick or brick, which has been thrown, and has his head cut, his eye put out, a limb broken, or any injury inflicted, after examining the seven nearest houses, east, west, north, and south, let the inhabitants of them make reparation.

*8th. The law when a man of inferior class strikes one of a higher.*

If any inferior person shall strike with his hand, foot, or any instrument, (a superior,) his property may be forcibly taken from him; if he has no property, he may be banished. Oh king! as it is thus said, (in Pali,) if an inferior person shall, with a spear or weapon, of any kind, strike the foot, hand, or any part of the person of a superior, he may have his house and all his property seized and taken away. This seizure is called reparation to the superior. If he has no property, he may be punished criminally, and banished to another district. If he seize and struggle personally with the superior, let him forfeit eighty tickals. If he cannot pay that amount, let him pay seventy; if he cannot pay that, let him pay sixty; if he be only worth fifty or forty, having taken the matter into consideration, let him forfeit accordingly. If he cannot pay this, let him pay thirty; and if he cannot pay that, let him become a slave. The superior is a respectable person, the fault is a serious one. If he shall pull the ear of his superior till it is torn, let him forfeit forty tickals of pure silver. If he cannot pay, let the matter be considered. If a superior shall pull the ear of an inferior till it is torn, let him pay five tickals of pure silver, and let him cure the ear. If in the covered bazar, in the road, at the landing place, or in any confined place, an inferior shall push against a superior, or a superior against an inferior, or two inferior persons against each other; if the knot of hair on the back of a woman's head, or the front of a man's, the cheek or ear shall be struck or hurt, no blame should be imputed. If at a festive, or any other assembly of people for

တိရိစ္ဆာန်မြင်းကျွဲနွားဆိပ်ဝက်တို့သည်ဆုံးစေရာ၏။ ။ဆင်မြင်းကျွဲနွားဆိပ်ဝက်တို့သည်အလိုတူတည်း။ ဖွဲပက်ခပ်ချေမှုကား သေခဲ့သော်လည်းမဆုံးရာ။အပြစ်မရှိရာသတည်း။ ။ထိုသို့ကားမဟုတ်ကုန်။ ခြံတွင်းလည်းကောင်း။ထိုကျွဲနွားတို့သည်ချည်နှောင်၍ထားရာမှာလည်းကောင်း။ ကျွဲနွားတို့သည်အလေအလွှတ်လာလတ်၍ဖွဲပက်ခပ်လာ၍ သေသော်လည်းကောင်းကျိုးပဲ့သော်လည်း ကောင်း။ညည့်လည်းကောင်း။ ထိုကျွဲနွားတို့သည်ဆုံးစေရာ၏။ချည်နှောင်၍မထားသောကြောင့်တရားတန်ဆာလည်းထိုကျွဲနွားရှင်ပင်ခံစေ။

၅ အုပ်ကျောက်ပြစ်သောတရား။

အကြွင်ပြည်ရွာတို့တွင်။ နေ့ညည့်လည်းကောင်းအုပ်ကျောက်လှံကန်ပြစ်မိ၍ဥကွောင်းပါးနားကွဲရှအံ့။ ကျိုးပဲ့ကန်းအံ့။ အရှေ့အနောက် တောင်မြောက်တို့ကိုအိမ်ခုနှစ်အိမ်။ စီးစစ်၍တာထိုး၍လျော်စေရာ၏။

၆ သူယုတ်သည်သူမြတ်ကိုရိုက်ခတ်သောတရား။

ဟတ္ထပါဒေဟိဒန္တေဟိ။ ဗဟိနောပဟာရိတ္တမန္တနံတသိဝိလုပ္ပိတွာ။ ဥပေက္ခေမနိသကာတပ္ပိ။ ။မင်းကြီး၍သို့ဆိုသောကြောင့်။ အကျင့်ယုတ်မာသောသူတို့သည်မြတ်သောသူတို့၏ ခြေလက်အစရှိသည်တို့ကိုလှံကန်အစရှိသည်တို့ဖြင့်ပုတ်ခပ်မိအံ့။ ထိုသို့ပုတ်ခပ်သောသူတို့၏အိမ့်ထောင်ခမ်နား ဥစ္စာရှိသရွေ့တို့ကိုယုတ်၍ယူရာ၏။ ထိုသို့ယုတ်၍ယူခြင်းသည်ကား။ သူ၏အပြစ်ကိုလျော်စေသည်မည်ရာသတည်း။ ထိုသို့ခပ်ပုတ် သောသူနွတ်တွင်ဥစ္စာတဥ်းမရှိမူကား။ မင်းဒါဏ်ပေး၍အရပ်တပါးသို့နှင်ထုတ်လိုက်အပ်၏။ သူနွတ်သည်သူကောင်း တို့ကိုလုံထုလုံ့ပွတ်ပုတ်ခပ်မိမူကား။ ရှစ်ဆယ်လျော်စေ။ မရတတ်မူကား။ ခုနှစ်ဆယ်လျော်စေ။ ခြောက်ဆယ်တံသည် ငါးဆယ်တံသည်လေးဆယ်တံသည်ခြင့်၍လျော်စေ။ မရတတ်လျှင်သော်ကားသုံးဆယ်လျော်စေ။ ငို မရတတ်မူကျွန်ခံစေ။ သူကောင်းအပြစ်သဉ်ကြီးလှသတဉ်း။ အကြွင်သူကောင်းကိုနားပဲအောင်ငင်ဘိအံ့။ ငွေစင်လေးဆယ်လျော်စေ။ မရတတ်မူကား။ ဆင်ချင်။ သူကောင်းသူနွတ်ကိုနား ပဲ အောင်ငင် ဘိမူကား။ ငွေစင်ငါး ကျပ်လျော်စေ။ နားလည်းဆက်စေ။ အိမ်ဈေးတွင်လည်းကောင်း လမ်တွင်လည်းကောင်း ရေဆိပ်တွင်လဉ်းကောင်းကျည်းမြောင်းသောအရပ်၌လည်းကောင်းသူနွတ်သည်သူကောင်းကိုလည်းကောင်း။ သူကောင်းသည်သူနွတ်ကိုလဉ်းကောင်း။ သူနွတ်ချင်းချင်းလည်းကောင်း။ ထိုးခပ်မိကြ၍ဆံထုံးဥရှောင်ပါးနားထိမိပါးကြအံ့။ အပြစ်မရှိအပ်သတည်း။ အကြွင်ကစားပွဲသဘင်၌ လည်းကောင်း။ အံ

amusement, at a gambling party or cock fight, an inferior shall push or strike a superior, it is a matter of fun and frolic, like a person possessed of a nat, and it is said no fault should be imputed. If when inferior people are squabbling, an eye shall be blinded, a head broken, the knot of hair pulled, or a cheek cut, or such like, let thirty tickals be forfeited. If flesh be cut, and blood drawn, let twenty tickals of pure silver be paid. Fifteen, seven and a half, and five tickals have also been laid down. As regards this forfeit, superiors shall pay as is proper for such persons, and inferior as is proper for inferiors. This is a matter for consideration.

*9th. The law when two people assault each other in a retired place in the jungle.*

If people, either in the jungle or other private place where there are no witnesses, have assaulted each other, and are swelled, or the skin and flesh black, (bruised,) torn or abraded, if the violence done has been great, and wounds are inflicted, or the teeth broken, thirty tickals should be paid as compensation. Why should thirty tickals be paid?—because the assault was committed in a lonely place, with no one to interfere, and by an unfortunate blow death might have been caused; for this reason thirty tickals should be paid in compensation. If by a severe blow, a leg or arm is broken, if the person is rendered unable to lay hold of any thing, or to walk, or if both eyes are blinded; for these offences also thirty tickals should be paid, and the offender shall give the superior a staff and a person to lead him about and shew him the way. This the sage recluse called Menoo said.

*10th. The law when a man beats the buffaloes or cattle of another.*

If any one shall unmercifully beat the buffalo or ox of another, let him take care of the animal till its recovery. If with proper care paid to it, it shall not live, but die, if it be a man, as is proper in that case, let him make compensation by payment of thirty tickals; if it be a buffalo, or ox, as is proper in that case, let him replace it with another. This is when the injury done was unintentional. If a person shall strike a man in anger, so that from that day he cannot go about to the landing place or bazar, and if he shall die in a month or a year, because it is said the blow caused his death, let him (the offender) make restitution in the proper advance, (for murder of ten men.) If from the day of the infliction of the injury the person struck shall not be put off his usual habit, goes about either near home or to a distance, to the landing

၁ပါကြက်တိုက်တွင်လည်းကောင်း။သူကောင်းကို သူနှုတ် သည်ထိပါးထုံးခံပ် မိသော်လည်းကောင်း။ကစားမြူးစား ရှင်ကြသောအမှုဖြစ်ရကား။နှုတ် ရှုးသူ အသွင်ခဲ့သို့ဖြစ်သော့ကြောင့်အပြစ်မရှိရာဟူသတည်း။ သူနှုတ်ချင်းချင်းတဦ့ သတ်ပုတ်ကြ၍မျက်စိတုံး လည်းကန်းခဲ့အံ့။ ဥကွောင်းမှုလည်းကွဲခဲ့ဥရှောင် ကိုလည်းဆွဲငင်ဘိအံ့။ပါးနားမှုလည်းထိပါးကွဲရှအံ့။ထိုသို့ထိပါးမှုကား။သုံး ဆယ်လျှော်စေ။ အသားပေါက်ပြဲ၍ သွေး သံတချက်ထွက်မှုကား။ ငွေစင်နှစ် ဆယ်လျှော်စေ။ တဆယ်ငါးကျပ်။ ခုနှစ်ကျပ်နှစ်မတ်။ ငါးကျပ်လည်းဟူ၏။ အပြစ်ဟူသည်ကား။ သူကောင်းလျှင် သူကောင်း အလျောက် သူနှုတ်လျှင်သူ နှုတ်အလျောက်လျှော်စေအပ်၏ဆင်ချင်။

၉ တောအရပ်။ဆိတ်ကွယ်ရာတွင်သူနှစ်ယောက်သတ်ပုတ်သောတရား။

အကြင်သူတို့ သည် တောဝယ် လည်းကောင်း။ ဆိပ်ကွယ်ရာအရပ်ဝယ် လည်းကောင်း။သက်သေလဦးမရှိ။သတ်ပုတ်ကြ၍ အရောင်အရမ်အရေအ သား အညိုအမဲအစုတ်အရှလုံးထုလုံးပွတ်ပေါက်ပြဲအံ့။ သွားကျိုးအံ့။ ထိုသို့ အပြစ်ကိုကား။ သုံးဆယ်လျှော် စေအပ်သတည်း။ အဘယ်ကြောင့် သုံးဆယ် ချည်းလျှော်စေသနည်းဟူမူကား။ဆိပ်ကွယ်ရာအရပ်၌။ဆီးတားမည့်သူမရှိ ၍အပုတ်အခပ်မတော်သော်။သေဘေးသို့ရောက်ရာသော့ကြောင့်။ သုံး ဆယ် လျှော်စေအပ်သတည်း။အပုတ်အခပ်မတော်၍ ခြေလက်ကျိုးပဲ့ခဲ့အံ့။ မကိုင် တတ်။ မသွားတတ် အောင်မှုလည်းရှိခဲ့အံ့။ မျက် စိနှစ် ဖက်မှုလည်း ကန်းပေ ခဲ့အံ့။ ထိုသို့တည်း ရှိပေမှုကား။ ငွေလဦးသုံးဆယ်လျှော်စေ။ ခရိုးညွန်တောင် ဝေးကိုင် လည်းလူတယောက်ပေးစေအပ်၏ ဟုမနူမည်သောရှင် ရသေ့ ဆို တော်မူ၏။

၁၀ ကျွဲနွားကိုလူကရိုက်သောတရား။

အကြင်သူသည်လူတို့ကိုလည်းကောင်း။ကျွဲနွားကိုလည်းကောင်း။အနာ စရပုတ်ခတ်မိအံ့။ လွတ်အောင်ကုစေ။ ကုစား၍မလွတ်ဘဲသေခဲ့မူကား။ လူ လျှင်လူအလျောက်သုံးဆယ်လျှော်စေ။ကျွဲနွားလျှင်ကျွဲနွားအလျောက်အစား လျှော်စေ။၍ကားစိတ်မာန်မရှိ။ရိုက်မိသည်ကိုဆိုသတည်း။ ။စိတ်မာန် နှင့်အကြင်သူတယောက်ကိုပုတ်ခတ်မိအံ့။ထိုသို့ပုတ်ခတ်မိသောနေ့ကသည် အနီးအဝေး ရေဆိတ်အိမ်ဈေးတို့ ပယ်မှမသွားတတ်ပြတ်စပ်ရှိ၍နှစ် လည် လကူးမှ သေ သော် လည်း ချင့် သတ် မိ သော အနာဖြင့်သေ သည် မည်သော့ ကြောင့်။သူတက်လျှော်စေအပ်၏။ထိုပုတ်ခတ်မိသောနေ့ကသည်ပြတ်စပ်မရှိ ဘဲအနီးအဝေးရေဆိတ်အိမ်ဈေးတို့ပယ်လာသွားတတ်အံ့။ ထိုသို့သွားလာ

place, or the bazar, and people shall see him so going about, if within five, six, or seven days, from the infliction of the blow, he shall even die, it is not proper to say he died from the blow; the person who struck him shall not pay the advance; it is a matter for consideration. This is said when the parties are not connected with or related to each other. If a husband or wife, a child and parent, elder brother and sister, younger brother and sister, or other relations, shall in a passion strike each other, if the beating be severe, and wounds are inflicted, nothing shall be paid in compensation; let them nurse and minister to the sufferer. If by mischance he should die, no compensation shall be paid. Why is this?—because the offender is not an indifferent person, and had no malicious intentions nor wish that the blow should cause death, but a constant wish for his welfare. No compensation should be given. As regards the funeral expenses, they should be borne by the offender, with a proper degree of respectability, and he shall support the husband, wife, or children of the deceased for life, and pay his debts, if he had any. This the son of Bymah, lord Menoo, said.

*11th. The law when relations, parents, teachers, or pupils, assault each other.*

If a parent or teacher shall in anger chastise a wife, or pupil, with a split bamboo, or the bight of a rope, most severely, and an eye, cheek, or the like, be hurt, a limb broken, an eye blinded, or a wound inflicted, they are liable to punishment. Even for a very great fault, parents or teachers shall not put their (child or pupil) to death. If they really do so, the king shall most severely punish the offender, and confiscate his property. On this account, let no one commit a violent assault to the destruction of his own property, or that of others. Thus the lord recluse said.

Oh king! if two children, under the age of ten, have fought and wounded each other, there is no fault; or if they die, it is their fate. Why is this?—because they are not capable of reflection, or arrived at years of discretion; let the parents pay the funeral expenses. If such a child, not of age to be responsible, shall set fire to a house, or other property, let the parents replace all that is destroyed.

သည်ကိုသူတကာသည်မြင်ပါအံ့။ ငါးရက်။ခြောက်ရက်။ခုနှစ်ရက်တွင်သေ ခဲ့သော်လည်းပုတ်ခတ်မိသောအနာကြောင့် သေသည်ဟူအပ်သတည်း။ သူ တက်မလျော်စေရာသတည်း။ ဆင်ခြင်အပ်၏။ ။ဤသည်တို့ကား။သူစိမ်း တို့ကိုဆိုသတည်း။ ။လင်နှင့်မယား။သားနှင့်အမိ။ အဖ။ညီနှင့်အစ်ကို။ မောင်နှင့်နှမ။ညီမနှင့်အစ်မ။အဆွေအမျိုးချင်းတို့သည်အမျက်အားဖြင့်ထိုး ပြစ်ပုတ်ခတ်သတ်မိ၍အနာစရက်ခွဲ၍ရှိကြအံ့။အပြစ်မလျော်စေအံ့။ အနာစရ ကိုသော်ကား။ညီ၍ကုသစေအပ်၏။ မတော်၍ပင်သေသော်လည်း အလျော်မ စားရရာသတည်း။ ။အဘယ်ကြောင့်အပြစ်မစားရရာသနည်းဟူမူကား။ ထိုသူတို့သည် သူစိမ်းလည်းမဟုတ်။အညိုးလည်းမထားသေးလျှင် စိမ်းသည် ကိုလည်းစိတ်မရှိကောင်းစေလိုသည်။အမြဲ စိတ်ရှိရာသော့ကြောင့်အပြစ်မစား ရာဟူသတည်း။သေခန်းသေနားတို့ကိုကား။တင့်တယ်စွာခံစေအပ်၏။ ။သေ သူသားမယား လင်တို့ကိုတသက်ကျွေးမွေးစေရာ၏။ တင်မြဲရှိလည်းဆပ်စေ ဟု ဗြဟ္မာမင်း၏သားရင်းဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၁ ပေါက်ဖော်ဆွေမျိုးမိဘဆရာတပည့်ပုတ်ခတ်ရိုက်နှက်ကြသောတရား။

အကြင်အမိအဖ ဆရာသမားတို့သည် သား မယားတပည့်တို့ကို အမျက် အားဖြင့်။ဝါးခြမ်ဖြင့်လည်းကောင်း။ ကြိုးခေါက်ဖြင့်လည်း ကောင်း။သည်း စွာပုတ် ခတ်မိ ၍။ မျက်စိနား ပါးစသည်တို့ကို။ ထိပါး ၍ကျိုးပဲ့ကန်း အံ့။အ သား အရေ စုတ် ပြတ် အံ့။ ထိုသို့ပြုလျှင် အမိအ ဖဆရာသမား တို့အား အပြစ် ဒါဏ်သင့်အပ်၏။ အပြစ်သည်း စွာလျှင်မူ လည်း အမိအဖ ဆရာ သ မား တို့ သည်မညှပ်ကွပ် ရာ။ အကယ် ၍ ညှပ် ကွပ်မိမူကား။ ထိုသူကိုပြည်ရှင်မင်းတို့ သည်။သည်းစွာသောဒါဏ်ကိုပေးအပ်၏။ဥစ္စာစည်းစိမ် တို့ကိုရုတ်ရာ၏။ ထို ကြောင့်မိမိစီးပွား။သူတပါးတို့၏စီးပွားတို့ကိုဖျက်တတ်သော။အလွန်ခဲခက် စွာကြမ်ကြုတ်သော အမှုအရာတို့ဖြင့်အရောင် အဆင်းလက္ခဏာ တို့ကို ဖျက် ဆီးအောင်သတ်ပုတ်ခြင်းကိုမပြုရာကုန်ဟုမနူမည်သောရှင်ရသေ့ဆိုတော် မူ၏။

မြတ်သောမင်းကြီး။ အကြင်ဆယ်နှစ် မရောက်သေး။ သူငယ်နှစ်ယောက် တို့သည်။ သတ်ခတ်ကြ၍ ကွဲရှခဲ့သော်လည်း အပြစ်မရှိရာ။ သေသော်လည်း ကြမ္မာယိုးရာသတည်း။ အဘယ်ကြောင့် နည်း ဟူမူ ကား။ ရှေ့နောက်မသိ။ မလိမ္မာသော့ကြောင့်ဆိုသတည်း။ ။သေခန်းသေနားကိုမိဘတို့ကစိုက် ၍ သင်းပြိုဟ်စေ။ ။တရားမစင်သေး။ သုဒ္ဓိမ်ကျိကျ ဘဏ္ဍာပစ္စည်းကို မီးရှို့အံ့။ထိုပျက်သမျှကို။သူငယ်မိဖကအစားထည့်စေ။

*12th. The law when a mad man assaults a sane one.*

If a mad person shall assault or kill a sane person, as he had no control over his own disposition, there should be no compensation paid; it is the fortune of the sufferer, and the mad man, on account of his madness, shall not be put to death; he may be threatened. This is when he has no relations; if he has, he ought not to be left at large; they must bind him with ropes, or keep him in the stocks; if they do not confine him, and any one is killed by his means, or injured, let restitution be made to the extent of the injury. There shall be no fault, (criminal punishment.)

*13th. The law when two men fight by mutual consent.*

If two men shall, by mutual consent, fight with their hands, and one shall be wounded on the head, cheek, or ear, or if he die, there shall be no fault. If there be no assembly of the people, and no one set them to fight, if they fight by mutual consent and one be killed, let the survivor bear the funeral expenses. If the younger or smaller man shall die, let twice the price of his body be paid in restitution. If the older or larger shall die, let the smaller bury him. This is said when they fight by mutual consent. If they had been set to fight by others in the midst of an assembly, and one die, there is no fault.

*14th. The law when a man and woman fight, or assault, each other.*

If a man and woman shall fight by mutual consent, let the man be punished criminally; there shall be no fine in compensation. If the woman die, let the man bear the funeral expenses; if the man die, no fault is to be attributed to the woman. If a man shall beat an unresisting woman, let him pay in compensation double the twenty-five tickals laid down in the Damathat as the price of her body, or fifty tickals. If the man shall be the unresisting party, and the woman being stronger, shall beat him, if she seize his head or his hair, and he is hurt, he was no match for her; the fault is the woman's; let her make him an offering of thirty tickals of silver. If any woman shall strike a man with the girdle which she wears, let her make him an offering of three tickals of gold. If any man or woman shall take off another by force the cloth they are wearing, whether many or few are concerned, they shall each pay three tickals of gold.

### ၁၂ အရူးသည်လူကောင်းကိုပုတ်ခတ်သောတရား။

အကြင်သူရူးသည်။ မရူးသော သူကောင်းတို့ကို ပုတ်ခတ်သတ်မိသော်လည်း စိတ်ကို အစိုးမရသောကြောင့် အပြစ်မစားရရာ။ သင်းကြဖွာ တည်း။ ။ ။ ရူးသူကို။ ရူး၏ဟုမသတ်ရာ။ ချိမ်သော်ကား။ ချိမ်ရာ၏။ ဤကားမိဖပေါက်ဖော်မရှိသည်ကိုဆိုသတည်း။ မိဖပေါက်ဖော်ရှိလျှင် အရူးကိုမလွှတ်အပ်။ ထိပ်ကြိုးနှင့်ထားရာ၏။ မထားချေက။ ထိုအရူးကြောင့်ပျက်သော်။ သေသော်။ ဥစ္စာရပ်ကိုအရင်းအတိုင်းပေးစေ။ အပြစ်မရှိ။ လွှတ်စေ။

### ၁၃ သူနှစ်ယောက်အလိုတူကြ၍လက်ဖွေသတ်သည့်တရား။

မင်းကြီး။ အကြင်လူတို့သည်။ လက်ဖွေလက်ပန်း။ လိုတူကြ၍ ပုတ်သတ်အံ့။ တယောက်သောသူသည် ဥသျှောင်ပါးနား။ ကွဲရှအံ့။ သေမူလည်းသေစေ့အံ့။ အပြစ်မရှိရာသတည်း။ ။ ပွဲလမ်မဟုတ်။ သူတပါးမတိုက်။ အလိုတူလက်ဖွေသတ်ရာသေလျှင်။ သေခန်းကိုခံစေ။ လူငယ်အင်မတန်သူသေလျှင်။ ကိုယ်ဖိုးနှစ်ဆတက်လျော်စေ။ လူကြီးသေသော်လူငယ်သင်းပြုဟ်စေ။ ဤကားစိတ်တူသတ်ကြသည် ကိုဆိုသတည်း။ ။ နှစ်ဦးသားကို သူတပါး တို့တိုက်၍။ သဘင်ပွဲ၌သတ်ရာ။ သေသော်အပြစ်မရှိ။

### ၁၄ ယောကျ်ားနှင့်မိမ္ဘအလိုတူသတ်သည်တရား။

မင်းကြီး။ အကြင်လူတို့သည်မိမ္ဘနှင့်ယောကျ်ားအလိုတူသတ်ကြအံ့။ အပြစ်လွှတ်စေ။ မင်းဒါဏ်ယောကျ်ားကခံစေ။ မိမ္ဘသေမူယောကျ်ားကသေခန်းခံစေ။ ။ ။ ယောကျ်ားသေမူမိမ္ဘအပြစ်လွှတ်စေ။ ။ မိမ္ဘကားမသတ်။ ယောကျ်ားကား မိမ္ဘကိုသတ် အံ့။ နှစ်ဆတက်။ မိမ္ဘကိုယ် ဖိုးနှစ် ဆယ်ငါး ကျပ်။ ဓမ္မသတ်ထွက် ကိုအရင်း ပြု၍ငွေ ငါး ဆယ် လျော်စေ။ ယောကျ်ားကား မ သတ်။ မိမ္ဘအားကြီး။ ယောကျ်ားအား ငယ်ကိုသတ်၍ ဥကျွောင်းဆံပင်ဆွဲကိုင်၍ နာကြင်သော်။ ယောကျ်ားမတန်မိမ္ဘလွန်လေသည်။ ငွေသုံးဆယ်မိမ္ဘကယောကျ်ားသို့ပူဇော်စေ။ ။ အကြင်မိမ္ဘသည်မိမိဝတ်သောခါးစဉ်းတဗီနှင့်ယောကျ်ားကိုပုတ်မိအံ့။ ရွှေသုံးကျပ်မိမ္ဘက။ ယောကျ်ားသို့ပူဇော်စေ။ ။ အကြင်သူတို့သည် မိမ္ဘ ကိုဖြစ်စေ။ ယောကျ်ား ကို ဖြစ်စေ။ ခါးစည်း အဝတ်ကိုကိုယ်နှင့် မကပ်ရအောင်ချွတ်ချေသော်ရွှေသုံးကျပ်ချွတ်သူတို့က။ လူများလျှင်များလျောက်။ လူနည်းလျှင်နည်းလျောက်။ ရွှေသုံးကျပ်စီတွက်၍လျော်စေ။

15*th. The law when the six persons who ought not to be encouraged, or set on to do an act, are so, and thereby die, whether the setter on shall pay compensation.*

Oh king! the six persons who ought not to be set on or encouraged to do an act, are:—1st, children who have not come to years of discretion, who are under ten years; 2d, a person who has not the control over his own mind, a mad person; 3d, a woman who ought not to be with child, but who is so; a woman with whom men will not associate, who has been put to shame; 4th, a person who has behaved outrageously offensive towards another, and who is in dread of punishment; 5th, a person who endures oppression from another; 6th, a person who is sorely diseased. If any one of these six persons has put a rope round his neck, and is about to hang himself, or to throw himself into a ravine or chasm, or into a well, from a precipice, into the water or the fire, or to cause a venomous animal to bite himself, to put himself in the way of an elephant to trample on, or a tiger to bite him, or cause his own death, and any one shall see or hear of this, and it being his duty to prevent him, shall say to him that his intention is good; and if, according with this saying, he shall do the intended act and die, the person who said as above shall not be free from responsibility; let him pay one half of three times the price of deceased's body, as compensation, (forty-five tickals.)

16*th. The law when one person encourages another to commit an assault.*

Oh king! if any one shall send a person to beat, spear, or shoot another, and on the strength of being so sent he shall do so, let him pay one, and the person who sent him two thirds; if the assaulted person die, let the compensation be according as when both are sued and the matter is clear. If the parents or relations of the deceased, or the person who suffered the assault, has sued the person sent, (the active party,) and after he has paid compensation shall sue the person who sent him, if he admit that he did so, let him pay one third of the fine; they shall not say they did not sue him because they did not know him, and their suit was confined to the person sent.

17*th. The law when a person was about to assault another, and a third party who happened to say "that's right," shall not be free of responsibility.*

Oh king! if a person shall not send another, but hears him say he will beat, or kill, or injure such a one, and say "that is good, do it," let him bear one third of the fine. Thus the recluse called Menoo said.

၁၅ မတိုက်တွန်းရာသူခြောက်ယောက်ကိုတိုက်တွန်း၍သေသည်။ တိုက်တွန်းသူလျော်ရသောတရား။

မင်းကြီး။ မတိုက်တွန်း။ မပြဿနာ။ မဆို အပ်သော သူ ခြောက် ယောက် တဦး။ခြောက်ယောက်ဟူသည်ကား။မလိမ္မာ။ဆယ်နှစ်မပြောက်သေးသောသူ။ ၁။ ။ကိုယ်စိတ်ကိုမထိန်းသိမ်းနိုင်ရူးသောသူ။ ၂။ ။ပဋိသန္ဓေမစွဲ၍ယောက်ျားတပါးကိုမပေါင်းဝံ့။အရှက်ရသောသူ။ ၃။ ။အမျက်ဒေါသကြီး၍သူတပါးကိုအလွန်အကျူးပြု၍အပြစ်ကိုကြောက်သောသူ။ ၄။ ။ ။သူတပါး၏အညှင်းအပန်းကိုခံရသူ။ ၅။ ။ရောဂါအနာကြီးရှိသောသူ။ ၆။ ။ဤခြောက်ယောက်သောသူတို့သည်။လည်ကိုကြိုးထည့်၍သေမည်။ချောက်ကြီးဆင်း၍သေမည်။ တွင်းကိုဆင်း၍သေမည်။တောင်ကမ်ပါးကဆင်း၍သေမည်။ ရေသို့ဆင်း၍ သေမည်။ မီးသို့ဆင်း၍ သေမည်။ အဆိပ်ရှိသော သတ္တဝါတို့ကို ကိုက်ခဲစေ၍သေမည်။ ဆင်နှင်း။ ကျား ကိုက်ခံ၍ သေမည် ဟုပြောဆိုပြုမူသည်ကိုမြင်လျှင်။ တားဆီး ရမည်ကို ဤအကြောင်းပြီကောင်း၏ဆို၍ ဆိုတိုင်းပြုသဖြင့် မတား မဆီး ဘဲသေ ချေလျှင်။ ဆိုသူဝန်မလွတ်။သေသူ၏ကိုယ်ဖိုးသုံးဆယ်တွင်တဝက်။ဆိုသူကလျော်စေ။

၁၆ တယောက်ကိုတယောက်။ထောင်းသတ်ရိုက်နှက်တိုက်တွန်းသောတရား။

မင်းကြီး။ အကြင်သူတယောက်ကို။သူတယောက်က။ထောင်းသတ်ရိုက်နှက်ထိုးပြစ်ပြုချေဟုစေ၏။ တယောက်ကလည်း။ငကိုစေပြီတကားဟူ၍။ထိုစေသူ ဆိုတိုင်း ပြုချေအံ့။ စေ သူတဆ။ သတ် သူနှစ်ဆ။ သေ သော်သေပြစ်အတိုင်းလျော်စေ။ဤကားနှစ်ယောက်လုံးကိုစွဲ၍ထင်ရှားသောအပြစ်တည်း။ ။ ။သေသူမိဖပေါက်ဖော်အသတ်အရိုက်ခံရသူတို့က။ သတ်ရိုက်လက်ရောက်သူတို့ ကိုစွဲ ၍ လျော်ပေးရပြီးမှ။ စေသူကို လျော် သူက။ အလျောက် စွဲလျှင်။ စေ သူမှန် ပေက။ လျော်သူတွင်သုံးစုစု၍တစုဝင်၍ပေးစေ။ ငါတို့မသိ၍စေသူကိုမစွဲရ။လက်သည်နှင့်သာပြီးကြရသည်ဆိုသော်မဆိုသာချေ။

၁၇ သူတယောက်ကိုရိုက်နှက်ဖျက်ဆီးမည်ကိုတယောက်ကြားက။ ကောင်း၏ဟုဆိုသော်ဝန်မလွတ်သောတရား။

မင်းကြီး။ စေကားမစေ။သူတပါးရိုက်ခတ်ထောင်းသတ်မည်။ အသေပြုမည်။ဖျက်ဆီးမည်ကိုပြောလိမ့်။ကြားသူကကောင်း၏။ ပြုတော့ဆိုမိလိမ့်။ ဤသူလည်းအပြစ်တွင်သုံး စုစု၍တစုခံစေဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

*18th The law regarding one person kicking another.*

Oh king! if (by a kick,) a leg, shoulder, or arm, be broken, let ninety tickals of silver be paid in compensation. If a kick be inflicted on the breast, face or head, let sixty tickals be paid; if the blow be given with the hand, let thirty tickals be paid. If in a struggle between two people for some article of property, a kick shall be by accident inflicted on the breast, face, cheek, or head, not with any intention of causing death, but merely from anxiety to possess the property, or if a kick be given in a moment of passion, let fifteen tickals of silver be paid in compensation. If the head be broken, the skin torn or ruffled, if blood be drawn, or a front tooth broken, let fifteen tickals be paid; if a back tooth be broken, seven and a half tickals (shall be paid in compensation.)

*19th. The law when a person cuts off the thumb, great toe, or other finger or toe, of another.*

If the little finger or toe be cut off, ten tickals (shall be the compensation,) and for the others, including the thumb and great toe, let the amount be double. This is when the injury is inflicted in a struggle for some article of property. If it is inflicted in a fit of rage, and a tooth, finger or toe, is broken, a kick inflicted on the breast, the front hair pulled, or any other assault with the hands, or feet, thirty tickals is the fine; it is a matter of assault; but if the breast or head be kicked, the fine is sixty tickals.

*20th. The law when one person pulls another's hair.*

If the hair be pulled with the hand, thirty tickals; if it be twisted round the toe, or trodden on, sixty tickals shall be paid in compensation.

*21st. The law when a thief may be killed in catching, when not.*

Oh king! if in catching a thief he be struck and there die, let him die; there is no blame. If he has been confined as a thief, and in catching him after his release, when he has none of the property on him, he be struck and shall die, this shall not be done; let compensation be made by paying the balance of the fine for murder, after deducting the fine for theft. In catching an enemy, he shall not be killed or injured; if he be, let the offender be punished according to the offence. In a dispute, if the parties get enraged, the person who exceeds (the other in violence) shall not be held free of blame; let let him make reparation according to the law of assault.

### ၁၈ ခြေဖြင့်ကျောက်သည်တရား။

မင်းကြီး။ ပေါင်ကျိုးသော်။ လက်ရုံးလက်မောင်းပိုင်းပိုင်းကျိုးသော်။ ငွေကိုးဆယ်လျော်စေ။ ။ရင်ကိုခြေနှင့်ကျောက်သော်။မျက်နှာကို ခြေနှင့်ကျောက်သော်။ ဥသျှောင်ကိုခြေနှင့်ကျောက်သော်ခြောက်ဆယ်လျော်စေ။ လက်နှင့်ဖြစ်လျှင်သုံးဆယ်လျော်စေ။ဥစ္စာရှက်တင်၍နှစ်ဦးလုံးထွေးကိုင်ရာတွင်။ ရင်ကိုလည်းကောင်းမျက်နှာပါးပြင်ဥကျှောင်းကိုလည်းကောင်းခြေနှင့်ကျောက်မိသော်။ ဥစ္စာကိုသာလိုက်သည်။ သေစေချင်သောနှစ်လုံးမရှိ။တခဏအမျက်ဒေါနှ်၍ကိုင်မိကျောက်မိ။ခြင်းဖြစ်သည်။ ငွေတဆယ်ငါးကျပ်လျော်စေ။ ဥကျှောင်းကွဲလည်းငွေတဆယ်ငါးကျပ်လျော်စေ။ အရေစုတ်၍သွေးထွက်သော်လည်းငွေတဆယ်ငါးကျပ်လျော်စေ။ သွားကျိုးမူ။ တဆယ်ငါးကျပ်။ ။အံသွားကျိုးမူခုနှစ်ကျပ်နှစ်မတ်။

### ၁၉ သူတယောက်ကြောင့်လက်သန်းခြေသန်းလက်မခြေမပြတ်သောတရား။

လက်သန်းပြတ်မူတဆယ်။ ခြေသန်းအတူ။ ၎င်ကတက်၍ခြေမလက်မတိုင်အောင်။ နှစ်တက်လျော်စေ။ ဤလျော်ပြစ်သည် ဥစ္စာကြောင့်ကိုင်ငင်ရာတွင်အပြစ်တည်း။ ။မင်းကြီးဥစ္စာရရာသောအကြောင်းမဟုတ်ဒေါသဒေါနှ်၍ ဖြစ်ချေကသွားကျိုး လက်ချောင်းခြေချောင်းဦးဆံ ရင်းခြေလက်ကျောက်ရောက်သမျှသုံးဆယ်စီ။ အပြစ်သည်။လက်ရောက်ပြစ်တည်း။ ခြေနှင့် ရင်ကိုဥကျှောင်းကိုကျောက်သော်အပြစ်မှာငွေခြောက်ဆယ်တည်း။

### ၂၀ တယောက်ဆံကိုတယောက်ဆွဲသောတရား။

ဆံကိုလက်နှင့်ဆွဲသော်။ သုံးဆယ်။ ဆံကိုခြေမှာပတ်ရစ်နင်းချေသော် ခြောက်ဆယ်လျော်စေ။

### ၂၁ သူခိုးဖမ်းရာတွင်သေပိုင်။မသေပိုင်သောတရား၊

မင်းကြီး။ သူခိုးဖြစ်၍ဖမ်းကိုင် ငင်ရာရိုက်နှက်၍ ထိုတွင် သေကသေ။ ပိုင်စေ။အပြစ်မရှိ။သူခိုးဖြစ်သည်။ ချုပ်ထား၍လွှတ်သည်နောက်ဖမ်းရာဥစ္စာထုပ်မရှိ။ ရိုက်၍ သော်မသေပိုင်ချေ။သေပြစ်နှင့်ခိုးပြစ်ချ၍ လျော်ပေးစေ။ ရာန်သူဖြစ်သည်။ကိုင်ခြင်း၌မသေပိုင် ။မကျိုးပိုင်။အပြစ်အတိုင်းကျိုးပြတ်သေသော်ပြောဆိုကြရာမတော် ဒေါသ အမျက်ထွက်၍ဖြစ် လည်း လွန်သူက။ အပြစ်မလွှတ်။ကိုင်ငင်ရိုက်ခတ်ခြင်းတရားအကျအတိုင်းလျော်စေ။

*22d. The law when a degraded person holds up his finger at a respectable one.*

In a quarrel, it is not proper to point with the fore-finger; if the person who suffered (the indignity) be of equal respectability with the offender, let one hundred tickals be paid in compensation. If an excellent man point with his finger at an inferior one, let him pay fifteen tickals; if they be both of the degraded classes, let fifteen tickals be the compensation.

*23d. The law by which all men are divided into the excellent, middling, and degraded, and these again divided three times.*

Oh king! the excellent class is the king, the queen, their chidren, brothers, and the heir apparent to the throne; there are none equal. Besides these, there are the other relations of the king, the great chiefs, ministers or lords, the lesser lords, and lords of lower degree, the wealthy class, bramins, thoogyees of villages, governors, land measurers, and those whom the king had advanced and given to. In this class there are again the great, middle, and lesser lords; so amongst the wealthy and mercantile class, there are three subdivisions, and it is with reference to these that a double amount* of compensation is laid down. There is the original class, and from that the fine in compensation, it is said, shall be caused to be paid in an ascending scale. Oh king! it is thus said of the inferior class. Amongst princes, there are the three classes,—the excellent, middle, and degraded; †—amongst lords, there are excellent, middle, and inferior; in the wealthy class the same subdivision is also made, and thus amongst men of the same class there is a distinction. The degraded classes are the dwoon-tsan-das and slaves, the descendants of slaves who are not redeemable. The dwoon-tsan-das are those who clean up the dung of elephants, horses, and other brutes, who must submit to be spit upon, who remove all offensive and stinking animals and things from the surface of the ground. They are constantly employed in burying these things. The utmost fine to be inflicted on an irredeemable slave is five tickals, and above these from dwoon-tsan-da seven and a half tickals, and from this, according to the gravity of the offence, the fine shall double as the offender ascends in rank; thus decisions may be given. When our Paralaung was in the person of a dwoon-tsan-da, servant to a wealthy man, and was employed to clear away filth, on a certain day, he saw the wealthy man's daughter, and determined not to leave the place unless he obtained her, and with determined bad passion he underwent great misery. The wealthy man beat and cuffed, yet he would not

---

* This appears to mean that one hundred tickals is the fine for equals, and twice that sum when an inferior points the finger of scorn at a superior.

† This should probably be [illegible]

၂၂ သူမြတ်ကိုသူနုပ်လက်ညှိုးထိုးသောတရား။

ခိုက်ပွားရန်တွေ့သော်လည်း ဆိုရာ။ လက်ညှိုး ဖြင့်မထိုး မညွှန် သင့်ချေ။ ထိုးညွှန် ၍ ပြခံရသူမြတ် ခြင်း ဖြစ်က။ ငွေ တ ရာ လျှော် စေ။ သူမြတ် ကသူယုတ်ကိုထိုးချေက။တဆယ်ငါးကျပ်လျှော်စေ။အယုတ်ခြင်းဖြစ်ကလည်း။တဆယ်ငါးကျပ်လျှော်စေ။

၂၃ အမျိုးအစုစုအယုတ်အလပ်အမြတ်ခွဲ၍တစုတွင်သုံးသွယ်စီခွဲသောတရား။

မင်းကြီး။ သူမြတ်ဟူသည်ကား။ အရှင်ဇေကရာဇ်။ အရှင်မိဖုရား။ သားတော်။ ညီတော်။ အိမ်ရှေ့ဥပရာဇာများ မှာတူခြင်း ငါ။တူသူမရှိ။ဧင်ပြင်မင်းဆွေမိုးမျိုးမဟာသေနာပတိ အမတ် ကြီး အမတ်လပ်အမတ်ငယ်။ သူဌေးသူကြွယ်ပုဏ္ဏားရွာသူကြီး ပြည်စိုးမြေတိုင်။ အရှင်ချီးမြှောက် ၍ အရာအထူးတက်သောသူတို့သည်အမြတ်တည်း။ ထိုအမြတ်တို့တွင်။ အမတ်ကြီးအမတ်လပ်အမတ်ငယ်။သူဌေး သူကြွယ်ဥစ္စာရတတ်သော သူကုန်သည် ပြုသောသူလည်းသုံးသွယ်စီချည်းရှိ သည်။ ဧင်ကိုစွဲ၍ နှစ်ဆတက်ဆိုသည်။ အမျိုးရင်းကရှိလေပြီး။ထိုကိုတက်၍အပြစ်ကို လျှော် စေ ဟူသတည်း။ ။မင်းကြီး။ အမျိုးနိမ့်ဟူသည် ကား။ မင်းသားချင်း တွင်သုံးပါး။အမြတ်အလပ်အယုတ်တည်း။ ။အမတ်ချင်းတွင်သုံးပါး။အမြတ်အလပ် အယုတ်တည်း။ ။သူဌေးသူကြွယ်ဥစ္စာရတတ်သောသူတို့မှာလည်း။ဤသို့သုံးပါးတည်း။ဤကားအရေးတူချင်းတွင် ရွေး ရာ သည် ကိုဆိုသတည်း။ ။အမျိုး ယုတ်ဟူသည်ကား။ဒွန်းစဏ္ဍားကိုဆိုသည်။ အစည် အလာရွေးမရကျွန်ကိုလည်းဆိုသည်။ ဒွန်း စဏ္ဍား ဟူသည် ကား။ ဆင် ချည်း မြင်းချည်း တိ ရိစ္ဆာန်ချည်း တံတွေးထွေး ခံ ရအညှီးအနံ့ အပုတ်မကောင်းရှိ သ မျှ ကိုမြေပေါ်တွင် မရှိ စေရ။ အ စည် မြှုပ် ထား ရသော သူ ကို ဆို သ တည်း။ ကျွန် စည် ရွေး မ ရ။ ထို အပြစ်သည်ငွေငါးကျပ်အဆုံး တည်း။ ဧင် အထက် ဒွန်းစဏ္ဍားတို့၏ အပြစ် ငွေ ခု နှစ်ကျပ် နှစ် မတ် တည်း။ ဧင်ကရည် ၍ နှစ်ဆစီ အပြစ် ပေါ့ လျှင် ပေါ့ လျော့က်။ လေးလျှင်လေးလျှောက်။တက်၍စီရင်။ ဒွန်းစဏ္ဍားဟူသောအမျိုးတွင်။ငါတို့ဘုရားလောင်းဖြစ်၍သူဌေးအိမ်၌အစည်အခစားကုန်ယူဖို့၏။ တနေ့သ၌သူဌေးသမီးကိုဘုရား လောင်းမြင်လျှင်။ ဤသူဌေးသမီးကိုရမှသွား မည်။ ခက်ထံသောမာန်ဖြင့် ဘုရားလောင်းကိုယ်ကို ဆင် ရဲ ခံလေ၏။ သူဌေး လည်း သတ်ရိုက်ငင်ဆွဲ ၍ ချင့်ကိုပြုလေ၏။ ထိုသို့ပြုသော်လည်းမရှောင်။သမီးကိုရမှဟုအ

go away, but with the wish of obtaining the daughter, put up with great misery. The wealthy man frequently beat him. The wealthy man's daughter represented that he must ultimately die, in which case he (her father,) would have to endure the pains of hell, and the punishment inflicted by princes, and begged that she might be given to him; so the wealthy man gave his daughter to the dwoon-tsan-da, and a better temper having possessed him, he become a Yathay and Rahan, and obtained zan. The wealthy man having learned this, made an obeisance to him as he returned from the expanse of the heavens, and he was a fit object for such respect. Bearing this in mind, all men whatever, even of the most degraded class, are worthy to be raised to rank and station, if the habits are good. Though (the Paralaung) was a dwoon-tsan-da, even in that state, his habits being good, and because he abided by the truth, he received the respect and homage of many men. Thus the Yathay said to the king.

24*th*. *A tradition in illustration of the law that when a man goes where he ought not, and meets with misfortune or death, there is no blame.*

Oh king! in the time of the god Way-tha-boo, the king of a certain country, went into the forest and encamped near a clearing and garden; he sent round the gong and proclaimed that if any of the royal followers took any thing from the garden, they should be severely punished, and they obeyed the proclamation. But to ascertain that they did so, the king went into the garden at night, and alone; the owner of the garden asked him if he had not heard the proclamation of his royal master. The king replied, "I am the king of the country, and have come to see whether or not my orders are obeyed." The owner of the garden rejoined, and said that the king of the country would come with officers and followers, and that he did not believe him, and thus, not knowing the king, he beat him with a stick that he died, and covered up his body in a cucumber bed. When the lords went that night to wait on the king, they did not see him; so they went into the garden to look for him. The owner of the garden told them not to come there; that the king had issued a proclamation, and that that night a man had come in and been beat to death by him, and he had covered him up with rubbish. On hearing this, the lords looked, (and said,) "it is our king;" if the men and officers of the force come to know this, they will be panic struck; and if the kings of other countries hear it, they will attack and destroy ours, and our enemies will be numerous. So, that it might not be known, they buried the king, and giving the owner of the garden his ornaments, said, "you are a proper person to be king." He refused and said "I will not be king." The lords struck him on the neck, and he then consented to become king, and did so. The queen and lords had all agreed, but afterwards some lords withdrew

တင်းဆင်းရဲကိုခံ၏။သူဌေးလည်းအကြိမ်များစွာဆုမွန်၏။ကြာလျှင်သေလတ့်။ သေသော်အဖ သူဌေး ငရဲတသွယ်။ ရာဇဝတ်တကြောင်း ရှိတော့မည်။ ကျွန်တော်မကိုပေး တော်မူပါတော့ဟု တောင်းပန် ၍ သမီး ကို ပေး လေ၏။ ဘုရားလောင်းရလေ၏။ ။ကောင်းသော စိတ်စွဲ၍ရသော့ ရဟန်ပြုလေ၏။ချာန်ရ၍ကောင်းကင်ကလာရာတွင်အကြောင်းကိုသိ၍တဖန်ပူဇော် ခြင်း ကို ပြု၍ ပူဇော်ခံထိုက်လေ၏။ ထိုကိုရည် ၍ အမျိုးနိမ့်သည် ဖြစ်လည်း အကျင့် ရှိလျှင်မည်သူမဆို အရာပေးထိုက်လေ၏။ ဒွန်းစဏ္ဍားဖြစ်လျက်။ထိုအပြစ် ဌ် အကျင့်ကောင်း ၍သစ္စာမှန်ခြင်းကြောင့်အများပူဇော်ခံရ သတည်းဟု မင်းကြီးအားရှင်ရသော့ဆိုတော်မူ၏။

## ၂၄ မသွားတန်သွား၍ဘေးရောက်သော်။သေသော်လည်း အပြစ်မရှိစကားထုံးပုံ။

မင်းကြီး။ဝေသဘုဘုရားလက်ထက်။ပြည့်ရှင်မင်း သည် တောသို့သွားရာ။ယာတခုအနားသို့ရောက်လေ၏။ကျွန်တော်မျိုးတို့မဖျက် မဆီးမယူနှင့်။ ယူသော သူကိုဒါဏ်ပေးမည်။ မောင်း ခတ်၍ ဟစ်ကျော်စေ၏။ ကျွန်တော်မျိုးတို့လည်း အမိန့်တော်အတိုင်းတည်၏။ တည်မတည်ကြည့်မည်။ မင်းကြီးတယောက်တဉ်း။ညည့်အခါယာခင်းသို့ဝင်လေ၏။ ယာသခင်ကလည်း။နင်တို့သခင်မောင်းလည်သဉ်ကိုမကြားလာဟုဆို၏။မင်းကြီးကလည်းငါပြည့်ရှင်မင်းဖြစ်သည်။ ငစကားအတိုင်းတည်မတည်ကိုကြည့်မည်။ဝင်ရောက်သည်ဆို၏။ ယာသခင်ကလည်း ဆိုပေ၏။ ပြည့်ရှင်မင်း ဖြစ်တပြီကား။ မိုလ်ပါ နှင့်လာလမည်။ မယုံးဆို၍ မင်ကြီးကိုမသိခြင်း ကြောင့်။ လှံကန်နှင့်ရိုက် ၍သေလေ၏။သခွားနွယ်ဖုံး၍ထားလေ၏။ ထိုညည့်အမတ်တို့သည်။ မင်း ရင်ပြင်သို့ခစားမည်သွား လေသော်။ မင်းကိုမတွေ့၍ ယာခင်း သို့ဝင် ရောက်ရှာကြလေလျှင်။ ယာသူကြီးက။ သင်တို့မဝင်နှင့်။ မင်းက မောင်း ခတ်သည်။ ညည့်သူတယောက်လာ၍ငါရိုက်နှက်ရာသေပြီ။အမှိုက်ဖုံး၍ ထားသဉ်ဆိုရာ။ အမတ် တို့ကြည့်လျှင်။ ငါတို့ပြည့်ရှင်မင်း ကြီးဖြစ်သည်။ မိုလ်ပါသိသော်ထိတ်လန့်တော့မဉ်။တနိုင်ငံ။ တပြည်ထောင်မင်းကြားကလည်းငါတို့ပြည်ချောက်ချားပျက်စီးလတံ့။ ရံမျှား လတံ့။ သူတပါး အများမသိစေရ။ မင်းကြီးကိုမြေ၌မြုပ် နှံ၍ယာသူကြီးကိုမင်းတန်ဆာပေး၍နင်မင်း ပြုအပ်၏။ ငါမင်း မပြု ညင်၏။ အမတ် ကြီးတို့။ တောင် သူကြီး လည်း ကုတ် ကို ထု၏။ ယာသူကြီးလည်းမင်းပြုပါမည်ဝန်ခံ၍မင်းပြု၏။ မိဖုရားအမတ်တို့ညီညွတ်ကြ၏။ နောက်မညီ

their consent, and plotted together to rebel. The nat of the (palace) door, and female nat of the white umbrella slapped and corrected them. On this they were afraid, and submitted to the gardener, and the country was prosperous and happy. Bearing this in mind, it is not proper to rebel (resist) a person who has risen from a low to a high station. If the original (luck) or stock of merit be great from former good deeds, he may arrive at high estate. So remembering what happened in the time the holy god Way-tha-boo judges, teachers of the law, lords and kings, may decide. Thus the lord Yathay called Menoo said.

**END OF THE FOURTH VOLUME.**

မညွတ်အမတ်တို့ယာသူကြီးကိုပြစ်မှားစကားဆိုကျင့်ရာတွင်။ တံခါးစောင့်နတ်။ ထီးဖြူစောင့်နတ်သွီးတို့အမတ်ကြီးကိုပုတ်ခတ်ဆုမ္ဘလေ၏။ ထိုတွင်မှကြောက်၍။ ယာသူကြီးဖြစ်သောမင်းကိုခညွတ်၍။ ပြည်ရွာသာယာလေ၏။ နှိမ့်ရာကအမြင့်သို့ရောက်လေပြီးသောသူကိုမပြစ်မှားအပ်။ နှိမ့်သောသူပင်ထိုကိုထောက်၍ ဖြစ်သော်လည်း ကံရင်းသံလျှင် အမြင့်သို့ရောက်ချေသည်။ ဝေဿဘူဘုရားရှင်လက်ထက်တော်ကအကြောင်းကိုမှတ်၍ တရားသူကြီး။ တရားဆရာအမတ် စသောမင်းတို့သည်။ စီရင်ဆုံးဖြတ်ရာ၏ဟုမန္ဓမည်သောရှင်ရသေ့ဆိုတော်မူ၏။

စတုတ္ထခဏ်း။ နိဋ္ဌိတံ။ ။စတုတ္ထတွဲပြီး၏။

# LAWS OF MENOO.

THE FIFTH VOLUME OF THE

## GREAT WORK OF MENOO.

*I worship the god who is worthy of all homage, who possesses an intuitive knowledge of good.*

I will lay down the law contained in the fifth volume.

1. The law of murder.

2. The law for decision, when one of one class assaults one of another with a club, after enquiry as to the higher or lower class.

3. The law regarding being present, standing round a person committing an assault.

4. The law when a master beats his slave, so that he dies.

5. The law when a husband and wife, a son and daughter, or relations, assault each other.

6. The law when it is proper or not, to put to death a Rahan, or Bramin, a child, a woman, or a mad person.

7. The law when a mad person, a drunken person, an idiot, being extremely ill, and a person saying, "they will die to-day," shall kill him.

8. The law regarding the killing of elephants, camels, horses, buffaloes, oxen, or large brutes.

9. The law when a woman with child is laid hands on.

10. The law regarding restitution for oxen, buffaloes, elephants and horses killed, by fixing the price of a young calf, a foal, or young elephant just born.

11. The seven kinds of wives, and the duty of a husband and wife towards each other.

12. The law when a wife ought to accommodate herself to her husband's habits.

13. A story of the companion of husband's wives and children.

14. The law when a husband having gone on a trading trip, his wife took a husband before his return.

15. The law when a wife becomes a slave before his return.

16. The law when a husband, going to acquire knowledge, leaves subsistence for his wife for a specified time.

17. The law when a husband and wife, having no affection for each other, separate.

# ။မနုအကျယ်ပဉ္စမတွဲ။

---

## နမောတဿဘဂဝတော။အရဟတော။သမ္မာသမ္ဗုဒ္ဓဿ။

---

မာတိကာ

ပဉ္စမတွဲတွင်ပါသည့်တရားအမည်ကိုဆိုပေတုံအံ့။

18. The law when a husband or wife having leprosy, or being mad, diseased, or unclean, when the sound one may put the diseased one away.

19. The law when two brothers live together, one goes on a trading expedition, and the other in the house takes possession of his wife.

20. The law when if the husband's habits are good, the wife should accommodate or follow them; when the wife's habits are good, the husband should follow her example.

21. The law when the wife makes religious offerings without the knowledge of her husband, when the husband makes religious offerings without the knowledge of the wife.

22. The law when the five members of a husband and wife being compared, the decision was given by the length or shortness of the fore-finger.

23. The law when a younger sister was raised to high rank, and her elder sister acted improperly towards her.

24. The three ways in which a man and woman become husband and wife.

This is the list of the twenty-four laws contained in the fifth volume.

### 1st. *The law of murder.*

The law of putting to death is this: (Here follows a short Pali sentence, the meaning of which is given in Burman as follows:) Oh king! because it is thus said, that from any man who has killed another with a sword, spear, bow and arrow, or any other instrument, it is proper to demand restitution in an increased number of men; it is not proper to put him to death. What is the comparison? —it is this,—any dog that shall have bitten a man's foot, as it is not proper for that man to bite the foot of the dog, so it is not proper to put a man who has killed another to death in return; and a king who in this does not put a murderer to death, will be praised by the gods and all good men, and supported and adhered to by them; and all evil nats who have no respect for the laws, shall keep at a distance from them; and the country of such a king shall be called an excellent country; and the inhabitants will be prosperous and happy; for this reason, all the inhabitants of the country, the gold, silver, gems, elephants, horses, buffaloes, oxen, paddy, rice, water, and whatever property is said to be the property of the king who has authority over the land and water;—and from this it is said without cause, it ought not to be taken from them by force. If saying, "I have authority," it shall be taken, his fortune shall be less both in this life and to all eternity. And in the kingdoms of those kings who do not put to death such degraded (bad) men, the rains

၁၈ လင်နှင့် မယား နှစ်ယောက်တွင် တယောက်ယောက် နူနာ၊ ရူးနာ၊ မစွမ်ကို၊ တယောက်ယောက်ပြစ်စွမ့်သောတရား။

၁၉ ညီနှင့်အစ်ကို နှစ်ယောက်အတူနေ၊ တယောက် ယောက် ကုန်သွားသည်၊ တယောက်အိမ်တွင်မယားကိုသိမ်းပိုက်သည်တရား။

၂၀ လင်အကျင့်ကောင်းသော်မယားလိုက်ရာ၏။ မယား အကျင့်ကောင်းသော်လင်လိုက်ရာသည်တရား။

၂၁ လင်မသိမယားလှူသည်၊ မယားမသိလင်လှူသည်တရား။

၂၂ လင်မယားအင်္ဂါငါးပါးနှင့်တိုင်၍လက်ညှိုးတို့ရှဉ်စီရင်သောတရား။

၂၃ ပေါက်ဖော်ညီအစ်မ၊ ညီမအချီးအမြွောက်နှင့်၊ ညီမကျူး လွန်သည်တရား။

၂၄ လင်မယားဖြစ်ရာသည်သုံးပါးတရား။

တရားပေါင်း ၂၄ပါးပဉ္စမတွဲတွင်ပါသည်ကိုထုတ်ဖော်၍ထားသည်။

၁ သုကိုအသေသတ်သောတရား။

အသေသတ်သောသူတို့၏တရားကား။ ။ကာအဌာ နာလာပတိသောစ။ လသောယတ္တရပဟန္တယောဘဝန္တု နကလဒ္ဒဝံပဟာစေနပရိခါတယော။ ။ဤသို့ဆိုသော့ကြောင့်မင်းကြီး။ သုကိုအသေသတ် သောသူတို့သည်ကား၊ အိမ်ဓားလှံလေးမျှားစသောလက်နက်တို့ဖြင့် အသေသတ်မိအံ့၊ အတက်အလျှော်တောင်း အပ်၏။ အသေသတ်တုံမသတ် အပ်၊ ဥပမာ ကား၊ အကြွင်ခွေးသည်သူတထူးခြေကိုခဲဘိအံ့။ ထိုသူသည် ကိုက် သော ခွေး၏ ခြေ ကို မ ခဲ ကောင်းသောအရောင်ကဲ့သို့အသေသတ်တုံမသတ်အပ် သတည်း၊ ထိုသို့မသတ်သောမင်းတို့ကို ဘုရား စ သော သူ တော် ကော င်းတို့ သည် ချီး မွမ်ကုန် ၏ ။ စောင့်ရှောက်ဆည်း ကပ်ကုန်၏။ တရားမစောင့် သောနတ်မိဿာတို့သည်ကား။ ခွာရလေကုန်၏။ ထိုမင်း ၏ရွာပြည်ကား၊ မြတ်သောပြည်မည် ရာသတည်း။ ခပ်သိမ်း သောပြည် သူတို့ သည်လည်း၊ ကြွယ်ဝ ချမ် သာစွာရှိရာသတည်း။ ထိုကြောင့် ပြည် သူတကာ တို့၏ ရွှေငွေ ရတနာ ဆင်မြင်း ကျွဲ နွား စပါး ဆံရေစသောစည်းစိမ်ချမ်သာတို့သဉ်ကား။ ရေမြေကိုအစိုးရသောမင်းဥစ္စာမည်ရာသတည်း၊ ထိုသို့ကားဆို တုံ၏။ အကြောင်း မဟုတ်ဘဲကို အနိုင် အ ထက် မယူအပ်သတည်း။ အစိုးရ၏ဟုယူဘိမူကား။ ပစ္စုပ္ပါန်သံသရာဟူသောအကျိုးနှစ်ပါးယုတ်ရာလေသတည်း။ ထိုသူယုတ်တို့ကိုမသတ်သောမင်းတို့၏ ပြည်တိုင်းကားတို့ကားမိုဃ်းလေတို့သဉ်ညီညွတ်စွာလျှောင်ရွာပေကုန်၏၊ ထိုသို့ရွာ

are equal, and all grain planted in such rains, in one day all at once grows most flourishingly; and this grain is perfect in flavour, pleasant to the palate. In the country of kings who are not just, grain planted in the same day at the same time, some ripens, some becomes nearly ripe; and for this reason, bribes must not be taken, nor violence be had recourse to; but the advantage of the people of the country must be advanced by means of the laws. If by unlawful and violent means, the duties and taxes, or bribes, be taken, the lords, servants and judges of such a king will, following his example, by violent distress, oppress each other, and when they do this, the king falls into one of the six sins; all the bad nats are on the watch about him, and the good nats keep at a distance. For this reason, kings, who do not avoid bad deeds, are like a ship which sinks at sea in a storm, with much goods and the merchant; in the same way they fall into hell. In former times, before the god (Gaudama) appeared, a most wicked young Bramin killed his wife, and at the time of the murder his fellow Bramins consulted together and agreed on that this young Bramin had committed a crime no one else had committed, and what they should do with him; so they having shaved his head and turned him out of society, they caused him to be called "Tsandala," and from that the Tsandala class became a distinct one for the most wicked, incorrigible Bramins. Thus as these excellent Bramins who had a respect for themselves, did not kill this wicked young Bramin, as they turned him off from communication with his class. Taking these Bramins for an example, and considering the condition of the offender in this world, and relations with the next life, king, lords, governors, judges, and good men, who have a respect for themselves, when by a slap, a kick, a blow, a push, or a tear, much violence has been used and a party killed, shall consider whether compensation* shall or shall not be demanded. In the "we-nee," (Boodhist scriptures,) it is laid down, as it is a most difficult subject (or a most heavy offence,)

---

* အသက်အလျော် This relates to the sacred law in the Wenee, where it is said there are four crimes so heinous in a priest, that men can inflict no adequate punishment. These are consequently only to be turned out of the priesthood, and left to the succession of punishments which must naturally follow through many ages of change, from one degraded state of existence to another, till the sufferer has atoned for the offence. The crimes are—*murder* of a man—*theft* beyond one quarter tickal value—*fornication*, or connection with any brute, man or woman—boasting of having obtained Zam-met.—These are called ပါရာဇိကလေးပါး။ The fornicator, &c. is laid down in the ပါရာဇိကံကျမ်း။

သောမိုဃ်း၌ပျိုးသောမျိုးပဲတို့သည်လည်း။တနေ့တည်းတပြိုင်နက်ကောင်း
မွန်စွာရောက်ပေကုန်၏။ ထိုစိုက်သောကောက်ပင်တို့သည်လည်း အလွှန်မြိန်
ရှက်စွာသောအရသာနှင့်ပြည့်စုံသည်ဖြစ်ပေကုန်၏။ မတရားသောမင်း၏ပြည်
၌တနေ့တနံက် ၌ စိုက်ပျိုး သော ကောက်ပင် တို့သည်လည်း အချို ကား မှည့်
၏။အချိုကားရွမ်၏။ထိုကြောင့်တမိုးတို့ကိုအနှိုင်အထက်မယူကုန်ရာ။ ။
။ ။တရားသဖြင့်ပြည်သူတို့၏အကျိုးတို့ကိုသာဆောင်အပ်သတည်း။ ထိုသို့
မတရားသဖြင့်အနှိုင်အထက် အခွန် အထုတ် တမိုး လက် ဆောင် တို့ကိုယူဘိ
မူကား။ထိုမင်းတို့၏အလိုသို့လိုက်၍ မင်း၏အမတ် အစေအပါတရား သူကြီး
တို့သည်အနှိုင်အထတ်အချင်း ချင်း ညှဉ်း ဆဲကုန်အံ့။ ထိုသို့ပြုကြလေသော်။
မင်းတို့သည်ကား။ မကောင်းကျိုး ခြောက်ဖို့တွင် တဖို့ဝင် လေရာ၏။ တရား
မစောင့်သောနတ်တို့သည် လည်းစောင့်၍နေလေကုန်၏။ တရားစောင့်သော
နတ်တို့သည်ကား။ ဖဲကြည်လေကုန်၏။ ထိုကြောင့်မကောင်း သောတရားတို့
ကိုကျင့်သော မင်း တို့သည် ကား။ အကြင်သမုဒ္ဒရာပင် လယ် မြစ် ၌ လေဆိုး
ဆောင်ရာပါလေသောလှေသင်္ဘောသည်မျှား သောဝန်စည်တို့ကိုယူ ၍ ကုန်
သည်တို့နှင့်တကွသမုဒ္ဒရာမြစ်၌နစ်လေသကဲ့သို့ထိုနှင့်တူစွာအထူးထူး သော
မကောင်းမှုတို့ကိုပြုသောသူတို့နှင့်တကွလျှင်ငရဲ၌ကျလေရာသတည်း။ ။
။ ။ရှေးသောအခါဘုရားမဖြစ်မှီ၌ကြမ်ကြုတ်စွာသောပုဏ္ဏား လုလင်
တယောက်။ မိမိ၏မယားကို အသေသတ်ဘိ၏။ ထိုသို့သတ် ဘိသောအခါ၌
ပုဏ္ဏားတို့သည်အညီအညွတ်စည်းဝေး၍ကြံကြကုန်၏။ သူတကာတို့မဖြစ်ဘူး
သောအမှုကိုပြုတတ်သော ဤပုဏ္ဏားလုလင်ကိုအဘယ်သို့လျှင်ပြု ရအံ့နည်း။
တိုင်ပင်ကြကုန်၏။ ထိုသို့တိုင် ပင်ကုန် သော ပုဏ္ဏား တို့သည်။ ကြမ်ကြုတ်စွာ
သောလုလင်ကိုဥကျွောင်းရိတ်ပြီးမှ။ နှင်ထုတ်သော အမှုကိုပြု၍ စဏ္ဍာလဟူ
သောအမည်ကိုခံစေသည်။ထိုနေ့ကစ၍လျှင်စဏ္ဍာလဟူသောကြမ်ကြုတ်စွာ
သောပုဏ္ဏား၏အမျိုးဟူအထူး အခြားရှိသည်ဖြစ်သတည်း။ ဤသို့ကိုယ်ကိုချစ်
သောပုဏ္ဏား မြတ်တို့သည် မယားကို သတ်သော ပုဏ္ဏား လုလင်ကိုသတ် စား
မသတ်ဘဲအမျိုး၏ ဖောင်မှနှင်ထုတ်လိုက်သကဲ့သို့ထို ပုဏ္ဏားသူတော်မြတ်တို့
ကိုသက်သေပြု ၍ ပစ္စုပ္ပါန်သံသရာစီးပွားတို့ကိုပညာဖြင့် ထောက်ထားကြံ
စည် ၍ ကိုယ်ကိုချစ်သောမင်းနှင့် အမတ်ပြည်စိုး တရားသူကြီးသူတော်မြတ်
တို့သည်။ အပုတ်အခတ်အသတ်အထိုး အတွန်အဖယ်ပြုကြ ရာဝယ်။ လက်
ခြေလွှန် ၍ သေဘေး သို့ ရောက် အောင် ပြုသော သူတို့ကို။ အတက် အလျှော်
တောင်းအပ်မတောင်းအပ်သည်ကိုဆင်ခြင်ရာသတည်း။ ။ပိနည်းတော်
၏အလိုသော်ကား။အလွှန်နက်နဲသိမ်မွေ့သော့ကြောင့် လျှော်အပ်သောသူတို့

a priest who should make compensation, nothing shall be done (to him.) Amongst men, as murder depends on the witness, (the accuser) should name his witnesses. Having obtained the witnesses, the proper restitution shall be caused to be made. If the parties be of the degraded class, let the compensation be in proportion. If a person of the degraded class, with sword, spear, mallet, or stick, shall strike a respectable man so that he die, the amount of compensation to be paid by him shall be seventy men. If he does not die at the time, but if from the day of the assault he shall be bed-ridden, or cannot leave his house to any distance, or if he cannot eat his food, and shall ultimately die, the amount of compensation shall be thirty-five men. If after the assault the sufferer shall be able to go to the landing place of the village, the bazar, about the house to a distance, and die after a month or year, there should be no compensation. Oh excellent king! if any man shall assault another, and his companions shall not lay hands on the assaulted person, but shall encourage the committer of the assault by words to commit it, or having consulted shall come together, let the person who actually committed the assault make compensation to the amount of thirty tickals of silver, and those that stood round and encouraged him, pay fifteen tickals each; ten tickals of silver is also laid down. If they did not take any part in the assault, but were merely there as the friends and companions of the person committing the assault, let them pay five tickals of good silver.

2d. *The law for deciding when one of one class assaults one of another with a club, after enquiry as to the higher or lower class.*

Oh king! amongst men, as there are the higher and lower classes, a higher and lower price (in compensation) has been fixed; if a man, the price of whose body is thirty tickals, shall be killed by stroke or stick, let three hundred tickals be paid in compensation, and if a man worth fifty tickals be killed, five hundred shall be paid. If a man worth one hundred tickals shall be killed, let one thousand be paid. This is when one man kills another. But if a number of persons are concerned in killing one man, let each of those implicated (whose hand reached him,) make compensation in proportion to the price of his body.

3rd. *The law regarding standing round a person committing an assault.*

All those who are implicated in standing round and encouraging the assault, pay one half of the same amount; and those who do not aid and abet by encouraging the active parties, but who are present as their friends, pay five tickals each; but this is not to go further than where those who are to make restitution amount to sixty or seventy

ကိုကားကိစ္စမရှိပြီ။ အကြင်လူတို့တွင်သတ်ခတ်ကြသောတရားသည်ကား။ သက်သေလျှင်အကြောင်းရင်းဖြစ်သောကြောင့်သက်သေတို့ကို ဤမျှလျှင်ဟုထားပေရာ၏။ထိုသို့သက်သေရပြီးမှုကား။ ပုတ်ခတ်သတ်မိ၍ သေသော်အတက်အလျော်လျော်စေရာသတည်း။ သူနှုတ်ကားသူနှုတ် အလျောက်လျော်စေရာသတည်း။ ။အကြင်သူနှုတ်သည်သူကောင်းကိုခါးလှံဆောက်ပုတ်။ လှံကံတောင်ဝေးတို့ဖြင့် ပုတ်ခတ်သတ်မိ၍သေဘိမူကား။သူတက်ကိုသော်ကားခုနှစ်ကျိပ်တည်း။ လက်အောက်ကား မသေတုံ။ ပုတ်ခတ်သတ်မိသောနေ့ကသည်ပြတ်စပ်ရှိအံ့။ လယ်ချောင်းတောလား မသွားတတ်ရှိအံ့။ အစားအရေမစားတတ်၍သေမူကား။ သုတက်သုံးကျိပ်ငါးတည်း။ငင်အနာနှင့်ရေဆိပ်အိမ်ဈေးအဝေးအနီးသွားနိုင်ပြီး၍နှစ်လလွန်မှ သေမူကား။အပြစ်အလျော်မရှိအပ်။ ။မင်းကြီး။အကြင်သူတယောက်သည်သူတယောက်ကိုသတ်ရိုက်ထိုးပြစ်လေအံ့။ အဖော်လူတို့လည်းလက်မရောက်ကြ။ ညီဝန်းရန်၍သတ်ထောင်းရိုက်နှက်ဆို၍ပါအံ့။ အတူတကွတိုင်ပင်၍လာအံ့။ လက်ရောက်ငွေသုံးဆယ်စီလျော်စေ။ အဝန်းအရန်ဆိုခဲ့ပြီးသည်အတိုင်းမှန်လျှင်ဝန်းရန်သူတို့မှာ။ လကျာအရန်။ လက်ဝဲအရန်ကဲ့သို့ဖြစ်သည်တဆယ်ငါးကျပ်စီလျော်စေ။ ငွေတဆယ်လည်းဟူ၏။ ဤကားဝန်းရန်ဆိုမည်သူတည်း။ သူတယောက်ကိုသူတယောက်သတ်ရာမဆိုမမည်။ မတိုင်မပင်ဘဲသွားသောက်သငယ်ချင်းအဝင်အပါဖြစ်သည်သူတို့မှာ တကိုယ်လျှင် ငွေဖြူငါးကျပ်စီလျော်စေ။

၂ သုကိုဒုတ်လှံကံနှင့်ရိုက်နှက်သည်ကိုအမျိုးနိမ့်မြင့်စစ်၍စီရင်သောတရား။

မင်းကြီး။ အကြင်သူတို့တွင်။အမျိုးနိမ့်မြင့်ရှိ၍ အမိုးနိမ့်မြင့်ထားသည်။ ငွေသုံးဆယ်တံလူကို။ ဒုတ်လှံကံတို့ဖြင့်သတ်ရိုက်၍ သေမူသုံးရာလျော်စေ။ ငါးဆယ်တံသူကိုသတ်၍သေမူငါးရာလျော်စေ။ တရာတံသူကိုသတ်၍သေမူ တထောင်လျော်စေ။ ဤကားတယောက်ချင်းကိုဆိုသတည်း။ သူတယောက်ကိုအများလက်ရောက် ထိုးခုတ်သူတို့မှာထိုးခုတ်လက်ရောက်သမျှ။ သေသူအပြစ်ကိုယ်ဘိုးတွက်အတိုင်းလျော်စေ။

၃ ရိုက်နှက်ကြရာဝန်းရန်သောတရား။

ရိုက်နှက်ကြရာ။ ဝန်းရန်ပါသူတို့မှာနှုတ်တဉ်ဆိုချေမှုပြစ်ဝက်နှုတ်မဆိုသွားသောက်သူငယ်ချင်းပါဝင်သူတို့မှာငွေဖြူငါးကျပ်လျော်စေ။ ဤသို့ကားဆိုတုံ၏။ လျော်သူခြောက်ဆယ် ခုနှစ်ဆယ်တွင် ရပ်စေ။ ထိုတက်လွန်၍ ရာ

people. If there be beyond this number, and amount to one hundred or one thousand, let one, according to the class of the deceased, make compensation as above, and all the others, let them suffer heavy criminal punishment. It is also laid down that each man shall pay thirty, fifteen, and five tickals. This is a matter for consideration.

*4th. The law when a master beats his slave, so that he dies.*

Oh king! amongst men, if a master in causing an unredeemable slave to work, beat, or stab, or cut him with sword or other instrument, a stick, so that he die, being a hereditary slave, there shall be nothing paid in compensation; but let the master be punished criminally. This is because he is not the lord, ruler, the owner of the sword, the lord of life. Nevertheless, it is said that if the sword or other instrument, the stick, was not such a thing as ought to have caused death, if the slave was doing wrong, and the master corrected him with a switch, the palm of his hand, his elbow, the bight of a rope, and he died, it will not amount to a wilful manslaughter; he shall be free from the criminal punishment. This is said of an unredeemable slave, who does not belong to any of the royal establishments.* If he be of any of these, but a hereditary (redeemable) slave, and he die under such correction, let the compensation for killing a man, and the amount for which the deceased was bound, be calculated, and the lesser be deducted from the larger amount, and as the deceased may be of the three hundred class, the five hundred class, or the one thousand tickal class, let the balance be paid by the party by whom it is due; the master shall not plead that the deceased was his property, his own slave.

*5th. The law when a husband, a wife, a son and daughter, or relations, assault each other.*

Oh king! if any husband and wife, son and daughter, brothers and sisters, shall assault each other, so that they die, and the survivor had no wish to kill the deceased, he ought not to make compensation, or to be punished criminally. Why is this?—because (these relations) have no wish to kill each other. Within the seven degrees of relationship, that is, placing one's self in the middle and taking three in the ascending and three in the descending line, by an unfortunate blow one shall be killed, let the inflictor of the blow bear the funeral expenses, and let him support the parents, wife, children, and those who lived with him (deceased) for life; and if there be any debts left unpaid, let him pay them; let him not be subject to criminal punishment. But if it be not thus, but one reflecting, that another comes within seven degrees of relationship, there is no com-

* အရုအာငနိုး။ This seems to mean, not belonging to any of the hereditary servants of the king, his boat men, his horse men, his cultivators, his elephant men, his night watchers in the palace, or rather sleepers and others; the rest of the people are called ဆယ်နှမှထမ်။

ထောင်ရောက်မူသေသော သူ၏ အမျိုးအလိုက်။ တကိုယ်ရည်တွင် အလျော်
ထား၍ကြွင်းသော သူအပေါင်းတို့ကို ကြီး သော ရာဇဝတ်ဒဏ်ကိုပေးစေ။ခံ
စေလည်းဟူ၏။ လူတယောက်ငွေသုံး ဆယ်စီတက်၍တဆယ်ငါး ကျပ်။ငါး
ကျပ်စီတက်၍လျော်စေလည်းဟူ၏။ဤအရာကိုဆင်ခြင်ကုန်။

### ၄ ကျွန်ကိုသခင်ရိုက်၍သေသည်တရား။

မင်းကြီး။ရွေးမရကျွန်ကိုသခင်စေစားခြင်း၌ခါးလက်နက်ဒုတ်နှင့်ရိုက်
နှက်ထိုးခုပ်၍သေသော်။ ကျွန်စည်ဖြစ်၍အပြစ်အလျော် မရရာလွတ်စေ။အ
ရှင်သခင်ဖြစ်သောလက်သည်ကိုမင်းဒဏ်ရာဇဝတ်ပေး၍ခံစေ။ ။ဤအရာ
ကားအရှင်စိုးမင်းခါးပိုင်အသက်သခင်မဟုတ်သည်ဖြစ်သော့ကြောင့်တည်း။
။ ။သို့ကားဆိုတုံ၏။ခါးလက်နက်ဒုတ်လှံကံသေလောက်သောလက်နက်
မဟုတ်။ ကျွန်သည်အမူအရာမတော်၍အရှင်သခင်ဆုမ္မရာ။တပျားလက်ဝါး
တတောင်ကျိုးခေါက်ဖြင့် ရိုက်နှက်မိ၍ သေသော်အရှင်သခင်သေစေခြင်း၌
ပြုရာမရောက်။မင်းဒဏ်ရာဇဝတ် ကင်းလွတ်စေ။ ။ဤကားအစည်စု
ငန်းမရှိသန္တကကျွန်ကိုဆိုသတည်း။ အစုအငန်းရှိ၍အစည်စေသောကျွန်ကို
ဆုမ္မမတော်သေခဲ့သော်။ သေပြစ်နှင့်ကျွန်အပြစ်ကိုတွက်၍ချ။ သုံး ရာမျိုး ငါး
ရာမျိုး တထောင်မျိုး အလျောက် လျော် သင့် သူဖြစ်က ချ ၍အမျိုး ရောက်ရာ
လျော်စေ။ငါးကျေးကျွန်။ကျွန်ပိုင်ဖြစ်သည်မဆိုသာချေ။

### ၅ လင်နှင့်မယားသားနှင့်သ္မီးပေါက်ဖော်တို့ပုတ်ခတ်သေသောတရား။

မင်းကြီး။ အကြင်လူတို့တွင် လင် မယား သား သ္မီးမိ ဘပေါက် ဖော် တို့ ကို
ပုတ်ခတ်မိ၍သေခဲ့။သေစေခြင်း၌ မရှိအလျော်အပြစ်မင်းဒဏ်မရှိအပ်။အ
ဘယ်ကြောင့် နည်းဟူမူကား သေစေချင်သော နှစ်လုံးမရှိ မြဲဖြစ်သော့ကြောင့်
တည်း။ ပေါက် ဖော် သား ချင်း ဆွေ ရင်း မျိုး ချာကို အလယ် ထား ၍အထက်
သုံးဆက်။ အောက်သုံးဆက်။ ထိုခုနှစ်ဆက်သောအမျိုးတို့ကို လက်ရောက်
မတော်သေခဲ့မူသေ ခမ်သေ နား ခံစေ သေ သူမိဘသား မယား အတူနေ တို့ကို
တသက် ကျေးမွေးစေ။ တင်းမြဲရှိလည်းဆပ်စေ။ရာဇဝတ်ဒဏ်ကင်းစေ။ ။
။ ။ထိုသို့မဟုတ်ခုနှစ်ဆက်အဝင်ဖြစ်သည်အလျော်အပေါ မရှိ။ တင်မြဲ

pensation to be paid, and he has no debts, and shall with a sword, spear, or musket, or other instrument, or by poison, or by any other means cause his death, let him be free of the fine in compensation; let him support the family as laid down above, and let him be severely punished criminally. If he do not die, but shall be severely, or triflingly ill, let him support and procure him medical attendance till he recover; but if, though he do not die, he be unable to work, or be blinded, or has a limb broken, let him provide for him that he shall not be in want for his whole life, and at his death let him pay the funeral expenses. As regards near relations wishing to recover compensation, as in the religious story of the Golden Henza, where relations eat each others' flesh and came to destruction, it is clearly stated, if relations take compensation, because it is called eating, receiving the blood and flesh, it is improper to take compensation, it is said.

*6th. The law when it is proper or not, to put to death a Rahan, a Bramin, a child, a woman, or a mad person.*

Oh king! it is not proper to kill a Rahan, a Bramin, a child not of age to be responsible to the laws, a woman, a mad person, or an old person. The person who does kill them shall be made to pay compensation according to their class, it is said. If it be during the time of war, when one takes the property of another, or his life, (the above description of persons) be cut or stabbed, robbed or killed, there is no fault; let the actor have the right. In another case; if it be said the above people, or sick person, had a sword, or spear, or bow in his hand, it is not said that these people, if they are on the side of the person killing or pillaging them, may be killed or pillaged, but if they be of those who have joined a rebel party, they shall not be armed with bow, sword or spear, and if so armed and they are killed, there is no fault. If they be people of the enemies' party, considering what is said in the story in the zat of Mahauthata, Soolanee Bymadat, and Kaywoot, the Bramin minister, it is said there is no fault.*

*7th. The law when a mad or a drunken person, or an idiot, being extremely ill, and a person saying "they will die to-day," shall kill them.*

If any man be mad, drunk, or an idiot, or extremely ill, and though a physician or an astrologer shall say he will die this day, and another person shall on the strength of this kill him, let the person who killed him make compensation according to increase proper for his class.

---

* In the Mahauthata zat it is said, in war between Mutilla and Pentsalaset, Mahauthata was general of the Mutilla forces, and Kaywoot, the Bramin, of the Pentsalaset forces; of which latter country Bymadat was king, called in youth Soolanee.—*Translator.*

မရှိတကားဟူ၍အိမ်ခါးလှံသေနတ်။လက်နက်အဆိပ်။သေစေတတ်သောအရာနှင့်ဘေးပြု၍သေချေမှု။အလျော်အပြစ်မှာကင်းစေ။ ဆိုခဲ့ပြီးသည့်အတိုင်းကျေးမွေးဆပ်စေ။မင်းဒါဏ်မှာကြီးသောဒါဏ်ကိုခံစေ။ ။မသေသမျှကိုအနာကြီးငယ်ရှိသော်လွတ်အောင်ကုမစေ။ မသေမလုပ် မဆောင်နိုင်လျှင်ကျိုးကန်းလျှင်။ မဆင်ရဲရအောင် တသက်ကျေးမွေးစေ။ သေခမ်းသေနား စိုက်ထုတ်သင်းပြိုဟ်စေ။အမျိုးရင်းချာတို့ကို အလျော်စားခြင်းကားရွှေဟသ်ာတို့ဝဏ္ဏမှာအချင်းချင်းတို့၏ အသားကိုစား၍ပျက်စီးရာရောက်သည်ကိုထင်ရှားမြိပြဖြစ်၍ သားချင်းချင်းတွင် အလျော်စားသော်။ အသားအသွေးစားသည်မည်သော့ကြောင့်အလျော်မစားအပ်ဟူသတည်း။

၆ ရဟန်းပုဏ္ဏားသူငယ်မိမ္ဗအရူးကိုအသေသတ်သင့်။မသတ်သင့်တရား။

မင်းကြီး။ရဟန်းပုဏ္ဏားတရားမဝင်သူငယ်မိမ္ဗ အရူး သူအိုကို အသေမသတ်သင့်။ သတ်သူသည်သေသူ၏အမျိုးအလိုက်အတက်လျော်စေကားဟူ၏။ပြည်တဲအရေးစစ်မက်ပြုကြရာ။ တဦးဥစ္စာကိုတဦး။ တယောက် အသက်ကိုတယောက်။ လုယူဖျက်ဆီးသောကာလတွင်ဖြစ်၍ ထိုးခုတ်သတ်ရိုက်လုယူသေသော်လည်းအပြစ်မရှိ။သတ်ပိုင်သေပိုင်ယူပိုင်စေ။ ။တနည်းလည်းထိုရဟန်းပုဏ္ဏားသူငယ်သူအိုသူနာမိမ္ဗတို့ကခါးလှံလေးမျှားကိုင်လျက်ရှိသည်ကိုဆိုသတည်း။ထိုသို့လေးမျှားခါးလှံကိုင်သောသူတို့သည်မိမိတို့အပေါင်းအဖက်ကစွဲကိုင်သူကိုသတ်ပိုင်လုပိုင်သည်မဆို။ အခြားပံ့ကန်လူတို့အဝင်ဖြစ်ကလေးမျှားခါးလှံမကိုင်စေကာမူ။သတ်၍သေသော်လည်းအပြစ်မရှိ။ ရန်ဖက်ရန်သူအဝင်ဖြစ်သည်ကိုလည်း။မဟော်သဓာ။ စူဠဏိဗြဟ္မဒတ်။ကေးဝတ်အမတ်ပုဏ္ဏားတို့ထုံး။ဇာတ်တော်ရှိသဉ်ကိုထောက်၍အပြစ်မရှိဟူသတည်း။

၇ အရူးအမူးမိုက်တတ်တိုင်းပြင်းစွာနာ၍ယနေ့သေအံ့သောသူဟူ၍သတ်မိသောတရား။

အကြင်သူတယောက်သည်ရူးမူးထိုင်းတမိုင်ရှိ၍ပြင်းထံ။ စွာနာသည်။သူယနေ့သေအံ့။ ဆေးသွားဟူးရေးတတ်တို့ဆိုသောသူပင်ဖြစ်စေ။ ယနေ့သေမည်သူကိုသေမည်အတူတူဟုသတ်၍ သေချေသော်အမျိုးအလိုက်သူတက်ကိုသတ်သူကလျော်စေ။

*8th. The law as regards killing elephants, horses, camels, buffaloes, oxen, or those large brutes.*

O king! if a man from enmity to the owner shall kill any elephant, horse, camel, buffalo, ox, or any other large animal, let him make restitution in the same way as for theft, according to the class of the animal. If from the same cause he kill a small animal, for each let him restore twenty fold.

*9th. The law when a woman with child is laid hands on.*

O king! if in laying hold of a pregnant woman on any account, a miscarriage shall be caused, if it be in the first month, one tickal; the second, two tickals; third, three tickals; fourth, four tickals; fifth, five tickals; sixth, six tickals; seventh, seven tickals; eighth, eight tickals; ninth, nine tickals; and the tenth month the price is thirty tickals; and because these values are laid down, it is said a pregnant woman shall not be laid hands on, pulled about or beaten. If the woman also die, according to the month of her pregnancy, let the price be calculated, and let this, with thirty tickals, the price of the dead mother, be paid in compensation. If the child be born, (near full time) it being valued at thirty tickals, let sixty tickals be paid in compensation. This is said when hands are laid on her on account of debt. But if she was not in debt, and was laid hands on in anger, though there was no intention to cause her death, or if she was slapped with the open hand, or struck with a switch, and she die, let restitution in the value of the number of men according to her class, be made.

*10th. The law of restitution for oxen, buffaloes, elephants, horses, killed, by fixing the price of a young calf, a foal, a young elephant just born.*

O king! the price of a calf just born is two mats, (half a tickal;) a buffalo just born, one tickal; a horse just born, five tickals; an elephant just born, fifty tickals; and if any of these animals are beat and killed, the above is the price which shall be paid in compensation whilst the animal continues under the breast of its mother, before it has left off sucking. Though this is said if the marks and signs are good in proportion to these. Though it is thus said, it is a matter for consideration. All animals are afraid of poison and of death; for this reason, judging by yourself, it is wrong to kill other animals, the most excellent god hath said. Thus Menoo, the lord recluse, said. The end of the law of assault.

၈ ဆင်မြင်းကုလားအုပ်ကျွဲနွားကြီးသောတိရိစ္ဆာန်ကိုသတ်သောတရား။

မင်းကြီး။ ဆင် မြင်း ကုလား အုပ် ကျွဲ နွား စသော ကြီး သော သတ္တဝါတိရိစ္ဆာန်တို့ကိုပိုင်သောသူတွင်ရန်ညှိုးပြု၍အသေသတ်ချေသောင်းခိုးသောဒါဏ်ထက်တိရိစ္ဆာန်အမျိုးအလိုက်သတ်သူကလျော်စေ။ ။ငယ်သောတိရိစ္ဆာန်သတ္တဝါတို့ကိုအညှိုးပြု၍သတ်မိမူ။အပြစ်တခုကိုအတက်နှစ်ဆယ်လျော်စေ။

၉ ကိုယ်ဝံရှိသောမိမ္မကိုကိုင်ငင်သောတရား။

မင်းကြီး။အကြင်ကိုယ်ဝံရှိသောမိမ္မတို့ကို။တစုံတခုအကြောင်းအရာရှိ၍ကိုင်ငင်ရာသန္ဓေပျက်သော်။တလသားတကျပ်။ နှစ်လသားနှစ်ကျပ်။ သုံးလသား သုံးကျပ်။ လေးလ သား လေးကျပ်။ ငါးလသား ငါးကျပ်။ ခြောက်လသားခြောက်ကျပ်။ခုနှစ်လသားခုနှစ်ကျပ်။ရှစ်လသားရှစ်ကျပ်။ကိုးလသားကိုးကျပ်။ဆယ်လသားဖွားမူအဖိုးသုံးဆယ်လျှင်ထိုက်သတည်း။ ထိုသို့အဖိုးထိုက်သောကြောင့်ကိုယ်ဝံရှိသောမိမ္မတို့ကိုမကိုင်မငင်မဈိုက်မနှက်ရာဟူသတည်း။ အမိပါသေချေလျှင်။ လစည့်ရှိသည့် အတိုင်း သေသူအမိ၏အဖိုးသုံးဆယ်နှင့်တွက်၍လျော်စေ။ဖွားလျှင်သုံးဆယ်တန်ဖြစ်၍ခြောက် ဆယ်လျော်စေ။ ဤကားကျေးမြို့ဥစ္စာရှိ၍ကိုင်ငင်ရာဖြစ်သောအမှုတို့ကိုဆိုသတည်း။ထိုသို့ကားကျေးမြို့ဥစ္စာမရှိ၍ ကိုင်ငင်ရာ။ အမှုက်ဒေါသနှင့် သေစိမ့်သောဌါစိတ်မရှိသော်လည်းထိုသန္ဓေရှိ မိမ္မကိုလက်ဝါးတပျာကြိမ်လုံးဖြင့် ပုတ်ခတ်၍သေသော်သူတက်အမျိုးအလိုက်လျော်စေ။

၁၀ နွားကျွဲဆင်မြင်းသတ်သည့်ကို။ရှင်တို့ဈေးစအဒိုးထားခွဲလျော်ရသေးတရား။

မင်းကြီး။ နွားမွေးစငွေနှစ်မတ်။ ကျွဲမွေး စငွေငါးကျပ်။ မြင်မွေးစငွေငါးကျပ်။ဆင်မွေးစငွေငါးဆယ်။ဤသို့သတ္တဝါတို့ကိုသတ်၍သေချေလျှင်။ မွေးစအမိရင်အုပ်မကျွာတိရိစ္ဆာန်နှိုကိုလျော်ရသောအဖိုးထည်း။သို့ကားဆိုတုံ၏။ လက္ခဏာကောင်းလျှင် ကောင်းလျော်ကာ။ မွေးစ က တန် သည့် အဖိုးကိုလျော်စေမှ။ အမျိုးမြတ်သောတိရိစ္ဆာန်တို့၏ လက္ခဏာနှင့်ညီမည်တည်း။ထိုသို့ဆိုတုံ၏။ ဆင်ခြင်တုံ။ခပ်သိမ်းသောသတ္တဝါတို့သည် ။ဘေးဒါဏ်မှထိတ်လန့်ခြင်းသဘောရှိကုံ၏။ သေအံ့သောဘေးကိုကြောက်တတ် သော သဘောရှိကုံ၏။ ထိုကြောင့်ရကား။ မိမိကိုယ် ကိုလျှင် ဥပမာပြု ၍ သူ၏အသက် ကိုမသတ်အပ်ကုံဟူ၍ဘုရားမြတ်စွာဟောတော်မူ၏ ဟုမနူမည်သော ရှင်ရသေ့ဆိုတော်မူ၏။ ။သူကိုသတ်ပုတ်သောသူဟူသမျှတရားကားပြီး၏။

*11th. The seven kinds of wives, and the duty of a husband and wife towards each other.*

O king! (here is a line and a half of Pali,) because it is thus said, there are seven rules for the conduct of a man and wife towards each other, and the seven kinds of wives are these:—a wife like a mother—a wife like a slave—a wife like a sister—a wife like a friend—a wife like a master—a wife like a thief—a wife like an enemy;—these are the seven kinds of wives.

*A wife like a mother.*

Of these seven wives, as regards a wife like a mother. A mother instructs her son in the best way. She knows when he is hungry, and that he may eat puts before him the best food in the kindest way, and dresses him becomingly, seeing that his clothes are not old or dirty, and keeps him in mind of his work and his duty: and a wife who acts in this way is said to be a wife like a mother.

*A wife like a sister.*

Of a wife like a sister it is thus said:—though husband and wife, from (modesty) shame, she will say no bad (indelicate) word, will not laugh or smile, she takes care that her clothes are not in any way disarranged; she takes care also to consider as to his food, and what she ought to do and does it, and when they go to bed, she ministers to his desires in the most suitable and pleasant way. Such a woman as this is said to be "a wife like a sister."

*A wife like a good friend.*

Of a wife like a good friend, it is thus said:—as friends consult each other regarding their mutual profit and happiness, and assist each other, she having consulted her husband, lends her assistance and looks on and behaves to her husband's relations as her own, and

## ၁၁ မယားအပြားခုနှစ်ပါး။လင်မယားကျင့်ရာသောတရား။

ပုဗ္ဗေ၀အပရဇ္ဈာရေယျ။ ဘာဂိ၀ါ ယမိ၀ါရတော သင်္ဂိတော သလ္လဘော။ သောစဘာဂိနာပဿယဏ္ဍတ္တိယာ။ ။မင်းကြီး။ဤသို့ဆိုသော့ကြောင့် အကြင်လင်မယား ကျင့် ရာ သောအကြောင်းကား။ ခုနှစ်ပါး တည်း။ မယား တို့၏အပြားခုနှစ်ပါးဟူသည်ကား။အမိနှင့် တူသောမယားတပါး။ ။ကျွန် နှင့်တူသောမယားတပါး။ ။နှစ်မနှင့်တူသောမယားတပါး။ ။အဆွေခင် ပွန်းနှင့်တူသောမယားလည်းတပါး။ ။အရှင်နှင့်တူသောမယားလည်း တပါး။ ။ခိုးသူနှင့်တူသောမယားလည်းတပါး။ ။ရန်သူနှင့်တူသော မယားလည်းတပါး။ ။ဤသို့အားဖြင့်မယားတို့၏အပြားခုနှစ်ပါးတည်း။

### အမိနှင့်တူသောမယား။

ထိုမယားခုနှစ်ပါးတို့တွင်။ အမိနှင့်တူသောမယား ဟူသော်ကား။ အမိ သည်သားတို့ကိုကောင်းမွန်စွာဆုမ္မပေးသတည်း။ သား တို့မွတ်သည်ကိုသိ ၍ စားကောင်းသောက် ဖွယ်ကိုစား စိမ့်သော၄ါ ကောင်းမွန်စွာကမ်လှမ်ပေး သတည်း။အ၀တ်ပုဆိုးတို့ကိုမညစ်မနွမ်ရ။ တင့်တယ်အောင်ဆင်ရင်ပေးသ တည်း။ စီးပွားချမ်သာ အရာ၌လည်းအလုပ် အကြံ အရာတို့၌လည်း။ မမေ့ မလျော့ရ။ဇနိဆင်း ၍ လုပ်ကြံစေသည်။ ထိုကဲ့သို့ကျင့် ပေ သောမယားတို့ကို ကား။အမိနှင့်တူသောမယားဟူသတည်း။

### နှစ်မနှင့်တူသောမယား။

နှစ်မနှင့်တူသောမယားဟူသည်ကား။ လင်မယားကားဖြစ်ကြ၏။ ရှက် ကြောက်သော့ကြောင့်သူ့ရှေ့သူမှောက်မ ကောင်း စကား တို့ကို မဆို။ မရည် မပြုံး။အ၀တ်အစားပုဆိုးလက်နားစသည် တို့ကိုတစ မလစ်မလပ်ရကျင့်ပေ သည်။ ခပ်သိမ်း သောအစားအသောက်။ အလုပ်အကြံတို့ကို လည်း မမေ့မ လျော့လုပ်ကြံ၍ စိစစ်တတ်သည်။ အုံ အိပ် ရာ သို့၀င်မှ လင်မ ယား ၏ဟျူ၄ါ ဘာသာသိမ်မွေ့စွာလုပ်ကျွေးတတ်ပေ၏။ ထိုသို့သော မိမ္မ တို့ကို ကား။ နှစ်မ နှင့်တူသောမယားဟူသတည်း။

### အဆွေခင်ပွန်းနှင့်တူသောမယား။

အဆွေခင်ပွန်းနှင့် တူသောမယား ဟူသည်ကား။ အကြင် အဆွေခင်ပွန်း တို့သည်အချင်း ချင်း စီးပွား ချမ် သာအရာ၌။ တယောက်ကိုတယောက်လုပ် ကြံပေးကြ၍လုပ်ကြံသကဲ့သို့လင်ကိုတိုင်ပင်၍လုပ်ကြံပေသည်။လင်ဆွေလင် မျိုးတို့ကိုလည်းမယားဆွေမယားမျိုးကဲ့သို့မယားကျင့်ပေသည်။ လင်၏အာ

does not dispute his authority; and if he goes to the chief's house or other place, she waits till his return; eats not her meal till she eats it in company with him. Such a wife as this is called "a wife like a friend."

*A wife like a master.*

Of a wife like a master, it is thus said:—when the husband goes abroad, far or near, she does not wait for his return to eat, nor does she keep food for him, nor does she know any thing of his clothes, only she herself having had a good meal first, knows nothing about the affairs of her house, but goes to sleep, and when her husband returns, she thinks nothing about her domestic affairs, but lazily sleeps; and if he admonish or advise her, she replies as a master abusing his slave, his father and mother not escaping, and using shameful and threatening language, as "ha! you son of a slave! you son of a degraded person! are you a fit person to speak to me? I want not your food nor drink! If I wish to sleep, I will do so! Do I eat what belongs to your degraded slaves of parents? Slave! thief! shameless! Why do I take any notice of you!" Thus, as a master abuses his slave, a wife, who abuses father and mother, is said to be "a wife like a master."

*A wife like an enemy.*

Of a wife like an enemy, it is thus said:—her husband trusting to her, gives all his property to her keeping, and lives with her; but she, when her husband's back is turned, having taken a paramour, behaves disrespectfully, puts no guard on her lips or her heart, (and gives way to bad) habits; and if the husband admonish her, she, plotting his death, when there is no fault, she excites one; such a wife is said to be "a wife like an enemy."

*A wife like a thief.*

Of a wife like a thief, it is thus said:—her husband, trusting her, gives to her keeping his property, gold and silver; but her habit is to give it to her relations, or to others she may wish to give it to, and without the knowledge of her husband gives away or expends it; she knows nothing of his food or clothes, nor of the proper duty of all women, the preparing cotton and her loom; but is in the habit of

ဏာကိုလည်းမဆန်။ လင်သည်အရှင်မိုး မင်းတို့သို့လည်းကောင်းသွားလေ
သည်ရှိသော်။ မရောက်မချင်းငံ့ဆွယ်၍စားမှုသောက်ရာတို့ကိုလည်း ရောက်
မှလင်နှင့်အတူတကွစားသည်။ ထိုသို့သောမယားတို့ကိုကား အဆွေခင်ပွန်း
နှင့်တူသောမယားဟူသတည်း။

အရှင်နှင့်တူသောမယား။

အရှင်နှင့်တူသောမယားဟူသော်ကား။ လင်သည်အဝေးအနီးသို့သွား
လေ၍လင်ရောက်ပါလသော်။ စားပါစိမ့်မည်မဆို မထားလင်ဝတ်လင်စား
ကိုလည်းမသိမိမိချည်းသာဝစွာစားနှင့်၍အိမ်ထောင်၏စီးပွားချမ်းသာကို
လည်းမသိအိပ်နေဘိ၏။ လင်သည်ရောက်၍အိမ်ထောင်စီးပွားချမ်းသာမလုပ်
မကြံပျင်းရိစွာအိပ်နေသည်။ ဆုမ္ဘစကားကိုဆိုပါ တုံသော်လည်းအရှင်သည်
ကျွန်ကိုဆဲရေးဘိသကဲ့သို့။ မိတိုင်ဇရောက်ရှက်ကြောက်ဘွယ်သောစကား
ကိုချိုငေါ၍။ ဟဲ့ကျွန်သား။ သူနှုတ်သား။ နင်ဆိုတန်သလော။ စားလည်းငါမ
စားလိုအံ့။ သောက်လည်းငါမသောက်လိုအံ့။ အိပ်လိုလည်းငါအိပ်အံ့။ ငါ
နင့်အမိ။ နင့်အဖ။ ကျွန်သူနှုတ်၏ဥစ္စာကိုငါစားသလော။ ကျွန်ခိုးသူအလစ်ဖို။
နင့်ကိုငါအဘယ်အောင်းမေ့ပါကောင်းနည်းဟု။ ကျွန်ကိုအရှင် ဆဲရေးဘိသ
ကဲ့သို့။ မိတိုင်ဇရောက်ဆဲရေးသောမယားကိုကား။ အရှင်နှင့်တူသောမယား
ဟူသတည်း။

ရန်သူနှင့်တူသောမယား။

ရန်သူနှင့်တူသောမယားဟူသည်ကား။ လင်သည်ယုံမှတ်၍အိမ်ထောင်
ခန်းနားအလုံးစုံမျိုးကိုအပ်နှင်းပေါင်ဖော်ပေ၏။ မယားမူကားလင်မျက်နှာ
ကွယ်လျှင်။ သယောက်သလင် ထား၍။ မရှိမသေကိုယ်နှုတ်နှစ်လုံးကိုမ
စောင့်ကျင့်ဘိသောကြောင့်။ လင်သည်ဆုမ္ဘမြည်တမ်သော်လည်းမိမိလင်ကို
သေကြောင်းကြံ၍။ တစုံတခုအမှုမရှိသည်ကိုအမှုလုပ်၍ ပြောဆိုကြံဆောင်
တတ်သောမယားသည်။ ရန်သူနှင့်တူသောမယားဟူသတည်း။

ခိုးသူနှင့်တူသောမယား။

သူခိုးနှင့်တူသော မယား ဟူသည်ကား။ လင်သည် အိမ်ထောင် ခန်းနား
ဥစ္စာရွှေငွေတို့ကိုယုံမှတ် ၍ အလုံး စုံနှင်းအပ်၏။ မယား မူ ကား။ မိမိ ပေါက်
ဖော်သားချင်းတို့အားလည်းကောင်း။ ပေးလိုသောသူတို့အားလည်းကောင်း။
လင်မသိရပေးကမ်းသုံးစွဲစား သောက်တတ်၏။ လင်ဝတ်လင်စားကိုလည်း
မသိတတ်။ မိမ္ဘတကာတို့၏ လုပ်ဆောင်စရာ သောပိုင်းဝါရက်ကန်းမှန်းကို

idly going about other people's houses, and knows not who steals what is in her own house; such a wife is said to be "like a thief."

*A wife like a slave.*

Of a wife like a slave, it is thus said:—she puts and keeps her husband's clothes in the best condition for him to wear, and having ordered and cooked the best of food that is fit for him to eat, a slave who fears her master, she puts it before him; when he comes home, she receives him in the most respectful manner, seated with her feet beneath her and her hands joined, and gives him water to wash his feet, to bathe, and to drink; and if, in matters of domestic economy he is angry and finds fault, she makes no reply, and being very much afraid, will not in the presence of her husband say one cross word; nor will she dare to eat or drink before he has done so, but after he has finished eating, collects what he has left and eats that;—and such a wife is said to be "a wife like a slave."

Amongst these seven kinds of wives, the wife like a mother, the wife like a sister, the wife like a friend, and the wife like a slave, ought not to be put away by any man, but should be lived with for life. The wife like a master, the wife like an enemy, the wife like a thief, these three, even if they have borne ten children, may be put away; they need not be lived with for one day; and of the seven, the wife like a slave, if she pray to be a man in the next life, will not be disappointed; her prayer will be fulfilled, and before others she will obtain nickban. Thus the gods Pittsay Ka Baudah, have praised them. Thus the Yethay, called Menoo, said.

*12th. The law when a wife ought to accommodate herself to her husband's habits.*

Any woman may have six faults. These six faults are:—drinking intoxicating liquors—keeping bad company—paying no attention to her husband's requests, who disputes his wishes—eating before her

လည်းမသိ။ ပျင်းရိစွာ သုံ့အိမ်ရာ လှည့်ပတ်နေတတ်သော့ကြောင့်။ အိမ်တွင် ဥစ္စာတို့ကိုသူယူလေသည်ကို လည်းမသိ။ ထိုသို့ပြုကျင့်တတ်သော မယားသည်ခိုးသူနှင့်တူသောမယားဟူသတည်း။

ကျွန်နှင့်တူသောမယား။

ကျွန်နှင့် တူသောမယားဟူသော်ကား။ လင်၏အဝတ်အစားပုဆိုးလက်နား တို့ကိုလည်းလင်ဝတ်ရကြောင်း။ ကောင်းစွာလုပ်ကြံပေ၏။ လင်စား တန်သောစားမှုသောက်မှုတို့ကို လည်းမစစီရင်ချက်ပြုတ်၍ ကျွန်သည်အရှင်ကို ကြောက်ရွံ့၍လုပ်ကျွေးသကဲ့သို့လုပ်ကျွေးပေသည်။ အဝေးကလာလပ်လျှင်ရှိသေစွာပု ဆစ်တုပ်လျှက်လက်အုပ်ချီ၍ခြေဆေးရေ။ ချိုးရေ။ သောက်ရေကမ်းလင့်ပေ၏။ ခပ်သိမ်းသောအိမ်ထောင်မှု၌ လင်သည်အမျက်ထွက်၍ ဆိုမိသော်လည်းလင်ကိုနှုတ်တုံ့မပြန်။ အလွန်ကြောက်ရွံ့၍လင်၏မျက်မှောက်၌ စကားတခွန်းတပါဒကိုမျှပြင်ပြင်မဆို။ လင်၏စားဦး။ သောက်ဦးကိုလည်းမစား။ မသောက်ဝံ့။ လင်စား၍ကြွင်းပြီးမှ သာလျှင်။ လင်၏စားကြွင်းကိုသိမ်းမြန်း၍စားသောမယားသည်ကား။ ကျွန်နှင့်တူသောမယားဟူသတည်း။ ။ဤသို့သောအားဖြင့်မယားအပြားခုနှစ်ပါးဟူသတည်း။

ထိုခုနှစ်ပါးတို့တွင်။ အမိနှင့်တူသောမယား။ နှစ်မနှင့်တူသောမယား။ အဆွေခင်ပွန်းနှင့်တူသောမယား။ ကျွန်နှင့်တူသောမယား။ ဤသည်မယားတို့ကိုကား ယောကျ်ားတော်တကာတို့သည်။ ကျွေးကျွင်းခြင်းကိုမပြုအပ်ကုံသတည်း။ အသက်ထက်ဆုံးပေါင်းဖော်အပ်ကုံရာသတည်း။ ။အရှင်နှင့်တူသောမယား။ ရန်သူနှင့်တူသောမယား။ ခိုးသူနှင့်တူသောမယား။ ဤမယားသုံးယောက်တို့ကိုကား။ သားတကျိပ်ပင်မြင်လျှင်မူလည်း ကျွေးကျွင်းအပ်ကုံ၏။ တနေ့မျှမပေါင်းဖော်ရာသတည်း။ ထိုသို့မယားအပြားခုနှစ်ပါးတို့တွင် ကျွန်နှင့်တူသောမယားသည်လျှင် ယောကျ်ားဆုကိုတောင်းသော်လည်း မချွတ်မလွဲပြည့်လေရာ၏။ သူတကာထက်အကျွတ်တရားကိုရလေရာ၏ ဟူ၍။ ဘုရားပဉ္စေကဗုဒ္ဓါတို့ချီးမွမ်းကုံ၏ဟုမနူမည်သော ရှင်ရသေ့ဆိုတော်မူ၏။

၁၂ မယားသည်လင်၏အကျင့်ကိုလိုက်ရာသောတရား။

အကြင်မိမ္မတို့၌ အပြစ်ခြောက်ပါးရှိသတည်း။ အပြစ်ခြောက်ပါးဟူသည်ကား။ သေစာသောက်စားသည်တပါး။ မကောင်းသောသူတို့နှင့်ပေါင်းဖော်သည်လည်းတပါး။ လင်စကားကိုမနာ။ လင်ကိုညင်းဆန်တတ်သည်

husband is satisfied—having unlawful habits, keeping a paramour—gadding about from one house to another,—these are the six faults, and a woman being free from them, should in the most proper way minister to her husband. Few women are satisfied with one husband, nor are they careful of the (honor) of their family. When out of sight, they do not consider what is good and what is bad; their desires are changeable and unfixed; they have all a desire for all they see. With women who have these bad habits, a man should be much on his guard, and advise them that they should not associate with improper people, nor do any (improper) unlawful acts, nor have a paramour, nor gad about to other peoples' houses, nor use improper language. Thus if a man who is wise and capable of reflection, shall correct his wife, she will not dispute his authority, but will behave herself with the greatest propriety; and as they follow the advice of a husband, it is proper that he should advise or correct them. It is not proper to give women their own way. Thus the lord recluse, called Menoo, the son of the king of Bymahs, said.

13*th. A story of the comparison of husbands, wives, and children.*

Women are like the earth, and men are like rain, and by the earth and rain trees and fruit and such like are produced. Trees and fruit are like children; and when man and woman, like the earth and rain, are suited to each other only, are children produced. A good woman is one who corrects and assists her children and slaves, and provides for her husband the best food and clothes; who puts in order his bed and the place he stays in; who provides for him the best perfumes, flowers, betel, tea, and things of that kind; who has no thoughts of other men, and who takes the greatest care of what is acquired by her husband; who rises before him, and who, after he has gone to rest, puts (the house) to rights before she sleeps; who considers each day what will be her proper work, takes his orders, who disputes not his authority, who complies with his wishes, who speaks in the mildest and most endearing language, who provides for warmth and coolness. In this way all women should in the most

လည်းတပါး။ လင်စားဦး။သောက်ဦးတို့ကိုစားတတ်သည်လည်းတပါး။မတရားသောအကျင့်တို့ကိုကျင့်၍သယောက်။ သလင်ထားသည် လည်းတပါး။ သူအိမ်။သူရာအစည်အတိုင်းတအိမ်ထွက်။တအိမ်ဝင်တက်သက်သည်လည်းတပါး။ ဤခြောက်ပါးတို့သည်ရှိသတည်း။ ထိုခြောက်ပါးသောအပြစ်တို့ကို။လွတ်အောင်ရှောင်၍။လင်ကိုကောင်းမွန်စွာလုပ်ကျွေးရာသတည်း။ ။

။ ။အကြင်မိန်းမတို့၏သဘောသည်လင်တယောက်ကိုစောင့်ခဲလှ၏။မိမိ၏အမျိုးအနွယ်ကိုလည်းမစောင့်ပေရာသတည်း။ ။ဆိတ်ကွယ်ရာဖြစ်က။ ကောင်းမကောင်းမဟူ။ စိတ်နှစ်လုံးဝမ်းမတည်။ မြင်မြင်ရာကိုတပ်မက်သောသဘောရှိကုံသတည်း။ ထိုသို့မကောင်းစွာသော အလေ့ရှိတတ်သောမိန်းမတို့ကို။ အကြင်ယောက်ျားတို့သည်ကောင်းစွာသတိထား၍။မပေါင်းဖော်အပ်သောသူတို့ကို။မပေါင်းဖော်နှင့်။ မတရားသောအကျင့်ကိုမကျင့်နှင့်။သယောက်။သလင်မထားနှင့်။သူအိမ်။သူရာမလှည့်မပတ်နှင့်။မခြမငန့်သောစကားကိုမပြောမဆိုနှင့် ဟူ၍ ဆုံးမအပ်သတည်း။ ဤသို့ဂုဏ်ကျေးဇူးအာတတ်အသိမ္မာနှင့်ပြည့်စုံသောသူသည်ရှေ့နောက်ကိုမြင်၍။မိမိမယားကိုဆုံးမမှုကား။ မယားသည်လည်းလင်၏အာဏာကိုမဆန့်ရာ။ ကောင်းစွာကျင့်ပေလိမ့်သတည်း။ လင်ကိုလိုက်၍ကျင့်ပေသောကြောင့်ဆုံးမအပ်၏ဟူသတည်း။ မိန်းမတို့အလိုကိုမလိုက်ကုံရာဟု။ဗြဟ္မာမင်း၏သားရင်းဖြစ်သောမနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

## ၁၃ လင်မယားသားသမီးဥပမာပုံစကား။

အကြင်မိန်းမတို့ကားမြေနှင့်တူ၏။ ယောက်ျားတို့ကား မျိုးစေ့နှင့်တူ၏။ မြေနှင့်မျိုးစေ့ကားအသီးအပင်စသည်တို့ကိုဖြစ်စေတတ်၏။ အသီးအပင်သော်ကား။သားမြေးတို့နှင့်တူ၏။ မြေနှင့်မျိုးစေ့ကဲ့သို့ယောက်ျားနှင့် မိန်းမနှစ်ပါးညီမှသာလျှင် သားမြေးဖြစ်ရာသတည်း။မိန်းမတို့သည်ကောင်းပါဘိမှုကား။ယုံကြည်သောသားမြေးကျေးကျွန်တို့ကိုဆုံးမပဲ့ပြင်၍ လင်ဝတ်လင်စားတို့ကိုကောင်းမွန်စွာလုပ်ကျွေးအပ်၏။အိမ်ရာနေရာသုတ်သင်ခြင်း။ နံ့သာပန်းမှုံကွမ်းလက်ဖက်စသည်တို့ကိုကောင်းစွာလုပ်ကျွေးအပ်၏။ ယောက်ျားတပါးသို့ စိတ်နှစ်လုံးမကူးခြင်း။ လင်ရှာ၍ရသောဥစ္စာကိုကောင်းမွန်စွာသိုမှီးခြင်း၌လည်းလုံ့လပြင်းစွာအားထုတ်ခြင်း။ အိမ်ရာကမထမှီရှေးဦးစွာထခြင်း။ လင်အိပ်နေပြီးမှအိပ်ခြင်း။ ယနေ့ကားအဘယ်အလုပ်အကြံကိုလုပ်ကြံရအံ့နည်း။အစီရင်ကိုခံခြင်း။အာဏာကိုမဆန့်။လင်၏အလိုသို့လိုက်ခြင်း။ ချစ်သနားဖွယ်သောစကားကိုနူးညံ့စွာဆိုတတ်ခြင်းအပူအချမ်းတို့ကို သည်းခံတတ်ခြင်း။ ဤသို့အ

proper way minister to their husbands, and women who habitually practise this, fulfil their duty to their husbands. Thus the lord recluse called Menoo said.

14*th. The law when a husband having gone on a trading trip, his wife takes another husband before his return.*

Oh king! a married man having gone to a different district, trading, should leave sufficiency for his wife's subsistence; having done so, if his wife, before the expiration of eight years, shall take another husband, let the husband take away all her property, and let him sell her; and if there be any debts, let her bear them all. If a husband does not leave subsistence for his wife, and shall be absent eight years trading, and she really has not enough for necessary food and clothes, and she publicly incur debts for her subsistence, when the husband arrives, let him pay them; he shall not say he did not know of their being contracted. If the creditor shall have connection with her, let the husband have the fine for stealing a wife, (*crim. con.*) and let him pay the debt, calculating principal and interest.

15*th. The law when the wife becomes a slave before his return.*

A wife, who not having wherewithal to buy food or clothes, shall sell herself or children as slaves before her husband's return, let her have the right to do so, and on her husband's return let him redeem them. If she has no children nor any thing to pledge or sell, and shall incur a debt, and if she shall give over her person for the same, and her master shall have connection with her as his wife, and if her husband shall wish to have her back, let him redeem her. If she will not be redeemed, but says she prefers to live with her creditor, let her give the price of her body to her former husband, and let there be no fine for seduction of a wife.

16*th. The law when a husband going to acquire knowledge, leaves subsistence for his wife for a specified time.*

A husband going trading, or in search of knowledge, not being able to leave for his wife any subsistence, she ought to live circumspectly, and work for her subsistence, and the husband should once in three years from the distant city, send her a letter, with something for her food and clothes. Though he be not able to send much, let him send what is suitable (with his condition.) If in three years he does send things and write, and his wife take another husband, she

ကျင့်နှင့်ပြည့်စုံစွာ။ လင်ကိုကောင်းမွန်စွာလုပ်ကျွေးကုံရာ၏။ ထိုသို့ကျင့်သော မိမ္မတို့သည်ကား။ လင်ဝတ်နှင့်ပြည့်စုံ၏ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၄ လင်ကုန်သွား၍မယားလင်နေနှင့်သောတရား။

မင်းကြီး။အကြင်လင်မယား တို့တွင်လင် သည် ကုန်သွယ်အရပ်တပါးသို့ သွားသော်မယား ကိုစားဖို့ သောက်ရာလုံ လောက်အောင်ထားခဲ့ရာ၏။ လုံလောက်အောင် ထားခဲ့လျှက်။ ရှစ်နှစ်လင်မရောက်ရှိ သည် အတွင်း။ ရှစ်နှစ်မစေ့မှီ။မယားသည်သူတပါးနှင့်နေနှင့် ချေသော်။ ဥစ္စာရှိသမျှကိုလင်အလုံးသိမ်းစေ။မယားကိုလည်းရောင်း ၍ စား စေ။ တင်မြီရှိလည်းမယားကသခံစေ။ ။အကြင်လင်သည်မယားတွင်အစားအသောက်မပေးမထား။ကုန်သွယ်ရှစ်နှစ်ကြာအံ့။ မစား မဝတ်ရသည်မှံ၍။ သူသိသူထင်ရှားမှို။ စားရာမြီယူ၍မယားစားနှင့်အံ့။ လင်ရောက်လျှင်ဆပ်စေ။ ငါမသိဟုမဆိုသာချေ။ မြီရှင်တို့က။ သုမယားကိုပြစ်မှား စပ်ချက်လျှင်။ မယားခိုး အပြစ်လည်းစားစေ။မြီရင်းပွားကိုလည်းတွက်၍ဆပ်စေ။

၁၅ မယားကျွန်ဖြစ်နှင့်သည်စကား။

အကြင် မယားသည်မစား မဝတ်ရ၍ကိုယ် ကိုလည်းကောင်း။ သား သမီးကိုလည်းကောင်း။ သူတပါးတို့သို့ကျွန်ခံရောင်းနှင့်လျှင်လည်းရောင်းပိုင်စေ။ လင်ရောက်လျှင်ရွေးစေ။ ။သား သမီး လည်းမရှိ။ ရောင်းချ၍စားစရာလည်းမရှိ။ မယားသည်မြီကိုယူ၍စားသုံးရာဇင်မြီကို ကိုယ်နှင့်ဆပ်နှင့်အံ့။ သခင်သည် ထိုမိမ္မကိုမယား ပြုလေအံ့။ မယားကို မယားရှင်ရလို လျှင် ရွေးစေ။ အရွေးမခံမယားသည် လင် သစ် ဖြစ်သော သခင်ငွေရှင်နှင့် နေ မည် ဆိုလျှင်ကိုယ်ဘိုးလင်ဟောင်းသို့ပေးစေ။မယားခိုးအပြစ်လွတ်စေ။

၁၆ လင်အဘတ်ပညာရှာသော်မယားကိုအစားအသောက်ထားရာနှစ်လအပိုင်းအချားတရား။

အကြင်လင်သည်ကုံသွားသော်။ အတတ်ပညာရှာသော်။ မယားဘို့အစားအသောက်မထားနိုင် ၍ ဥစ္စာရှာ။ပညာရှာ သွား လေအံ့။မယားသည် ကောင်းမွန်စွာစောင့်စည်း၍ကြိုးစားလုပ်ဆောင်စားနှင့်ရာ၏။လင်သည်သုံးနှစ်တကြိမ် မယားသို့အဝေး မြို့ရွာက အကြောင်းမျိုးကို စာပေးအံ့။ မယားဝတ်စားဘို့ သောက်ရာ ကြီးမား စွာ မဟုတ်သော်လည်း။ တော်သင့်အောင်ပေးရာ၏။ သုံးနှစ်တွင်ပေးပေလျှက်စာရောက်လျှက်။ မယားလင်နေသော်။

shall not have the right to do so; and if the person, knowing her to be a wife, shall co-habit with her, let him pay the fine for seduction of a wife, and let her also pay the price of her body. This is said when the person co-habiting with her is not her creditor. When a husband has gone trading or in search of knowledge, the wife shall wait eight years before she takes another husband. If the husband, as his place of residence is a distant city, has taken another wife, and his first wife hears of it, at the third year if she takes a husband, she has a right to do so. This is said when no letter or present has been received. If from the husband so gone trading or in search of knowledge, letters shall arrive within the three years, although it be true that he has taken a wife, his first wife shall not take another husband; if she does she will not be held free of fault; she loses the price of her body; and if it is true that the man who takes her knows that she was another's wife, let him pay the fine for seduction of a wife. Why is this?—because, if a man has ten wives, there is no fault, because he sent letters and presents to his first wife. In another case; the king having drafted (a man,) he goes to the wars, it being the business of the country, and he cannot leave subsistence for his wife, but goes where his lord sends him, if it be to the wars (she) must wait till the general or tat-mhoo returns; if the wife before their return shall take another husband, let the first husband have according to the fault. This holds good, no matter how many years or months may elapse before the general or head of that division returns, it is the lord's business; when the general has returned, if he has left the husband at an (out) post, she must send him subsistance and letters, and wait for full eight years; after eight years have expired, if he does not arrive, let her have a right to take another husband.

17*th. The law when a husband and wife, having no affection for each other, separate.*

Any husband and wife living together, if the husband, saying he does not wish her for a wife, shall have left the house, and for three years shall not have given her one leaf of vegetables, or one stick of firewood, at the expiration of three years, let each have the right to take another wife and husband. If the wife not having affection for the husband, shall leave (the house) where they were living together, and if during one year he does not give her one leaf of vegetables, or one stick of firewood, let each have the right of taking another husband and wife; they shall not claim each other as husband and wife; let them have the right to separate and marry again. If when the husband leaves the house, the wife shall take another within the three years, or when the wife has left the house, and within one year the husband shall take another wife,—of the property of both, what was brought at marriage and that which belongs to both, having counted one, two, and weighed by tickals, let all the property

မနေပိုင်။ သုမယားမှန်းသိလျှက်၊ နေသောသူသည် မယားခိုး အပြစ်လျှော်စေ။မယားလည်းကိုယ်ဘိုးပေးစေ။ ။ဤကား၊အလွှတ်ငွေရှင်သခင်မဟုတ်သည်ကိုဆိုသတည်း။ ။အတတ်ပညာရှာသော်၊ကုန်စလယ်သွားသော်။မယား လင်မနေ။ရှစ်နှစ်ငံ့ရာ၏။ လင်ကား တရပ်တကျေး အဝေးဖြစ်သည်ဟုမယားနေ၍သုံးနှစ်တိုင်သော်။မယားရင်းသဉ်သိ၍လင်နေသော်နေပိုင်လေ၏။စာမရောက်ပန္နာမရောက်သည်ကိုဆိုသတည်း။ ။လင်သည်အတတ်ပညာ ဥစ္စာရှာရာ။သုံး နှစ် အတွင်း စာနှင့် ပန္နာရောက်မည်။ ထိုလင်သည်မယားပင်နေစေကာမူ။မယားရင်းသည်လင်မနေသာချေ။ လင်နေကအပြစ်မလွတ်။ကိုယ်ဘိုး ဥစ္စာဆုံးချေ၏။နေသူယောကျ်ားလည်း။ သုမယားမှန်းသိလျှက်။နေသည်မှန်ချေက။ မယားခိုးပြစ်လျှော်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ ယောကျ်ားသည်မယားဆယ်ယောက်နေသော်လည်း အပြစ်မရှိ။ မယား ရင်း သို့ စာနှင့် ပန္နာ ရောက် ချေသောကြောင့်တည်း။ တနည်း ကား။ အရှင်စိုး မင်းက ခံ ၍ လိုက် ရသည်။ စစ် မှုပြည် တဲ ရေးဖြစ် ၍ မ ယား စားသောက်ဖို့မထားခဲ့ဖြစ်၊ အရှင်စေခန့်ရာသွား ရလေ၏။ စစ်ဖြစ်လျှင် မိုလ်မှူးတပ်မှူး ပြန်ရောက်အောင် ငံ့ပေ။ မိုလ်မှူး တပ်မှူး မပြန် မရောက်မှီ။ မယားလင်နေချေသော်။အပြစ်အတိုင်းလင်ရင်းစားစေ။ ။မိုလ်မှူးတပ်မှူးမရောက်သမျှနှစ်လ၏အပိုင်းအချားမဆိုသာချေ။ အရှင်ရေးမင်းမှုဖြစ်သည်။ မိုလ်မှူးတပ်မှူးတို့ပြန်လေ၏။ လင်ကိုမိုလ်မှူး တပ်မှူးတို့က သင့်ရာထားချေလျှင်လည်း။ အစားအသောက်နှင့်စာပေး၍ရှစ်နှစ်စေ့အောင်ငံ့ရာ၏။ ရှစ်နှစ်လွန်၍မရောက်သော်လင်နေပိုင်စေ။

### ၁၇ လင်နှင့်မယားမနှစ်သက်၍လင်မယားကင်းရာသောတရား။

အကြင်လင်မယားအတူတကွနေရာ။မယားကို လင်မလိုဟုဆင်းသွား၍သုံးနှစ်ပတ်လုံးဟင်းရွက်တရွက်။ ထင်းတချောင်းမျှမပေးကြာလေ၏။ သုံးနှစ်စေ့လျှင်နှစ်ယောက်လုံး။မယားလင်အခြားနေပိုင်ကြစေ။ ။လင်ကိုမယားမနှစ်သက်၍အတူနေရာက။ဆင်းသွား ၍ တနှစ်ပတ်လုံးဟင်းရွက်တရွက်၊ ထင်းတချောင်းမျှ မပေးနေ၏။ နှစ်ဦးမယားလင်နေပိုင်ကြစေ။ လင်။ မယားမဆိုသာ။ ကွာပိုင်နေပိုင်စေ။ယောကျ်ားဆင်းသွား ၍သုံးနှစ်မတိုင်မှီမယား လင်နေသော်။မယား ဆင်းသွား၍ တနှစ်မတိုင်မှီလင် နေသော်။နှစ်ဦးသားပိုင်ထိုက်သည် အတိုင်းအသွင် ဥစ္စာနှင့်နှစ်ဦးပိုင်သောဥစ္စာကို၊ တစ်ကျပ်နှစ်ဆယ်ရေတွက်၍မှန်သမျှဥစ္စာရပ်ကိုသခင်အပြစ်၊လင်ဝတ်။ မယား

be demanded and taken from the person who failed in his or her duty as husband or wife, by the other who has become the lord of it; and if (the person in fault) comes to the house of the other, (the person not in fault) may turn (the other) out, but not accuse (each other) of taking a peramour, or seducing husband or wife. Thus the son of the king of Bymahs called Menoo said. If a husband who has a wife becomes a Rahan, she must wait seven days; if after seven days the Rahan shall return to the world, he shall not claim her as his wife; let the wife have a right to take a husband.

18*th. The law when a husband or wife having leprosy, being mad, diseased, or unclean, the sound one may put away the diseased one.*

Oh king! if a husband and wife have come together, and the wife has not property, but the husband has, and this is known to many, and if the husband goes mad, or becomes a leper, or a lunatic, or his legs or arms are broken, or his body emaciated and enfeebled, or he becomes blind, or he is a glutton or drunkard; his wife should support him properly. If she do not support and attend to him, and take another husband, the king of the country should punish that woman, and the relations and kindred of the husband, having consulted together, should banish her to another district. If both had property at the time of marriage, the rule is the same; and if when it is thus proper to attend and support a husband, (they being a couple who have not been married before,) the wife acts as above, as has been already laid down, (they) may banish her. If the husband had no property at marriage, and the wife had, and the husband be diseased as above, the wife shall not put him away; the husband is the lord of the wife; let her be judged according to her fault. If this be not the state of the case, but the husband is a drunkard, a gambler, a better on cock or goat fights, and a seducer, and will not be advised, and has three times in presence of scientific and moral good men, made a written engagement openly and before witnesses, (to forego these practices,) and if he still continue the same, let the wife have a right to put him away and separate from him. Let him have half the property. If the wife be a leper, or mad, asthmatic, have her arms or legs broken, is blind, or emaciated and enfeebled, let the husband minister to her in the most proper manner; he has a right to cease connubial connection with her. He shall have no right to put her away with her property. If he takes a lesser wife, he has a right to do so. If he neglects his first wife and does not take care of her, minister to, and support her, one half of all he possesses be taken and given to her relations, if he will not give up the property nor support her, let him be severely punished criminally. On the precedent of the case of Ampoola, the Rahan, this may be decided so; and the property may also be taken from him. Thus the lord recluse called Menoo said.

ဗတ်ပြတ်သူမှာတောင်း၍ရုတ်သိမ်းယူရာ၏။ချင့်နေသည်အိမ်သို့ချင့်လာပြန်
လည်းနှင်ထုတ်လိုက်ရာ၏။မယားခိုး။လင်ခိုးမြောက်မထားမဆိုသာချေဟု
ဗြဟ္မာမင်း၏သားရင်းဖြစ်သောမနူမဉ်သောရှင်ရသေ့ဆိုတော်မူ၏။ ။လင်
သဉ်မယားမှိုလျှက်ရဟာန်းပြုသော်ခုနှစ်ရက်ငံ့လင့်ရာ၏။ခုနှစ်ရက်လွန်လျှင်
ရဟာန်းလူထွက်လျှင်ငမယားဖြစ်သည်မဆိုသာ။မယားလင်နေပိုင်စေ။

၁၈ လင်မယားနှစ်ယောက်တွင်တယောက်ယောက်နူနာ။ရူးနာမစွန်းကို
တယော်ကယောက်ပြစ်စွန့်သောတရား။

မင်းကြီး။လင်မယားနှစ်ယောက်သင့်နေကြရာတွင်မယားက ဥစ္စာမပါ။
လင်ကဥစ္စာပါ၍အများသိ၏။လင်သည် ရူးသော်။နူသော်။ ရူနာစွဲသော်။ ခြေ
လက်ကျိုး သော်။ ကိုယ်လုံး ချည့်နဲ့ သော်။ မျက်စိကန်း သော်။ သောက် စား
ကျူးသော်။ မယားသည်ကောင်းမွန်စွာလုပ်ကျွေးမွေးအပ်၏။ မကျွေး မွေး။
မပြုပြင်။ မသုတ်သင်နေချေ ၍ ထိုမယား လင်သစ်နေချေသော်။ ပြည့်ရှင်မင်း
တို့ကထိုမိမ္မကိုဒါဏ်ပေးအပ်၏။ လင်ဆွေလင်မျိုးတို့လည်းညီ၍ထိုမိမ္မကိုအ
ရပ်တပါးသို့နှင်ထုတ်အပ်၏။နှစ်ပါးစုံဥစ္စာပါရည်တူဖြစ်လည်းလင်ကိုကျွေး
မွေးရကောင်းလျှက် ငယ်လင် ငယ်မယား မှန်ပေလျှက်။ နည်းတူပြုကျင့်လျှင်
ဆိုခဲ့ပြီးသည်အတိုင်းနှင်ထုတ်ရာ၏။လင်ကဥစ္စာမပါ။မယားကဥစ္စာပါရင်း
နှင့်ရှိပေလျှက်။လင်သည်ဆိုခဲ့ပြီးသည်ရောဂါရှိလည်း။မယားမစွန့်ရာချေ။
မယားသခင်လင်ဖြစ်သဉ်အတိုင်းစီရင်။သို့တည်းမဟုတ်။လင်သည်သောက်
စားရစ်ဝခြင်း။ကြွေအံကြက်ငှက်ဆိပ်တိုက်လောင်းတမ်ခြင်း။ သူသားအိမ်
ရာပြစ်မှားခြင်းကိုလွန်ကျူးစွာဆုမ္မမခံ။သုံးကြိမ်မြောက်။ပညာသမာဓိရှိသူ
တို့စာပေနှင့်အသိအကြား ရှိ၍။ ထိုလင်လွန်ကျူး ပြုကျင့်ချေသော်။ လင်ကို
မယားစွန့်ပိုင်ကွာပိုင်စေ။ထက်ဝက်သောဥစ္စာကိုရကြစေ။ ။မယားတဉ်း
နူသော်။ ရူးသော်။ ရူနာစွဲသော်။ ခြေလက်ကျိုးသော်။ မျက် စိကန်း သော်။
ချည့်နဲ့သော်။ လင်ကောင်းမွန်စွာလုပ်ကျွေးမွေးစေ။ ကာမဂုဏ်ကိုသာစွန့်ရာ
သည်။မယားကိုဥစ္စာနှင့်တကွမစွန့်ပိုင်။ လင်တည်းမယားငယ်နေလည်းနေ
ပိုင်လေ၏။ ။မယားရင်းကိုမကျွေးမွေး။ မပြုပြင်။ မသုတ်သင်။ ပြစ်ထား
ချေသော်။ ရှိသမျှဥစ္စာတွင်တဝက်ခွဲ၍ ထိုမယား၏အမျိုးအနွယ်မိဘသား
သ္မီးတို့သို့ဥစ္စာစုကိုပေးစေ။ ။မစုမပေးမကျွေးမမွေးချေသော်။လင်ကိုမင်း
ဒါဏ်ကြီးစွာပေးစေ။ ။သမ္မုလမထရိကိုထောက်မျှော်၍စီရင်ရာ၏။
ဥစ္စာကိုလည်းရုတ်ရာ၏ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

These are the weights denoted in the Damathat, of gold, silver, and other metals, when a khyieng, kyat or bo is mentioned. Thus the sage recluse called Menoo said.

*12th. The law regarding men who are fit to be made judges.*

O Maha Thamada, excellent king! who hast dominion over the one hundred and one races of men, who art free from the ninety-six diseases, who art the highest amongst men, a Nat of the Thamoodee* order, mayst thou watch over and firmly establish the ten laws (applicable to kings.) If kings do not abide by the laws, the lords will not; and if they do not, the people of the country will also disregard them, and the country will go to ruin. If the king watches over the laws, the lords do the same; and if they abide by and watch over the laws, so do the people of the country, and in the time of that king, the country being happy is the cause of the people obtaining nicban. O great king! kings may do an equal amount of good and evil; do thou follow and practise good. O excellent king! there are five descriptions of men who are proper to be made judges, which are as follows:—the king, who, abiding by the ten laws (for his guidance,) gives his decisions in accordance with them; the judge, who, abiding by the Damathat, gives his decisions so as to avoid incurring the pains of hell;† the judge who decides like a blind man who feels his way with his staff, and takes the way that is best; the judge who decides between the parties impartially, like the index of a pair of scales; these five men may be appointed judges.

*13th. The seven people who ought not to be raised to that station, who give unjust decisions.*

The seven men who should not be made judges, are as follows:—the man who decides in favor of the party, who ought to lose his cause, because he is of high family;—the man who takes bribes, and decides in favor of the party who should lose;—the man who decides in favor of the party who should lose, because he is his relation;—the man who, from fear of death or other evil, decides in favor of the party who should lose;—the man who decides against the party who should gain the cause, because he is his enemy;—the man who decides without ascertaining the facts of the case;—the man who knows the facts, but, because he has the power, decides falsely. These seven men whose decisions are influenced by inclination, enmity, fear, or folly, the king taking council with his

* There are three orders of nats; Wethodde, the clean, free from the dominion of the passions; Oopapatti, who come full sized into the world, the inhabitants of the six nat countries; and Thamoodee, to which order kings are said to belong.

† Decisions in strict accordance with the Damathat cannot be given without entailings in on the judge, punishments being ordered in it involving death, mutilation, and pains which cannot be inflicted without sin, according to the Burman religion.

မောဟာသို့လိုက်၍ စီရင်သည်ကို။ ပြည့်ရှင်မင်း ဧကရာဇ် အမတ်သူတော်ကောင်းနှင့်တိုင်ပင်၍နှင်ထုတ်အပ်၏။ စီရင်၍ပြီးရာကုံကျသမျှကိုလည်းပြန်စေရာ၏။ သို့မှပြည်ရွာတိုင်း ကားသာယာမည်။ ။မင်းစသောသူကြီးဆိုခဲ့ပြီး သည်ငါးယောက်သောသူတို့သည်။ ဆန္ဒာ ဒေါသ။ ဘယာ မောဟာသို့မလိုက်မူ၍လမ်းဟောင်းနှင့်စီရင်သည်။အမှုသည်တို့ပြစ်မှားလျှင်။ဝဏ္ဏုရင်းတွင်နှစ်ဆတက်။ ဒုင်အမှုသည်တို့ကပေးလျော်စေဟုဗြဟ္မာမင်း၏ သားရင်းဖြစ်သောမနူမည့်သောရှင်ရသေ့ဆိုတော်မူ၏။

### ၁၄ ဓမ္မသတ်ကိုသင်သူ။မသင်သူခွဲခြားဆိုသည့်တရား။

မြတ်သောမင်းကြီး။ ဗာရာဏသီမင်းကြီးသည် တိုင်းနိုင်ငံရေးကြောင့်။ မိဌာန်၍ အိပ်သည်ကာလညည့်တွင်း ချင်းအိမ်မက်ပေး လာသည်ကား။ အကြွင်မျက်စိကန်းသော သူကို။ မျက်စိမြင်သောသူ။ တောင်ဝေးစွဲကိုင်စေ၍။ လမ်းကောင်းကိုသွားစေသည်မြင်မက်ခြင်းတပါး။ ။အကြွင်မျက်စိမမြင်ကိုတောင်ဝေးကိုင်သည်။ မကိုင်ချထား၍။ အရှေ့အနောက်တောင်မြောက်မသိမရောက်နိုင်ခြင်းတပါး။ ဤအကြောင်းနှစ်ပါးကိုမြင်မက်သော့ကြောင့်ဗာရာဏသီမင်းကြီးဆင်ခြင်၍။ ဆရာရသေ့ကိုပြန်လျှင်။ ဆရာရသေ့ယူခြင်းကား။အာသဝေါမစင်သမျှ။လူရဟန်းအပေါင်းတို့ရှိကြသည်မှာ။မျက်စိကန်းသောသူနှင့်တူ၏။ထိုမျက်စိကန်းကို။မျက်စိမကန်းသောသူ။တောင်ဝေးကိုင်စေ၍။ခရီးကောင်းကိုသွားရခြင်း။ လိုရာရောက်ခြင်းနှင့်ကား။ဓမ္မသတ်စာဟောင်းထုံးစံကိုတတ်သောသူ။စီရင်သည်နှင့်တူ၏။မျက်စိကန်းကိုတောင်ဝေးကိုင်သည်ပြစ်ချထား၍တောင်မြောက်ရှေ့နောက်မသိနိုင်။ သောင်အရာနှင့်ကား။ဓမ္မသတ်စာဟောင်း။ ထုံးဟောင်းကိုမမှီမကျင့်မသင်မတတ်သောသူစီရင်သည်နှင့်တူ၏ဟုဆရာရှင်ရသေ့အိမ်မက်ဖတ်၍။ မကောင်းကျင့်သမျှဓမ္မသတ်လမ်းဟောင်းမမှန်စီရင်သမျှကို ဗာရာဏသီမင်းကြီးထိပ်လန့်၍ဓမ္မသတ်ထုံးဟောင်းလမ်းဟောင်း အစည်ကျမ်းဂန် သင်ကြား၍ စီရင်မှသာလျှင်မှန်ရာသည်။ယနေ့မှစ၍ခုနှစ်ယောက်သောသူတို့စီရင်သည်ကိုပယ်၍။ ငါးယောက်သောသူတို့စီရင်သည်အတိုင်း။ ဆန္ဒာဒေါသဘယာ မောဟာသို့မလိုက်ရစီရင်ရမည်ဟု။ ပြည်တွင်း ပြည်ပတရာတစင်းထီးဖြူဆောင်းမင်းမှစ၍။ စကြာဝဠာတိုက်အတွင်း၌ ရှိသောလူရဟန်းတို့ကိုမောင်းကြေးနင်းကျော်တီးခပ်စေ၍အာဏာထားသဖြင့်ဆုံးမလေ၏။ ။ထိုနေ့စကြာဝဒေးမင်းစသောမင်းလောင်းတို့သုံးဆောင်ရာဖြစ်သောပတ္တမြားကိုသိကြားမင်းသည်။ပုဏ္ဏားအရောင်ဖန်ဆင်း၍မင်းကြီးအားပို့သလာ၏။ ဝေပူလတောင်

ministers shall dismiss from their situations, and oblige them to return all expenses incurred for these decisions. Then will the country be happy and flourishing. If the first five* shall not follow the dictates of inclination, enmity, fear, or folly, but in their decisions follow the old established road, and a suitor shall accuse one of them (of injustice,) and on enquiry he shall be found to have decided according to law, let the accusing suitor pay in compensation double the amount of the original property.

14*th. The law as regards those who have, and those who have not, studied the Damathat.*

O excellent king! the king of Benares had fallen asleep after making a vow, in the same night he had the following dreams;—(he saw) a blind man led by his staff along the proper road by one who could see. He again dreamed, and saw a blind man whose staff had been let go by the person who had been leading, and not knowing east from west, or north from south, he could not go on his way. He reflected on these dreams, and told them to his teacher, the lord recluse, who interpreted them thus:—all men and Rahans, till their passions† are subdued, are like the blind man; he who was led by the one who could see, and, going the proper road, reached the place he wished to go to, is emblematic of the man who understands the Damathat, and decides in accordance with it; and he who was left by his guide, and did not know east from west, or north from south, is emblematic of the man who gives a decision without having studied or understanding the case. The recluse having thus interpreted the dream, the king became alarmed, seeing that only decisions given in accordance with precedent and the Damathat are just, (so he ordered) that the manner of deciding practised by the above mentioned seven judges should be avoided, and that of the five who avoided the influence of desire, enmity, fear, and folly, should be followed; and using his authority, he sent round the gong within and beyond the city, and ordered the one hundred and one kings bearing white umbrellas, all Rahans, and the inhabitants of the whole earth, to conform to the above order. On that day the king of the Nats, in the likeness of a Bramin, brought him a ruby fit to be used by kings, and all other kings,‡ and embryo deities; and a Nat, brought a ruby that

* Commencing with the king.

† Athawau-matsenthamya from Awga, a stream the four currents that bear creatures away; Kamauga, desire, Bavauga, wish for a change for the better in the next state of existence, Ditauga, heterodox opinions, Awezauga, folly.

‡ The bramins say the four degrees of power attainable by the kings of this world; are Mandat, whose sway reaches over the whole of the four Great Islands and up to Tawadientha, the second of nat countries; Tsetkyawaday, over the four islands only; Eygarit, over the south island, one yoozana above, one below the surface.

ဋ္ဌ်ရှိသောပတ္တမြားကို။ နတ်တို့အသာ မည်သောပုဏ္ဏားအသွင်ဖန်ဆင်း၍။ ဗာရာဏသီမင်းကြီးအားပို့သလာ၏။ ထိုနေ့မှစ၍တိုင်းကားပြည်သူတို့သည်။ စိတ်၏ချမ်းသာခြင်း။ ကိုယ်၏ချမ်းသာခြင်းဖြစ်၍။ စီးပွားများလေ၏။ မိုဃ်းရေတို့သည် ကောင်းပေ၏။ မိစ္ဆာစသော မကောင်းသော နတ်တို့သည်။ ဝေးစွာကြည့်ဖယ်လေ၏။ တရားစောင့်သောနတ်တို့သည်လည်းချည်းကပ်၍စောင့်ရှောက်မစသော့ကြောင့်အကျိုးပွားများလေ၏။ ။ထိုကြောင့်မကောင်းသောတရားသူကြီးတို့ကိုပယ်၍ ကောင်းသော တရားသူကြီးတို့ကို စီရင်စေအပ်၏ဟုဗာရာဏသီမင်းကြီးအိမ်မက်ကို။ ရသေ့အားပြန်၍။ ရှင်ရသေ့တရားဟောသော့ကြောင့်။ ကောင်းအောင်ကျင့်စီရင်ရာတွင်မှ။ များစွာကောင်းကျိုးပေးဘူးကြောင်းကိုမဟာသမတ မင်း အား မနူမည် သောရှင် ရသေ့သက်သေထား၍မိန့်တော်မူ၏။ ။မြတ်သောမင်းကြီး။ မင်းကြီးသည်အထက်ဗာရာဏသီကဲ့သို့ကျင့်စေသတည်း။ ကျင့်ပေမူ။ ဘုန်းတန်ခိုးကြီးပါစေ။ အသက်ရှည်စွာအနာမဲ့လျှင်ဖြစ်ပါစေ။ စည်းစိမ်ချမ်းသာကြီးပါစေ။ ဥစ္စာရတနာလည်း များပါစေ။ တရာတပါး သောမင်း ကိုလည်း အစိုးရပစေ။ ထီးဖြူဆောင်းချင်းမင်း တို့အထွဋ်။ လောကသမုတိနတ်ဟုမိဋ္ဌာန်မှတ်ထား၍။ နတ်များကောင်းကြီးပေးကုန်ရာ၏ဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၅ သွီးလုလင်မိဘပေးစား၍သူငယ်မကြိုက်ကွာသောတရား။

အကြင်မိဘတို့သည်။ သွီးကညာကိုယောကျ်ားလုလင်နှင့် ပေးစားလေအံ့။ အုံးအိပ်မစပ်မှီ။ ယောကျ်ားတပါးနှင့် ပြေးသွားလေသော်အသွင်းစများပေးသောယောကျ်ားငယ်ဥစ္စာ။ မိဘသို့ပေးသမျှကိုလည်း။ ယောကျ်ားငယ်သို့အရင်းတိုင်းပြန်စေ။ ပေးစားရာ ယောကျ်ားငယ်က အလုံးရစေပေးစား၍အုံးအိပ်ရာရှည်လျက်။ ကာမရာဂရှက်ချေမူ။ ယောကျ်ားတပါးနှင့်ပြေးသွားချေသော်။ ထိုသူငယ်မတွင် ပါသမျှမှစ၍။ သူငယ်မ။ ကိုယ်ဘိုးလည်းစားစေ။ ခိုးသူလည်းငွေသုံး ဆယ် ထိုယောကျ်ား ငယ်အား ပေးစေ။ ယောကျ်ားငယ်နှင့်မိမ္ဘငယ်နှစ်ယောက်ကိုပေးစားထိမ်းမြား၍ အုံးအိပ်ရာရှည်သည်။ ကာမရာဂမရောက်မှန်လျှက်သူငယ်မသည်ယောကျ်ားတပါး မရှိ။ ပေးစားသောသူကိုမလို၍ မိဘထံ။ ပြေးသွားအံ့။ သုံးကြိမ်မြောက်ပေးစားစေဦး။ မနေသူငယ်မ။ ညှင်းဆန်လျှင်။ မိဘသို့ပေးသွင်းဦးပဏ္ဏာလွှတ်စေ။ စားပိုင်စေ။ ။သူငယ်ကိုထိမ်းမြားယနေ့မှစ၍။ ယောကျ်ား ငယ်နှင့် ခန်းဝင်မကွာ ရှိသမျှမှာ။ ထဘိုးမိမ္ဘငယ်က။ ယောကျ်ားငယ်သို့ပေး ပြန်စေ။ မိဘတို့မှာသုံးကြိမ်မြောက်အပ်ပေးသော့ကြောင့်။ အထက်သွင်းရင်းကင်းလွှတ်စေ။ ယောကျ်ားငယ်က။

was in Wayboola hill. From that day the people of the country being happy in their minds, and at ease in their persons, became rich, the rains were abundant, the bad Nats kept at a distance, and the good Nats came and watched over the country, much to its advantage. For this reason, having set aside the bad, good judges should be appointed to administer the laws. Thus the lord recluse represented to the king Maha Thamada, the dream of the king of Benares as interpreted by the recluse, and that from his acting in accordance with it, great good was the result. O excellent king! do thou practise as did the king of Benares; if thou doest so, may thy power and glory be great, thy life long, and free from disease, thy riches and happiness great, thy property and gems abundant; mayest thou have dominion over the one hundred and one kings, and as the most exalted amongst white umbrella bearing kings, and chosen of the people for their Thamoodee Nat, the Nats will all give praise. Thus Menoo, the recluse, said.

15*th*. *The law by which a young woman given in marriage by her parents, not liking the husband, separates from him.*

If a maiden daughter is given by her parents to a young man in marriage, and before consummation she shall go off with another, let her parents return all the presents the young man may have made, and let him keep all that was given at the marriage. If she shall run off with another after consummation, let her husband keep all the dower she may have brought, let him also have the price of her body, and let the seducer pay thirty tickals of silver. If after betrothment, and before consummation, there being no other man in the case, she, not liking the man to whom she is betrothed, shall run off to her parents, let her be restored to the person to whom she is betrothed three times. If she persists in refusing to remain with him, let her parents keep all presents made to them beforehand, but let the woman return two fold all that have been made to her from the day of her betrothment. As her parents have given her over to her hus-

မရသာ။ ။ထိုသို့ပေးစားရာတွင်။ယောကျ်ားသွေးဖြည်ချောလျှင်လည်း။ အသွင်းကိုဆုံးစေ။ ထိမ်းမြားရာ။ ယောကျ်ား ငယ်ကပါသမျှကိုလည်း။မိမ္မအားထဘိုးပြန်စေ။ဤကားကာမဂုဏ်မစပ်သည်ကိုဆိုသတည်း။ ။ကာမဂုဏ်စပ်ပြီးမှ။ ယောကျ်ားမလိုမူ။ မိမ္မငယ်ကအလုံးစုံကိုပိုင်စေ။ ယောကျ်ားငယ်ကိုယ်ဘိုးကိုလည်းမိမ္မငယ်အားပေးစေ။ ဤကားထိမ်းမြား၍နေ့လရက်မကြာသည်ကို ဆိုသတည်း။ လင်မယားမြောက်နေကြ၍။ ဥစ္စာပါကြမည်။ နှစ်ပါး လုပ်ဆောင် ကြိုးစည်ရသည် ဥစ္စာမှိုက။ မိမ္မမကြိုက်လည်းယောကျ်ားအလုံး ရစေ။ ယောကျ်ား မ ကြိုက် လည်း မိမ္မအလုံးရစေ။ ထိုဥစ္စာမရှိကြမူ။ ကိုယ်ဘိုးစားပိုင်ကြစေ။ဤကားသူငယ်ချင်းအိမ်ထောင်ကြီးမဟုတ်သည်ကို ဆိုသတည်း။

၁၆ ၎င်သို့်းလုလင်ထိမ်းမြားပေးစားနေ့။ပေးစားသူနှင့်မနေ။တပါး တခြားသူနှင့်နေသောတရား။

မိဘထိမ်းမြား ပေးစားသည်။ မိမ္မကိုအုံးအိပ်ရာမရှည်။ ကာမမပေးညီမကိုလည်းကောင်း။ အစ်မကိုလည်းကောင်း။ ကျိုးကန်း ရှုးနာမဆို။ ကာမစပ်ရှက်ချောလျှင်ထိုစပ်ရှက်သူကိုမယားပြုစေ။ ပေးစားသည်မိမ္မကို မရသာချေ။ အကျိုးအကန်းအနူအရူးဖြစ်သည်။ အိမ်မထောင်နိုင်ပါ။ မှားယွင်းပါသည်ဆိုသော်ချင့်ကိုယ်ဘိုး ပေးစေ။ ပေးစားရင်းသူကိုမရရာလွတ်စေ။ထိုပေးစားသည်နေ့။ ပေးစားသူသို့်းကို အုံးအိပ်ရာ။ ကာမမရှည်မရောက်မပေးကျွန်မကို ကာမရောက် ချေသော်။ ထိုကျွန်မကို သာရစေ ။ ပေး စား ရင်း သို့်း ကိုမရ သာချေ။ ထိုကျွန်မကိုမနေပြီ ဆိုလျှင်။ ထိုကျွန် မ၏ကိုယ် ဘိုး တန် ရာ ကို။ ထိုယောကျ်ားငယ်ကပေးစေ။ ။ပေးစားရင်းသို့်းကိုမရ။အထက်သွင်းသမျှကိုရကောင်းသည်ယောကျ်ားငယ်ကတောင်းလည်းမရရာလွတ်စေ။ ။ ။ ။မိမ္မငယ်မိဘတို့သည်၊ သို့်းတယောက်နှင့်ပေးစားမည်ပြု၍။ပေးစားသေး၏။ ပေးစားရင်းပြုရင်းသို့်းကိုအိမ်ခန်းသို့မဝင်စေ။ညအခါသို့်းတပါးကိုအိပ်စေ၏။ ထိုအိပ်စေသောသို့်းကိုလည်းရစေ။ ပေးစားသောသို့်းကိုလည်းရစေ။နှစ်ယောက်ကိုယောကျ်ားငယ်ကရစေ။ အဘယ်ကြောင့်နည်းဟူမူကား။ ဖျက်ဖျက် ချေသောကြောင့်တည်း။ အကြင်သို့်း ကိုပေးစား သည် ကာလ။ အသွင်းဥစ္စာပဏ္ဏာပေးကောင်း သည်။ မတောင်း။ သို့်းနှင့်ယောကျ်ားငယ်သင့်နေပြီးမှ။အသွင်းလက် ဆောင်းရကောင်း သေးသည် ယော ကျ်ား ငယ် မိဘ။ ယောကျ်ားငယ်ကိုတောင်းသော်မရရာချေ။အဘယ်ကြောင့်နည်းဟူမူကား။ ရှေးမဆိုချေသောကြောင့်တည်း။

band, let them keep all presents made beforehand. Should the man not keep his engagement, let him lose all his advances, and double all he brought with him. This is the law before consummation. After consummation, should the man not desire the woman, let her retain all the property, and let him pay her also the price of his body; this is said of separation soon after marriage. Should they have lived some time together, and both had property at the time of marriage, which has been increased during the time they lived together, and the woman does not wish to remain with the man, let him have all the property. If the man be the party wishing to separate, let the woman have the whole. If they have no property, let the price of their body be paid (by the party wishing to separate.) This is said of a party who have never before been married; not if they have been married before.

16*th. The law when a young woman is given in marriage in the same way, and on the day of the marriage, the man to whom she was plighted shall not remain with her, but go with another.*

If a woman has been formally betrothed by her parents, and before the marriage has been consummated, or they have slept on the same bed, the man shall have connection with her sister, elder or younger, be she deformed, blind, mad, or sick, he shall make a wife of the person he had connection with, and shall not obtain the woman to whom he was betrothed. If he admit that he has committed an offence, and declare that he cannot make the woman his wife, because she is deformed, blind, a leper, or mad, he shall pay the price of his body, and not obtain the woman to whom he was betrothed; let her be free. Should he not sleep with his wife on the day of marriage, and not consummate the marriage, but have connection with a slave, let him make her his wife; he shall not have the woman to whom he was betrothed. Should he refuse to make the slave his wife, let him pay the amount for which she is bound; he shall not obtain her to whom he was betrothed, and she shall retain all the presents he may have made; if he demand them back, he shall not obtain them. If parents shall betroth one daughter, and under favor of the night send another into the bridal chamber, let the man have the daughter he thus sleeps with, and also the one to whom he was betrothed. Let him have both. Why is this?—because a deceit was practised on him. If parents do not demand the usual presents at the time of betrothment of their daughter, but do so after the young man and woman have been some time together, they shall not obtain them. Why is this?—because they did not speak beforehand.

၁၇ သူငယ်ချင်းချစ်၍မိဘအသွင်းခံပြီးမှ။သူတပါးနှင့်ပေးစားသောတရား၊

အကြြင်မိဘတို့သည်အသွင်းအများခံ၍ရှိပြီးမှ။ အသွင်းရှင်နှင့်မပေးစား
ဘဲ။ကြွယ်ဝကုန်တန်ရတတ်သောသူကို သမီးပေးချေမူ။ ထိုယောကျ်ားငယ်က
သွင်းသမျှကိုသမီးငယ်မိဘကထဘိုးပေးစေ။အဘယ်ကြောင့်နည်းဟူမူကား။
စကားရှေ့ချေသောကြောင့်တည်း။

၁၈ မိဘနှစ်ပါးထိမ်းမြားသည်။သူငယ်မနာမစွမ်ရှိသည်ကိုသူငယ်မသိ။
သိလျှင်သူငယ်ကွာသောတရား၊

အကြြင်သမီးကိုနူသည်။ ကျိုးသည်။အသည်။ဆွံ့သည်။ နားပင်းသည်။ ရူး
သည်မလိမ္မာသည်ကို။ယောကျ်ားငယ်မိဘတို့မသိ၍ ပေး စား မည်ဆိုသည်
ကာလ။ မိမ္မငယ်မိဘကအကြောင်းကိုမပြော။ ပဏ္ဏာအသွင်းခံ၍ပေးစားလေ
၏။နူ။ ရူး။ ကျိုး။ ကန်း။ နားပင်း။ အသည်။ ဖြစ်ကြောင်းကို။ ယောကျ်ားငယ်
သိ၍မနေ။အသွင်းကိုတောင်းလျှင်။ ထဘိုးပေးစေ။ အဘယ်ကြောင့်နည်းဟူ
မူကား။မိမ္မငယ်မိဘရှိုးဖျက်ချေသောကြောင့်တည်း။ ချင်းတို့သိလျက်ပြစ်မူ။
အပြစ်မရှိနေထိုင်စေ။မနေလိုမူ။အသွင်းဆုံးစေ။

၁၉ သမီးလုလင်ကို၊အများယောကျ်ားမိဘတို့စည်၍ကယောက်ယောက်။
သူငယ်မကြိုက်သူနှင့်နေသောတရား။

အကြြင်မိဘတို့သည်။ သမီးကညာတယောက်ကို။ ယောကျ်ားမိဘအများ
နှစ်သက်၍ အသီး အသီး ကွမ်လက် ဖက်ရွေ ငွေပုဆိုး အဝတ် တို့ဖြင့်။ လက်
ဆောင်ပြု၍တောင်ကြ၏။ သမီးနှစ်သက်လျှင်နေစိမ့်မည်ဟူ၍လက်ဆောင်ကို
ယူ၏။နောင်သမီးငယ်ကိုဆွေးနွေးမေးမြန်းစီစစ်လျှင်။ရှေးဦးလက်ဆောင်ခံသူ
ကိုလည်းကောင်း။ အလယ်ခံသူကို လည်းကောင်း။ နောက်ခံသူကို လည်း
ကောင်း။ တယောက်ကိုနှစ်သက်သည် သမီးငယ်ဆိုရာ။ နှစ်သက်ရာနှင့် ပေး
စားထောင်နေစေ။ငါတို့ပဏ္ဏာကိုယူသည်ဖြစ်သည်။ငါတို့သားနှင့်မနေရဖြစ်
သည်ဆို ၍ အသွင်းပဏ္ဏာ လက်ဆောင် ကို တောင်း သော် လည်း မရရာ။ အ
ဘယ်ကြောင့် နည်း ဟူမူကား။ သမီးငယ်နှစ် သက် ရာပေး ၍ နေ စိမ့်မည်ဆို
သောစကားရှိ ချေသော ကြောင့် တည်း။ သမီးငယ်မိဘတို့စားပိုင်လေ၏။ သို့
မဟုတ်တုံ။ တဦးလက်ဆောင်အသွင်းကိုခံ၍ ထောင်နေစေရမည်။ သမီးကိုမ
မေးပြီ။ငါတို့မိဘပြီးလျှင် ပြီးတော့သည်။ ချိမ်း ချက်ဆို ပြီးမှ သူတပါးကိုပေး
စားချေသော်။အသွင်းကိုမိမ္မငယ်မိဘက။ယောကျ်ားငယ်မိဘသို့ပြန်စေ။

17*th. The law when a couple are attached to each other, and the parents of the woman having accepted presents, shall give her to another.*

If parents have received large bridal presents, and do not give their daughter to the giver of them, but to a rich man, they shall return to him double. Why is this? Because they have departed from their engagement.

18*th. The law by which a man, when he discovers the fact, may separate from a diseased woman with whom a marriage has been contracted, by mutual consent of the parents of both, he not knowing at the time of marriage that she was diseased.*

If parents have a daughter who is a leper, deformed, dumb, imbecile, deaf, mad, or a fool, and the parents of a young man to whom they betroth her do not know this, and at the time of betrothment they do not tell them, but receive the presents, and give her away, and the young man discovering her defects shall refuse to live with her, and demand back the preliminary presents, let them restore them two-fold. Why is this?—because they practised a deception. Should the man's friends have known her condition, no blame shall attach to her parents; let the couple live together. If the man refuse to do so, let him lose his presents.

19*th. The law when the parents of several young men have sent to demand a young woman in marriage, and she takes one of her own choice.*

If parents have a maiden daughter, and the parents of several young men approving of her, shall separately make presents of betel, tea, gold, silver, or cloth, and demand her in marriage, and the maiden's parents accept them with a promise that if she is willing, they will give her in marriage, should the maiden on consideration, approve of the person who first or last made the presents, or any one of them, let her be given to him; and if the parents of the other young men demand back their presents on the ground that she has not been given to their son, they shall not recover them. Why is this?—because it was stipulated she should be given to the one whom she should choose; her parents have a right to keep the presents. If the agreement was not made thus, but they receive the presents of one, saying they will oblige her to marry (their son,) that the engagement with them is final, and if after this they give her to another, let them return all the presents.

### ၂၀ သမီးကိုလိုချ၍မိဘအိမ်တွင်သူငယ်ကိုဝင်လုပ်၍သူငယ်မကို တောင်း သောတရား။

အသွင်းလည်းပေး ၏။ ယောကျ်ားငယ်လည်း မိမွှငယ်သို့ မိဘအစေကိုခံ၍လုပ်နေ၏။ ကုန်ကြွယ်ဝသူနှင့်ပေး စားချေသော်အသွင်းကို တံဘိုးပေးစေ။ လုပ်ခွန်နေ့ကကိုလည်းတွက်၍ပေးစေ။ သမီးနှင့်ပေးစားမည်တွင်မည်မျှနှစ်။ မည်မျှလ။ လုပ်၍အစေကိုခံ။ သဘောတူဆိုကြ၍။ လနှစ်ဆိုဂတိရောက်ပြီး မှ။သမီးကိုမပေးချေမူသမီးငယ်ကိုယ်ဘိုးယောကျ်ားငယ်ကိုပေးစေ။ထိုသို့ကား ဂတိမဆိုယောကျ်ားငယ်သည်။ မိမွှငယ်မိဘအလုပ်။ဘဏ္ဍာကိုစွမ်းဆောင် လုပ်၍မိဘအသိ။သမီးငယ်အလိုတူအိပ်ခန်းနေရာ။ အုံးအိပ်ရာ။ရှည်တွဲသဉ် သမီးငယ်မိဘတို့က။ ငါတို့ပေး စား သည် လော မဆိုသာ ချေပြီ။ အိပ်နေစား သောက်အလုပ်အကြံအသိအမြင်ဖြစ်ချေသောကြောင့်။ လင်မယားမြောက် စေ။

### ၂၁ သမီးကိုခိုး၍မိဘအိမ်တွင်မဟုတ်။အလျောက်သားမွေးမှ။ မိဘခွာပိုင်သောတတရား။

မိမွှငယ်မိဘ မပေးစားခိုးသွား၍။ သားတကျိပ်မြင်သော်လည်း။ မိဘ ခွာ၍ လင်သစ်ပေး သော် ပေးစားပိုင်စေ။ ငမယားဟုမဆိုပိုင်ချေ။ အဘယ် ကြောင့်နည်းဟူမူကား။သမီးကိုမိဘပိုင်ချေသောကြောင့်တည်း။

### ၂၂ သူငယ်မကိုသူငယ်အလျောက်မိဘမပေးစား။ခိုးသွား၍ မခွာပိုင်သောတရား။

မိဘတို့သည်။ မကြိုက်မနှစ်သက်မပေးစားဘဲ။ မိမွှငယ်နှင့်ယောကျ်ား ငယ်ထွက်ရှောင်ပြေး၍။ မိမွှငယ်မိဘကျေးရွာနေရင်းဖြစ်စေ။ အနီးဖြစ်စေ။ ရောက်လာ၍။ သားနှစ်ယောက်သုံး ယောက်မွေးမြင် သော်လည်းကောင်း။ ငါးနှစ်ဆယ်နှစ်တိုင်သော်လည်းကောင်း။ မိဘတို့အသိအမြင်ဖြစ်ပြီးမှ။မနေ ရပြီခွာသော်မခွာပိုင်ချေ။ မိဘအုပ်သောသမီးကို။ ယောကျ်ားငယ်ခိုး၍ပြေး ရာ။မနေပြီမိမွှက။မိဘထံပြန်သော်ခိုးသည်အပြစ်မရှိ။ ငမယားမဆိုပိုင်။မိမွှ ကိုတည်းယောကျ်ားသည်ခိုးယူပြီးမှ။ မနေပြီဆိုလျှင်မိမွှငယ်သို့ယောကျ်ား ကကိုယ်ဘိုးပေးစေ။ အလျော်ရောက်မှ။မလျော်ပြီနေပါမည်ဆိုသော်လည်း။ မိမွှငယ်မနှစ်သက်က မနေမရသာချေပြီ။ မယားအရာကလွတ်စေ။ကိုယ်ဘိုး ကိုသာယောကျ်ားကမိမွှသို့ပေးစေ။

*20th. The law when a young man, wishing to marry a young woman, gives his services in the house of her parents, and demands her in marriage.*

If (parents) shall not only have received presents from the young man, but he shall also have served them, and they shall give their daughter to a man of wealth, let them return the presents two-fold, and having calculated the value of his labour, let them also pay for that. Should the parents by mutual consent make an engagement, saying, " serve for so many years, so many months, and we will give you our daughter," if when the time is up, the parents do not give their daughter, let them pay the price of her body. In case no engagement was made, should a young man whilst working diligently for the parents, with their knowledge and her own consent, sleep with the daughter in her own room, and have connection with her, the parents shall not afterwards say they did not give her to him; they were aware that they had slept together, and that he was working and eating in the same house; let them be considered as man and wife.

*21st. The law by which parents are empowered to cause the separation of their daughter from a husband who took her without their consent, when she has borne children, not in their house, but in a place of her own choice.*

If the parents of a young woman shall not give her away, but she shall be stolen (seduced) away, even if she has had ten children, they have the power to cause her to separate from (the seducer) and give her to another; the man has no right to say she is his wife. Why is this?—because a daughter belongs to her parents.

*22d. The law when they are not empowered to cause a separation, when the daughter was taken without their consent.*

If a young woman runs off with a young man, not approved of by her parents, and having concealed herself for some time, shall return to the village or neighbourhood in which her parents live, and have two or three children, or live there five or ten years with the man, after her parents have seen and known (of her being there,) they shall not have the power to cause her separation (from her husband.) If a young man runs off with a daughter living under the protection of her parents, and she shall return to them, refusing to live with him, he shall not be punished for the theft, (seducing her away,) but he shall have no right to claim her as his wife. If a man after running away with a man's daughter, refuse to keep her, let him pay the price of his body. If when ordered to make compensation, he offer to live with her, he shall not retain her if she does not consent; let her be released from all obligation as his wife, and let him pay the price of his body.

၂၃ သ္မီးလုလင်မိဘမသိ။ သူငယ်နောက်လိုက်၍။ သုံးကြိမ်အပ်ပြီးလျှင်။ ငင်နောက်မအပ်ရသောတရား။

အကြင်မိမ္မငယ်ကိုအလိုတူယူသွားအံ့။ သုံးကြိမ်မြောက်မိဘတို့သို့အပ်ပေးစေ။ သဘောတူသ္မီးလိုက်ချေသောကြောင့်။ သူခိုးမဟူရာခိုးဘိသည်စွဲ၍။ အရံပိုင်တို့ထံ၍ရှိလည်း။ သင့်နေစေစီရင်၍။ သင့်နေပြန်လျှင်။ လင်မယားကို။ ယောက်ျားမိဘကပေးစေ။ ထိုသို့လင်မယားရိပေးပြီးမှ။ မနှစ်မသက်မနေလိုသူငယ်မဆိုးလည်းကိုယ်ဘိုးပေးစေ။ ယောက်ျားဆိုးလည်းကိုယ်ဘိုးပေးစေ။ လင်မယားမြောက်ကြပြီးမှ။ တယောက်ကိုတယောက်မနေပြီဆိုလျှင်မိတ်တူဖြစ်သည်အမှုကျရန်။ ရန်ကိုအညီပိုင်ရာကိုယူကြစေ။ မိမ္မနှစ်သက်၍။ ယောက်ျားကမနှစ်သက်သော်။ ပိုင်ရင်းဥစ္စာကိုမိမ္မအားစုစေ။ မိမ္မကမနှစ်သက်။ ယောက်ျားကနှစ်သက်ပေကလည်း။ မိမ္မကပိုင်ထိုက်သည်ကိုယောက်ျားအားစုစေ။ ကျေးမြီမှာအပြစ်ရှိသူကပေးဆပ်စေ။ သ္မီးငယ်ကိုသုံးကြိမ်မြောက်အပ်ပြီးမှုကား။ ယောက်ျားမိဘယောက်ျားငယ်ကိုမစွဲရာ။ အဘယ်ကြောင့်နည်းဟူမူကား။ သ္မီးကိုသ္မီး၍ရှင်မနိုင်ပေးသောကြောင့်တည်းဟူပေ။

၂၄ သ္မီးလုလင်နှင့်သူငယ်သွားလာ၍။ မိဘအုပ်သူသိလျက်။ သူတပါးနှင့်မပေးစားပိုင်သောတရား။

အကြင်သ္မီးငယ်နှင့်။ ယောက်ျားငယ်တူတကွအိပ်နေသည်ကို။ မိဘအုပ်သူတို့သိ၍။ ရက်လများမှ။ သူတပါးနှင့်ပေးစားချေသော် မပေးစားပိုင်။ အဘယ်ကြောင့်နည်းဟူမူကား။ မိသိဘမြင် အအုပ်တို့ အသိထင်ရှားဖြစ်ချေသောကြောင့်တည်း။

၂၅ ကျွန်ကိုကျွန်မဟုတ်။ သခင်ဆို၍သူတပါးနှင့်ပေးစား၍သားသ္မီးမွေးမြင်မှ။ ကျွန်ဖြစ်သည်မဆိုပိုင်သောတရား။

အကြင်သူတို့သည်။ ကျွန်မကိုလည်းကောင်း။ ကျွန်ယောက်ျားကိုလည်းကောင်း။ ကျွန်မဟုတ်ဆို၍။ သူတပါးတို့နှင့်။ ထင်ရှားစွာပေးစား သားမြေးစီးပွားများမှ။ ကျွန်ဖြစ်သည် ဆိုချေသော် မဆိုပိုင်။ ဆိုသည် အပြစ်ကျွန်ဆိုတိုင်းကိုလည်းလျော်စေ။ ကျွန်အရာကလည်းလွတ်စေ။

*23rd. The law that a young man after restoring a young woman who has run off with him three times to her parents, is not obliged to return her again.*

If a young woman shall be taken away from her parents with her own consent, let the young man restore her to them three times; as the young woman is consenting it shall not be called "theft." If he be accused before the judge of stealing her, and he decide that they are to live together, and they do so, let them be considered as man and wife, and let the parents of the man pay the law expenses. If after the expenses have been paid, the woman shall refuse to live with him on the ground of not liking him, let her pay the price of her body. If the man refuse to live with her, let him pay (the price of his body.) If after they have thus become man and wife, they both refuse to live together, it is a separation by mutual consent; let each have their own debts, credits, and personal property. If the woman consent to live together, and the man refuse, let her have the whole of the original property. If the man consent to remain together, and the woman refuse, let him have all the original property, and let the party refusing pay all the debts. In cases where a young woman has been returned three times, no action will lie against the young man or his parents. Why is this?—because the "owners" of the daughter could not control her.

*24th. The law that parents shall not give their daughter to one man, knowing that she has slept with another.*

If the parents or guardians of a young woman know that she has slept with a young man, and after several days or months, they give her to another, they have no right to do so. Why is this?—because they are notoriously aware of the above fact.

*25th. The law that when a master gives his slave in marriage to the daughter of another, saying he is not a slave, he shall not claim the children as slaves.*

If any one shall publicly give a slave, male or female, in marriage, and say openly they are not slaves, when the children come to be numerous, he shall have no right to claim them as slaves. If he does, let him pay as a fine the amount said to be due by the slave, and let him be emancipated.

### ၂၆ သူငယ်မကိုယောကျ်ား။သဘောတူသန္ဓေပေးပြီးမှ။မနေသောတရား။

အကြင်မိမွေငယ်ယောကျ်ားငယ်တို့စိတ်တူသန္ဓေပေး၍။ မနေ မထောင်
မလျှော်မှီ။ သန္ဓေနှင့် တကွသူငယ် မသေသော်။ ငွေ အကျပ် ခြောက် ဆယ်
လျှော်စေဟုမနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

### ၂၇ ကညာလေးပါးကိုပြစ်မှားသောတရား။

သမီးကညာတို့ကိုစိတ်မတူ။ အပိုင်အနိုင်ပြစ်မှားခြင်း၌။အရွယ်မရောက်
သော ကညာ မျက်စေ့ သူလား နှစ်ဖက် ကန်း သော ကညာ။ အ ရူး ဖြစ် သော
ကညာ။ အရွယ်လွန် ပြီးသော ကညာဟု လေးပါးအပြားရှိ၏။ ထိုမှ တပါးအ
မျိုးတူ၍။ဆန္ဒမတူသောကညာ။ဆန္ဒတူ၍အမျိုးမတူသောကညာ။အမျိုးတူ
ဆန္ဒတူကညာ။အသူးမတူဆန္ဒမတူ။ကညာဟူ၍လေးပါးကိုမှတ်ရာ၏။မြတ်
သောမင်းကြီးအရွယ်မရောက်သေးသောကညာ။သူအိုဖြစ်သော ကညာ။အ
ရူးကညာတို့ကိုစိတ်မတူအပိုင်အနိုင်ယောကျ်ားတို့လွန်ကျူးချေမူ။ ၎င်သုံး
ဦးသောကညာတို့မှာ။ငွေစင်အကျပ်တရာလျှော်စေ။မင်းဒါန်လည်းသင့်စေ။
သူလားနှစ်ဖက်ကန်းကို။သဘောမတူပြစ်မှားချေလျှင်။ ငွေစင်အကျပ်နှစ်ရာ
လျှော်စေ။ ဆိုးရွားသောစကျွဲရှိချေသော့ကြောင့်တည်း။ မင်းဒါန်လည်းသင့်
စေ။ဤကားအရွယ်မရောက်သူငယ်မတွင်။အတင်းမုတိမ်းကိုဆိုသတည်း။
။ ။တရားဝင်သူငယ်မအရွယ်လွန်မိမွေ။နှစ်ယောက်တို့ကို။သဘောတူမှန်
လျှင်။ပြစ်ဝက်ကိုလျှော်စေ။ တရားဝင်သူဖြစ်သည်ရာဇာဝတ်မင်း ဒါန်ကင်း
စေ။အ ရူးမျက်မမြင်တို့ကို။ သဘော တူအရွယ်ရောက် ဖြစ်၍။ယည်ပါးလျှင်
လုံခြုံအောင်ကျွေးမွေးထိန်းသိမ်းစေ။သန္ဓေရှိလျှင်။စောင့်မလုပ်ကျွေးမွေးစေ။
သားမွေးလျှင်သားထိန်းနို့စို့။ အ ရူးမှာပေး စေ။ မျက်မမြင်မှာ သား ထိန်း တ
ယောက်နှင့်။ တောင်ဝေးစွဲပေးစေ။ ဤအရာကားသဘောဟူစပ်ရှက်ရာတွင်
သန္ဓေရှိ၍မွေးမြင်သည်ကိုဆိုသတည်း။ ။သန္ဓေမရှိသဘောစိတ်တူ
ယည်ပါးသည်ကို။မကျွေး မမွေးချေလျှင် အ ရူးမှာငွေသုံးဆယ် လည်းဟူ၏။
ငါးဆယ်လည်းဟူ၏။ မျက်မမြင်မှာ။ သုံးဆယ် လည်းဟူ၏။ခြောက်ဆယ်
လည်းဟူ၏။ဤကားအရွယ်ရောက်၍။သဘောတူသည်ကိုသာဆိုသတည်း။

### ၂၈ ဆန္ဒမတူ။ယညာလေးပါးကိုပြစ်မှားသောတရား။

ထိုမှတပါးအမျိုးတူ၍။ ဆန္ဒမတူသောကညာကို။ ဆိပ်ကွယ်ရာသောအ
ရပ်၌။အပိုင်အနိုင်ကျင့်ချေသော်။အရွယ်မရောက်က။အမျိုးတူသည်ဟုမဆို

*26th. The law when a man having got a young woman with child by her own consent, refuses to marry her.*

If a young woman is gotten with child by her own consent, before the man lives openly with her, and she dies before he has paid the fine, or before the child is born, let him pay in compensation sixty tickals. Thus the recluse, called Menoo, ordered.

*27th. The law when one of the four kinds of virgins is deflowered.*

As regards virgins deflowered against their inclination, there are four kinds; 1st, one not arrived at puberty; 2nd, one who is blind of both eyes; 3rd, one who is mad; 4th, one who is beyond the grand climacteric. Besides these there are four kinds; 1st, one who is of the same class, but different desires from (the ravisher;) 2nd, one whose desires are the same, but class different; 3rd, one the same both in class and desire; 4th, one different both in class and desire. These four distinctions must be noted and considered. Oh excellent king! if a man shall by force deflower a virgin who has not reached the age of puberty, one who is mad, or one who is beyond age, let him pay one hundred tickals in compensation, and let him also suffer criminal punishment. If it be a virgin blind of both eyes, against whom the offence is committed, let two hundred tickals of pure silver be paid in compensation, because she is entirely blind, and let the offender be also punished criminally. This is said when she has not attained the age of puberty. If she be arrived at the age of legal responsibility, or beyond age, and consenting, let half the above compensation be paid; and as she is of legal age, let no criminal punishment be inflicted. If a virgin who is mad or blind, be of legal age, and consenting, let the offender support and take proper care of her whilst with child, and when the child is born, let him in the case of the mad woman, provide a wet nurse, and of the blind one, an attendant for the child, who shall lead the mother about; that is, when the offence was committed by mutual consent, and a child is born. If there be no child, and the connection be by mutual consent, should the man refuse to support the woman, he shall pay the mad woman thirty tickals, or as some authorities say, fifty; to the blind one thirty tickals, or according to some authorities sixty; that is, when they have arrived at the age of puberty, and are consenting.

*28th. The law when a rape is committed on one of the four classes of virgins.*

Besides these, there is a virgin of the same family as the offender, but who is not consenting. If the offence be committed in a sequestered place, violence used, and the girl not arrived at the age of puberty, she shall not be said to belong to the same family.* Let the

* The Bramins plead family relationship in extenuation.

သာချေ။ ။ငွေအကျပ်တရာလျှော်စေ။အမျိုးမစောင့်သည်ဝန်မင်းဒါန်လည်း
ခံစေ။ အမျိုးတူအလိုတူဖြစ်လျှင် ထောင်နေကြစေ။ မိဘမိဘက မကြိုက်မနှစ်
သက်လျှင်ခွာပိုင်စေ။ ယောကျ်ားမိဘတို့မကြိုက်မနှစ်သက်သည်ဟူ။ မခွာ
ပိုင်ချေ။ယောကျ်ားကမကြိုက်လျှင်။ကိုယ်ဘိုးပေးစေ။ မိဘမကြိုက်လျှင်ကင်း
လွတ်စေ။ဤကားသူဆင်းရဲသူတန်ချင်းကိုဆိုသတည်း။ ။ဆန္ဒတူ၍။အမျိုး
မတူသော်။ မင်းမျိုးကညာအရွယ်မရောက်သူကိုအပိုင်အနိုင်ကျင့်ချေလျှင်။
ငွေအကျပ်လေးရာ။ပုဏ္ဏားမျိုးဖြစ်ကသုံးရာ။ သူဌေးသူကြွယ်မျိုးဖြစ်ကနှစ်
ရာ။သူဆင်းရဲမျိုးဖြစ်ကတရာလျှော်စေ။ ။အရာအထူးမရောက်သောသူ
တို့တွင်။ အမျိုးကိုဆိုသောငွေအလျှော်စကားတည်း။ အရာအထူးသို့ရောက်
သောသူတို့မှာ။အထက်ဆိုခဲ့သောငွေလျှော်စကားရှိပြီဟူမှတ်ရာ၏။ မိတ်
တူအရွယ်ရောက်ဖြစ်ကြလျှင်။ထောင်နေကြစေ။အမျိုးယုတ်သူဖြစ်သည်ဟူမ
ခွာပိုင်ချေ။မိဘမြတ်သောသူနှင့်မိတ်တူဖြစ်ကြသော်။ မနေပြီဆိုချေလျှင်။မိဘ
မှာအပြစ်မရှိ။ မဆိုသာချေ။ချင်းမိဘမခွာသမျှသည်။ချင်းကိုယ်ဘိုးမလွတ်
သာချေ။အမျိုးအလိုက်တန်ရာယောကျ်ားသို့ပေးစေ။ယောကျ်ားကမကြိုက်
သော်လည်းချင်းအမျိုးအလိုက်။မိဘသို့ကိုယ်ဘိုးပေးစေ။ဤကားယောကျ်ား
သူတန်သူဆင်းရဲမိဘအမျိုးရှိကိုဆိုသည်ဟူမှတ်ရာ၏။ ။အမျိုးတူဆန္ဒ
တူဖြစ်ကြသော်လည်း တရားမဝင် အရွယ်ငယ်သော်။ သူငယ်မဖြစ်ပေက
အမျိုးတူဆန္ဒတူဟူမလွန်မကျူးသာချေ။ မင်းဒါန်ကိုလွန်ကျူးသူခံစေ။ အ
မျိုးမစောင့်သည်ဝံ။ ပူဇော်ထုံးကြီးထားသည်အတိုင်းအမျိုးအလိုက်ပူဇော်
စေ။အရွယ်ရောက်ကြမူ။အပြစ်မူရှိထောင်နေကြစေ။အမျိုးလည်းမတူ။ဆန္ဒ
လည်းမတူ။နှစ်ပါးကွဲရာ၌မိဘတရားမဝင်သေးသည်။သူငယ်သူဆင်းရဲမျိုး။
ယောကျ်ားမင်းမျိုး။ပုဏ္ဏားမျိုး။ သူဌေးသူကြွယ်မျိုး။ ပြည်စုံကုန်ထံသူတို့။အ
ပိုင်အနိုင်ဆိပ်ပြမ်ရာတောအရပ်၌ကျင့်ချေသော်။ဒွန်းစဏ္ဍားအဝင်။သူယုတ်
မျိုးဖြစ်သည်။တဆယ်ငါးကျပ်။ခုနှစ်ကျပ်နှစ်မတ်။ငါးကျပ်ငွေကိုသူကောင်း
ကသူနှပ်ကိုလျှော်စေ။ ဆိုသည်စကားနှင့်မနှိုးသာချေ။ အမျိုးမစောင့်ရာ
ရောက်သည်။ အကျပ်တရာလျှော်စေ။ မြတ်သောမင်းကြီး မိတ်တူသည်ပင်
ဖြစ်သော်လည်း။ အရွယ်မရောက်ချေကအကျပ်ငါးဆယ်လျှော်စေ။ အရွယ်
ရောက်၍မိတ်တူသည်ဖြစ်လျှင်ထောင်နေစေ။ ။အမျိုးမြတ်သောသူ
ယောကျ်ားကမထောင်မနေလျှင်။ မိဘ၏အမျိုးအလိုက်။ ငါးကျပ်မျိုး။ ခုနှစ်

offender pay one hundred tickals in compensation, and let him also be punished criminally for neglecting the honour of his family. If they be of the same family and consenting, let them become man and wife. If the woman's parents do not approve of the man, let them have the right to cause their separation. If the parents of the man object to the match, they shall have no such right. If he himself do not like the woman, let him pay the price of his body. If the woman do not like the man, let him not pay; there is no blame. This is said of people of the poor class, or those possessed of moderate means, when the woman consents, and the family is different. If a virgin of the royal family, not arrived at the age of puberty, be deflowered by force, let the offender pay four hundred tickals of silver in compensation. If she be a Braminee, three hundred. If of the thatay or wealthy class, two hundred, and if she be of the poor class, one hundred tickals of silver shall be paid in compensation. This is said of people not of rank, or holding a title conferred by the king. If they be so, the law for their paying compensation in gold has already been laid down. If the parties be of the same age and consenting, let them become man and wife; they shall have no right to separate on the ground that one is of a lower class. If the woman be the party of higher rank, and shall afterwards refuse to remain with the man, she shall not be held free of blame. If she be not separated by her parents, let her pay to the man the proper price of her body according to her class. If the man be the recusant party, let him pay the price of his body according to his class. This is when the man is of the poor class, or is possessed of moderate means, and the woman a person of rank. Although they be of the same class and consenting, if the woman is not of a legal or responsible age, or not arrived at puberty, they shall not plead their being of the same class and mutually willing, in extenuation of their offence; let the offender be punished criminally, and let him make the established offering for neglecting the honour of his family. If the woman has reached puberty, there is no blame; let them become man and wife. If the class be different, no consent given, the woman of the poor class, and not attained the age of puberty, the man of the royal, bramin, or thatay class, or possessed of moderately large property, and he deflower the girl in a sequestered part of the forest, it is the act of a degraded person, of a Dwoontsanda; it shall not be comprised in what has already been laid down, that a person of superior class shall pay to one of an inferior or degraded class, fifteen, seven and a half, or five tickals of silver; it is a disregard of the honour of his class; let him pay one hundred tickals. Oh excellent king! though the woman be consenting, if she has not arrived at puberty, let him pay fifty tickals. If she be of proper age and consenting, let them become man and wife. If the man, being of high class, does not wish to take the woman, let him make compen-

ကျပ်နှစ်မတ်မျိုး။တဆယ်ငါးကျပ်ဌွန်းစလျှားအမျိုးတို့က။သက်သည်အမျိုး
အလိုက်။အမျိုးမှန်ရာလျော်စေ။မိမ္မကျွန်စည်မျိုးဖြစ်လျှင်။ ငါးကျပ်ငွေကကို
တက်သာပြီ။ဤင်ဆိုခဲ့သည်အတိုင်းလျော်တန်ဟူပေဟု။ရှင်ရသေ့ဆိုတော်မူ
၏။ ။ဤကားကညာရှစ်ရပ်စကားပြီး၏။

မြတ်သောမင်းကြီး။ သွိုးလုလင်စကားကိုဆိုပေတုံအံ့။ အကြင်မိမ္မသည်။
တလင်နေ၍သားမွေးသည်ဟုဖြစ်တုံအံ့။ ယောကျ်ား လည်းတမယားနေဘူး
သူဖြစ်တုံအံ့။ထိုသူနှစ်ယောက်တို့ကို။သွိုးလုလင်ဟုမှတ်ရာ၏။ဤင်သွိုးလုလင်
ယောကျ်ား မိမ္မတို့သည်စိတ် သဘော တူကျွမ်ဝင်ရှက်တင်၍။ ကာမရာဂစပ်
ကြမူ။ ထောင်နေကြစေ။ နှစ်ယောက်မြတ်ချင်းတူစေ။ တယောက်မြတ် ၍တ
ယောက် နိမ့်သူ အမျိုး ဖြစ်စေ။ မနေလိုဟု ညင်း သော သူကိုယ် ဘိုးပေးစေ။
မလွှတ် သာချေ။ သိတင်းရှိသော။ပုဏ္ဏားသွိုးကို။ ပုဏ္ဏားတယောက်ပြစ်မှား
မိမူကား။ဒါန်သင့်အပ်၏။ ဒါန်ဟူသည်ကား။ ဥက္ကောင်းကိုရိပ်အပ်၏။ အလို
မတူဘဲလျက်ပြစ်မှား မိမူ ကား။ လျော်စေ၍ ပြည်မှနှင်ထုတ်အပ်၏။ အလိုတူ
ကြပေမူကားပြည်မှမနှင်ထုတ်အပ်သတည်း။

အုပ်ထိန်းရာသည်။နှစ်ကျိပ်တယောက် သောမိမ္မကိုဆိုပေတုံအံ့။ ။
၁။ အသက်အရွယ်ကြီး သောမိမ္မကိုစောင့်ရှောက်ခြင်း။ ၂။ ရူးသောမိမ္မ
ကိုစောင့်ရှောက် ခြင်း။ ၃။ နူသောမိမ္မကိုစောင့်ရှောက်ခြင်း။ ၄။ ကိုယ်
ဝံရှိသောမိမ္မကိုစောင့် ရှောက်ခြင်း။ ၅။ ငယ်သောမိမ္မကို စောင့် ရှောက်
ခြင်း။ ၆။ ဒရိုးဝေးကလာသောမိမ္မကိုစောင့်ရှောက်ခြင်း။ ၇။ မြို့ကို
လို၍ချုပ်ထားသောမိမ္မကိုစောင့်ရှောက်ခြင်း။ ၈။ အဖစောင့်သောသွိုး။
၉။ အမိစောင့်သောသွိုး။ ၁၀။ အဖွားစောင့်သောသွိုး။ ၁၁။ အဖိုး
စောင့်သောသွိုး။ ၁၂။ အစ်မစောင့်သောသွိုး။ ၁၃။ ညီမစောင့်သော
သွိုး။ ၁၄။ မောင်ငယ်စောင့်သောသွိုး။ ၁၅။ မောင်ကြီးစောင့်သောသွိုး။
၁၆။ မိကြီးစောင့်သောသွိုး။ ၁၇။ မိထွေးစောင့်သောသွိုး။ ၁၈။ ဘကြီး
စောင့်သောသွိုး။ ၁၉။ ဘထွေး စောင့် သောသွိုး။ ၂၀။ အရိုးစောင့်
သောသွိုး။ ၂၁။ ဦးရိုးစောင့်သောသွိုး။ ဤနှစ်ကျိပ်တယောက် သောမိမ္မ
တို့ကို။အလိုတူသည်ဟုမပြစ်မှား အပ်။ ပြစ်မှားချေသော်။ကြီးစွာသောဒါန်
ကိုပေးအပ်၏။ဤကားဓမ္မသတ်တည်း။

အဋ္ဌကထာထွက်သောမိမ္မတို့ကိုဆိုပေတုံအံ့။ ၁။ မာတုရက္ခိတာ။အမိ
စောင့်သောမိမ္မ။ ၂။ ပိတုရက္ခိတာ။အဖစောင့်သောမိမ္မ။ ၃။ မာတုပိရက္ခိ
တာ။မိဘနှစ်ပါးစောင့်သောမိမ္မ။ ၄။ ဘာတုရက္ခိတာ။မောင်စောင့်သောမိမ္မ။
၅။ ဘဂိနိရက္ခိတာ။ အမစောင့်သောမိမ္မ။ ၆။ ညာတိရက္ခိတာ။ အမျိုးစောင့်

sation according to her class, whether it be the five, seven and a half, the fifteen tickal, or the Dwoontsanda class. If she be an hereditary slave, no more than five tickals shall be paid. In this way let decisions as to compensation be given. Thus the lord hermit said. End of the law regarding the eight classes of virgins.

Oh excellent king! I will now repeat what is said of a man and woman coming together who have been before married. If any woman shall have had one husband and borne children, and the man has also been once married before, they shall be called "Thameelooling." If by mutual consent, they have carnal connection, let them become man and wife; be they both of equal rank, or one higher and the other lower, (if one refuse the connection,) let the recusant party pay the price of his (or her) body; they shall not be let off. If one bramin shall have carnal knowledge of the daughter of another, who is of good character, he ought to be punished by having his head shaven. If the act has been committed against her inclination, let him be compelled to make compensation and be banished the country. If she be consenting, he should not be banished.

I will now treat of the twenty-one women who have people to look after them;—1st, a woman of advanced age; 2nd, a mad woman; 3rd, a leper; 4th, a woman with child; 5th, a young woman; 6th, a woman who has come from a distance; 7th, one confined for debt; 8th, a daughter under the protection of her father; 9th, one under the care of her mother; 10th, one under the care of her grandmother; 11th, one under that of her grand-father; 12th, one under care of her elder sister; 13th, one under care of her younger sister; 14th, one under care of her younger brother; 15th, one under care of her elder brother; 16th, one under care of her aunt by the mother's side, elder than her mother; 17th, one under care of her aunt, younger than her mother; 18th, one under care of her father's elder brother; 19th, one, of her father's younger brother; 20th, one, of her father's sister; 21st, one, of her mother's brother. These twenty-one classes of women, even if consenting, shall not be had carnal knowledge of; if they be, the offender shall be severely punished; this is laid down in the Damathat.

I will now treat of the women who are spoken of in the commentaries on the sacred books;—1st, a woman taken care of by her mother; 2nd, one taken care of by her father; 3d, one by both; 4th, one by her brother; 5th, one by her elder sister; 6th, one by her relations; 7th, one by her family; 8th, a woman protected by

သောမိမ္မ။ ၇။ မိတ္တရက္ခိတာ။အန္တယ်စောင့်သောမိမ္မ။ ၈။ ဓမ္မရက္ခိတာ။သိ
တင်းသုံးတော်စောင့်သောမိမ္မ။ ။ဤရှစ်ယောက်သောမိမ္မတို့ကို။သတော
တူလျှင်။ ကာမေသုမိစ္ဆာစာရမရောက်ငဲကင်း၏။ အအုပ်အထိန်းတို့မိတ်
မတူလျှင်။အိမ်ထောင်ရကောင်းသည်။ မပြုရကောင်းသည် မဆိုသာချေ။
အဘယ်ကြောင့်နည်းဟူမူကား။ အုပ်ထိန်းစောင့်ရှောက်သူခွင့်မပေးသော့
ကြောင့်တည်း။သာရက္ခာ။ အစောင့်အရှောက်ရှိသောမိမ္မ။ ။သပရိဒဏ္ဍာ
မင်းမောင်းမအစရှိသော။ ဒါဏ်ထားသောမိမ္မ။ ထိုနှစ်ယောက်သောမိမ္မတို့
မှာ။မိစ္ဆာစာရမကင်းအလျှော်ပြစ်လည်းသတော တူသဉ်ဟုမလွတ်သာချေ။
အဘယ်ကြောင့်နည်းဟူမူကား။ မှန်းထားစောင့်ရှောက် ရောက်ပေါက်သူရှိ
ချေသော့ကြောင့်တည်း။အထက်ဆိုခဲ့ပြီးသောမိမ္မရှစ်ယောက်မှာ။ အအုပ်အ
ထိန်းအစောင့်အရှောက်တို့သည်တော်သင့်ရာ။မပေးမထိမ်းမြားဘဲ။ သူငယ်
ချင်းသတောတူ၍ စပ်ရှက်ကြလျှင်။ အသက်နှစ်ဆယ်ကလွန်ပေသော်။ သူ
ငယ်မနှစ်သက်ကနဲ့ပိုင်စေ။အဘယ်ကြောင့်နည်းဟူမူကား။ အအုပ်အထိန်း
တို့သည်။ဖသာဟူသောအတွေ့ကိုစောင့်ခြင်းမဟုတ်။သူငယ်မကိုသာစောင့်
ခြင်းဖြစ်ချေသော့ကြောင့်တည်း။

ဆိုခဲ့ပြီးသမျှမိမ္မတို့တွင်။ ၁။ ဓနရက္ခိတာ။ဥစ္စာဖြင့်ပေး၍စောင့်ရှောက်
သောမိမ္မ။ ၂။ ဆန္ဒဝါသိနီ။အလိုတူ၍နေသောမိမ္မ။ ၃။ ဘောဂဝါ
သိနီ။ဥစ္စာစည်းစိမ်ပေး၍နေသောမိမ္မ။ ၄။ ဝတ္တဝါသိနီ။ အဝတ်ပုဆိုးပေး
၍နေသောမိမ္မ။ ၅။ ဩဒပတ္တကဝါသိနီ။ ရေတခွက်တည်း၌။ မိမ္မနှစ်
ယောက်ျားလက်နှင့်ကျ၍။ ဤရေသည်မပြိုမကွဲ။ တစပ်တည်းဖြစ်ပြိုသကဲ့
သို့။ မပြိုမကွဲဖြစ်ပါစေ။ သစ္စာပြု၍နေသောမိမ္မ။ ၆။ ဩပဍုမ္ဗတာ။
ခေါင်းခုချ၍နေသောမိမ္မ။ ၇။ ဒါသိဘရိယာကျွန်မယားဖြစ်သောမိမ္မ။
၈။ မုဟုတ္တိကာ။တခဏမျှနေသောမိမ္မ။ ၉။ ကမ္မကာရိစဘရိယာ။အမှု
ကိုလုပ်၍ရသောမိမ္မ။ ၁၀။ ဓဇာဟတာ။ တကွန်ထိပ်၌စိုက်လျှက်သူနိုင်ငံ
ကိုထိုး၍ရသောသုံးဖြစ်သောမိမ္မ။ ။ဤတဆယ်သောမိမ္မတို့မှာသတော
တူသည်ဟုပြစ်မှားချေသော်။ ကာမေသုမိစ္ဆာစာရ။ မကင်းကြောင်းကိုကျမ်
၌ဆိုသတည်း။ ဓမ္မသတ်မှာသုမယားမှန်းသိသမျှကို။ အလျှော်မကင်းသာ
ချေ။ အမျိုးအလိုက်လျှော်စေ။ သို့မှဓမ္မသတ်လမ်းကြောင်းတမျည်ကြောင်း
အတိုင်းရှေးမင်းလောင်းတို့စီရင်ထုံးရောက်သတည်း။

ငိုအထက်နှစ်ကျိပ်တယောက်သောမိမ္မတို့မှာလည်း။အဖိုးအဖွားမိထွေးမိ
ကြီး။ဘကြီး။ဘထွေး။အစ်မမောင်ဦးရီး။အရီးပြည်စိုးမြို့ကွပ်။ထိုသူတို့တွင်။
တယောက်ယောက်အုပ်ထိန်းသဉ်ဟုသူငယ်မကိုမြတ်နိုးသော်။ ယောက်ျား

her religious habits. If carnal knowledge be had of any of these eight classes of women with their consent, there is no punishment in a future state. If the person under whose care they be, shall not give consent, they shall not be claimed as a wife. Why is this?—because their protector is not willing. If connection be had with a woman who has a protector, the concubine of a chief, or any woman for transgressing with whom a penalty is laid down, the pains of hell will be incurred, and the transgressor shall not be let off the compensation on the ground of their being consenting. Why is this?—because there is a person who has her for his, who is in communication with her, and is her guardian and protector. As regards the eight women above noted, if their protector do not give them in marriage to a proper person, and they shall willingly have connection with a young man, provided they are above twenty years of age, let them have a right to live with the man of their choice. Why is this?—because their protector watched them without regard to their desires.

Of the women above spoken of,—1st, a woman to whom property has been given and who is living under the protection of the giver; 2nd, a woman who is cohabited with by her own consent; 3d, a woman who has been placed in ease and affluence by her paramour; 4th, one to whom clothes have been given and who cohabits with the giver; 5th, one with whom a man, putting his hands in the same cup of water, has vowed that as the water is one without division, so will they be; 6th, one whose pad (for bearing burdens) has been removed from her head,* and is taken to live with the man (who relieved her;) 7th, a slave wife; 8th, a woman taken for a short time; 9th, one got in return for service performed; and 10th, a woman taken in war from an enemy's country, where the sacred standard is unfurled. It is laid down in the scriptures, that a man shall not be free from sin, if he has connection even by her own consent with any of these ten classes of women; and in the Damathat, that inasmuch as he knew her to be the wife of another, he shall not escape the penalty, but shall pay the compensation according to her rank and class; and in that case, the rules laid down in the Damathat will be abided by, and the precedents established by kings, embryo gods of old, will not be departed from.

Of these twenty-one, if any of those who are under the protection of their grand-father, grand-mother, aunt elder than their mother, aunt younger than their mother, uncle elder than their father, uncle younger than their father, elder sister or brother, uncle by the mother's side, aunt by the father's side, or the governor or head of a town, shall be given by her protector to the man of her choice, without the

* Who has been released from a state of laborious poverty.

နှင့် ပေးစားထိမ်းမြားလေသခံ့။ အဖရင်းမသိသမျှကို။ မထိမ်းမြားပိုင်။ မရပိုင်ချေ။ အဖ မပေးသူသာလင်ဖြစ်စေ။ အဖတည်းသေသော်။ အမိပေးသူလင်ဖြစ်စေ။ အမိမရှိပေါက်ဖော်အုပ်ရှိလျှင်။ မည်သူတို့ကမျှမပေးပိုင်။ အုပ်ထိန်းသူပေါက်ဖော်ရင်းချာပေးမှပိုင်ရာသည်။ အမိအဖပေါက်ဖော်ရင်းချာမှလွတ်လျှင်။ အုပ်သူပေးသမျှကိုပိုင်စေ။ ။အကြင်သူသည်။ ဆိုခဲ့ပြီးသောအအုပ်အစောင့်ရှိပေလျက်။ သူငယ်မစိတ်မတူသည်ကို။ အားရှိအားမဲ့အပိုင်အနိုင်ယူချေအံ့။ ယူသူ၏လက်ဝဲလက်ညှိုးကိုဖြတ်စေ။ အဖြတ်ကိုမခံဝံ့မူ။ အမျိုးမြတ်သည် ပစ္စည်းများသည်ဟုယူချေလျှင်။ ယူပြစ်ဒါန်ကြေးနီခြောက်ရုံလျော်စေ။ ။ ။ ။သူငယ်မသည်အလိုတူ၍ယူမိမူကား။ ဒါန်မသင့်ရာတည်း။ ။မင်းမှုရာဇဝတ်ရေးကဲ့သို့။ အထိန်းအအုပ်တို့ကို။ ကျော်နင်းကျူးလွန်ပြုကျင့်မိသည်။ အပြစ်ကျနရာဟူသမျှကိုခံစေ။ သူငယ်မကိုအထိန်းအအုပ်။ မိဘဆွေမျိုးပေါက်ဖော်တို့ကိုအပ်စေ။ သို့ကားဆိုတုံ၏။ ယူသောသူသည်၊ အမျိုးဥစ္စာများသည်ဟုကြောင်း။ မယားကြီးသားကြီးရှိပေလျက်။ သူငယ်မကိုဖျားယောင်း၍စိတ်တူသည်ဟု။ သိမ်းယူပြုကျင့်ချေလျှင်။ ကြေးနီးဒါန်နှစ်ဆယ်လျော်စေ။ အပျိုအငယ်ချင်းဖြစ်၍။ စိတ်တူသောကြောင့်ယူလျှင်။ သူငယ်မအအုပ်အထိန်းတို့သဘောမတူက။ အအုပ်အထိန်းဆွေမျိုးတို့သို့ အပ်စေ။ ကြေးငွေခွန်အားကြီးမားသည် အမျိုးမြတ်သည်ဟု အပြစ်မရှိရာ ကင်းလွတ်စေ။ တရားတန်ဆာအကျကိုသာယူသူကကျခံစေ။

၂၉ သွီးကညာက။ သူတပါးသွီးကညာကိုယောကျ်ားတပါး။
အောင်ဆိုဖျက်သောတရား။

သွီးကညာကိုသွီးကညာချင်းချင်း။ မိဘအအုပ်အထိန်းတို့မနှစ်သက်သူနှင့်အောင်သွယ်၍။ ဖျက်ဆီးမိချေအံ့။ ထိုဖျက်ဆီးမိသူက ကြေးနီနှစ်ရာလျော်စေ။

၃၀ မိမ္ဘကညာကြီးကိုဖျက်ဆီးသောတရား။

မိမ္ဘကြီးတဦးလှည့်ပတ်ဖျားယောင်း၍။ ဖျက်ဆီးမိချေသော်။ ထိုဖျက်ဆီးသူမိမ္ဘကြီး၏ဥက္ကောင်းကိုရိတ်။ ဒါဏ်ဟူသောကြိုနိဖြင့်ခတ်ပြီးလျှင်။ ပြည်မှနှင်ထုတ်ရာ၏။ ကြေးနီနှစ်ရာကိုလည်းလျော်စေဟူ၏။ ဥက္ကောင်းရိတ်ကို မခံဝံ့လျှင်ငွေသုံးဆယ်ပေးစေ။ ဤကားပြည်ရွာမှမနှင်မထွက်။ အရိုက်ကိုလွှတ်စေလို၍။ လျော်ပေးရသောအမှုတည်း။ ရိုက်၍ပြည်မှနှင်ထုတ်သော်။ မလျော်စေရာပြီဟူ၏။ ။တနည်းလည်းထိုဖျက်ဆီးသောမိမ္ဘကြီးကို။ ချင်းလည်ဘင်းတိုင်အောင်။ မြေမြှုပ်စေ၍။ သိတ်နယ်ဘက်စီးရာ၏၊ တနည်းလည်းမောင်း

slave was given in marriage shall die or the couple shall separate, or the person made a priest shall return to a secular life; and the master shall say "the person to whom I gave my slave in marriage is dead, or they have separated, or the person I made a priest has quitted the priesthood," and, breaking his promise, shall demand that the emancipated slave should return to slavery, or pay the debt, if he be a man of a good class or family, let him be banished from the country, and let him not receive what he demanded. If he be a man of low class or family, he may be beheaded, or his hands or feet cut off, or he may be punished criminally till his body is sorely bruised, or becomes thin and wasted. This is not a law of the Damathat, but comes under the head of Yazathat, or Papathat; so the subject is one for consideration.

In another case; if a degraded person shall break his promise, his head may be entirely shaved, or it may be shaved in four patches, or he may be set to clean elephant sheds or horse stables; in these cases by deciding so as to shame the offender, the law and the king's order, Damathat and Yazathat, will be in accordance, and the country prosperous and happy. Thus Menoo the sage recluse said.

26*th. The twelve kinds of slaves.*

Here follows a line of Pali, which is translated thus:—In all disputes regarding slaves, wise men should decide with the greatest care; they should not have regard to the power or the family of the party, but decide the case of slaves impartially. There are twelve descriptions of slaves, whose cases may be decided on, and in the sacred books, (Weenee,) there are four, in all sixteen, which are these; 1st, a slave given by the king; 2nd, a slave who has become so from being unable to pay compensation for abusive language or assault; 3rd, a slave become so for theft; 4th, a slave taken when a country is destroyed; 5th, the slave of a relation; 6th, a slave born of a female slave; 7th, a slave become so in default of payment of compensation for homicide or other cause; 8th, a slave offered up to a convent or pagoda; 9th, a purchased slave; 10th, a slave given by grand-parents, parents, or friends; 11th, a slave hereditary in the family; 12th, a slave pledged for four or five tickals of silver, or for half his price; these are the twelve kinds of slaves. As regards the four named in the sacred books, they are these; 1st, a slave bought; 2nd, a slave born in slavery, (in the house;) 3rd, a slave taken in

သာမအာသတပ္ပဥပတာ။ ကျေးဇူး ခံချင်၍ အလိုလိုချည်းကပ် နေလာသော သူ။ ၄။ ဤလေးပါးတည်း။

။မင်းပေးကျွန် သုံးပါးဟူသည်ကား။ သားစည်မြေးဆက်ကျွန်ဖြစ်စေ ပေးခြင်း။လက်ဖွဲ့တော်မူ၍ပေးခြင်း။အမှတ်မဲ့ဤသူကိုကျွန်ပြု၍စေလေပေးခြင်း။ ဤသုံးပါးတည်း။

နှုတ်ပြစ်ကြောင့်ဖြစ်သောကျွန်။ နှစ်ပါးတည်း။ နှစ်ပါး ဟူသည်ကား။ အလွန်ခံသူထံ။မလျော်နိုင်၍။ကျွန်ခံရခြင်းတပါး။ အလွန်ခံရသူကိုလျော်ရန် သူတထူးထံ။ကျွန်ခံရခြင်းတပါး။ ဤသို့နှစ်ပါးတည်း။

။လက်ပြစ်ကြောင့်ဖြစ်သောကျွန်။ နှစ်ပါးတည်း။ နှစ်ပါးဟူသည်ကား။ သူဥစ္စာကိုခိုးရာမလျော်နိုင်၍ကျွန်ခံရခြင်းတပါး။ ခိုးသည်ဥစ္စာကိုလျော်ရန်သူတပါးထံကျွန်းခံရခြင်းတပါး။ ဤသို့နှစ်ပါးတည်း။

ပြည်ရွာပျက်ချာဖြစ်သောကျွန်သုံးပါးဟူသည်ကား။ သုံးရတပါး။ လက်ရတပါး။ဖမ်ရတပါး။ ဤသို့သုံးပါးတည်း။

ဆွေမျိုးကျွန်နှစ်ပါးဟူသည်ကား။အဘေးဆိုးခြင်း ကျွန် ဖြစ်သည်တပါး။ အမျိုးတော်၍အဘေးမဆိုးကျွန်ဖြစ်ခြင်းတပါး။ ဤသို့နှစ်ပါးတည်း။

ကျွန်မဝမ်၌ဖြစ်သောကျွန်လေးပါးဟူသည်ကား။ အစည်ကျွန်မတွင်မွေးသောကျွန်တပါး။ ကြေးဝယ် မတွင် မွေး သော ကျွန်တပါး။ ကျွန်ပေါင်တွင်မွေးသောကျွန်တပါး။ အသွင်းခံကျွန်မတွင်မွေးသောကျွန်တပါး။

သေဘေးကြောင့်ဖြစ်သောကျွန်နှစ်ပါးဟူသည်ကား။ မိကျောင်းငန်းသစ်ကျား။ အဆိပ်ရှိသောသတ္တဝါတို့ကြောင့်သေမည်တွင်ကယ်၍ကျွန် ဖြစ်ခြင်းတပါး။ အရှင်စိုးမင်းမဟုတ်ဓားပြသတ်၍သေမည်တွင်ကယ် ၍ ကျွန်ဖြစ်ခြင်းတပါး။ ဤသို့နှစ်ပါးတည်း။

ကျောင်းကျွန်လေးပါးဟူသည်ကား။အရှင်ကောရာဇ်တို့သဉ်လှူရင်းတပါး။ ၎င်အစည်သားသမီးတို့နှင့်အလွတ်သူစုခြားသင့်၍ မွေးမြင်သည်ကျွန်တပါး။ အရှင်မလှူကျောင်း နေရွှေငွေပေး၍ဝယ်ကျွန်တပါး။ အရှင်ကောရာဇ်မလှူကျောင်းဒါယကာသဉ္စါ၍လှူသောကျွန်လည်းတပါး။ ဤသို့လေးပါးတဉ်း။

ဘုရားစေတီပုထိုး။သိမ်။ရေကန်။ ရေထွင်းနှင့်ဆိုင်ရာ။ ကျွန်လေးပါးဟူသည်ကား။ အရှင်ဧကရာဇ်ရေစက်သွန်ချ၍လှူသောမိမ္ဗ။ ယောကျ်ားကျွန်တပါး။ ၎င်အစည်သားသမီးတို့နှင့်အလွတ် သူ စုခြား သင့်၍ ဖြစ်ခြင်းကျွန်တပါး။ အရှင်မလှူ၎င်ဆို ခဲ့ပြီးသည်အထိန်းအသိမ်း အစောင့်တို့ဝယ်ကျွန်တပါး။ အရှင်ဧကရာဇ်မဟုတ်။ဆို ခဲ့ပြီးသောအလှူဒါယကာတို့ဝယ်၍လှူကျွန်တပါး။ ဤသို့လေးပါးတည်း။

battle; 4th, a slave who comes of his own accord to serve; these are the four.

The three kinds of slaves given by the king are these; one, given to be a slave hereditary in the family; one, made a present at some particular ceremony; one, given casually, saying, "make use of this slave."

Of slaves who become so on account of abusive language, there are these two; one who, not being able to pay the compensation to the offended party, becomes a slave to him; one who, not being able to pay the compensation to the offended party, becomes a slave to another, to enable him to do so.

Of slaves who become so on account of some criminal action, there are these two; one who having stolen the property of another, cannot make restitution, and becomes his slave; one who becomes a slave to another party to enable him to do so.

The three kinds of slaves who become so on the destruction of a country are these; thong-ya, let-ya, and pan-ya.

Of slaves who are relatives, there are these; one where the master and slave are descended from a common great grand father; one when they are relations but not descended from the same great-grand-father.

The four kinds of slaves born of a slave mother, are—one who is born of an hereditary slave woman; one born of a slave purchased; one born of a woman being in pledge for a time, (for a debt;) one born of a slave woman who is handed over with her consent in part payment of a debt.

The two kinds of slaves who become so on being saved from impending destruction, are these; one, when a person is about to be killed by an alligator, a venomous snake, a tiger, or any poisonous animal, and being saved by another, becomes his slave; one, when a person is about to be killed by robbers, (not the king,) and is saved by another and becomes his slave.

The four kinds of slaves of a convent are these; one, a slave given by the king; one, the children born of the descendants of such a slave and other people; one, a slave bought by the money of the inhabitants of the convent; one, a slave not given by the monarch, but from religious motives, by the founder of the convent.

The four kinds of slaves connected with images of Gaudama, solid pagodas, pagodas with an arched niche for an image, spots of ground devoted to religious purposes called thien, tanks, and wells, are these; slaves, male and female, devoted to them by the monarch; slaves, the children of the descendants of such slaves when married to free people; slaves, not given by the king, but bought by the people in charge of the above religious edifices; slaves, not given by the king, but bought by the founder or builder of the above religious edifices.

ဘုရားကျောင်းနှင့်ဆိုင်သဥ်ကိုအလွှတ်သူတို့ဝယ်၍ကျွန်ပြုခြင်း။ခြောက်ပါးဟူသည်ကား။ပေါင်သေတပါး။ ၎င်တွင်ပေါင်ရှင်တပါး။ ပေါင်သွင်းတပါး။ မြီကြောင့်ဖြစ်သောကျွန်တပါး။ ကျွန်မရည်ပါ၍မလျှော်ရတတ်ခြင်းကြောင့်ကျွန်ဖြစ်ခြင်းတပါး။ ဘုရားအသဥ်။ကျောင်းအသဥ်တို့မလျှော်ရတတ်၍အလွှန်ခံသူတွင်ကျွန်ဖြစ်ခြင်းတပါး။ ဤသို့ခြောက်ပါးတည်း။

အစုအငန်းအမျိုးရှိသူကိုပိုင်ဘိုးပေး၍ ဝယ်ခြင်းကျွန်ခုနှစ်ပါးဟူသည်ကား။ဝယ်ရင်းကျွန်တပါး။ ၎င်ကျွန်တွင်မွေးသည်သပေါက်တပါး။ ၎င်တွင်မွေးသတက်တပါး။ ၎င်တွင်မွေးသတီတပါး။ ၎င်တွင်မွေးသတွတ်တပါး။ ၎င်တွင်မွေးသတော့တပါး။ ၎င်တွင်မွေးသမျှော့တပါး။ ဤသို့ခုနှစ်ပါးတည်း။

အဖိုးအဖွားမိဘ ပေါက်ဖော် အဆွေခင်ပွန်း ပေးသော ကျွန် ခုနှစ် ပါးဟူသည်ကား။ အစည်ကျွန်မျိုးကိုပေးခြင်းတပါး။ အစုအငန်းရှိကြေးဝယ်ကျွန်ကိုပေးခြင်းတပါး။ သုံးရကိုပေးခြင်းတပါး။ ဖမ်ရကိုပေးခြင်းတပါး။ လက်ရကိုပေးခြင်းတပါး။ မှီခိုနေသောသူကိုကျွန်ပြုစိမ့်မည်ပေးခြင်းတပါး။ မိမိတို့သားသမီးမြေးတို့ကိုကျွန်ပြုလေပေးခြင်းတပါး။ ဤသို့ခုနှစ်ပါးတည်း။

အစုအငန်းမရှိမိလာဖလာကျွန်ခုနှစ်ပါးတူသည်ကား။ ကျွန်စည်ယိုးတပါး။ ၎င်သားကျွန်သပေါက်တပါး။ ၎င်သားမြေလပ်တပါး။ ၎င်သ္ခားအောက်ကလပ်တပါး။ ၎င်သားကျွန်ဆက်တပါး။ ၎င်သားကျွန်ပင်တပါး။ ၎င်သားကျွန်စည်တပါး။ ဤသို့ခုနှစ်ပါးတည်း။

ကျွန်ပေါင်နှစ်ပါးဟူသည်ကား။ ပိုင်ဘိုးတဝက်နှင့်ဝယ်ကျွန်တပါး။ ပေါင်တဝက်မကြဲဝယ်ကျွန်တပါး။ ဤသို့နှစ်ပါးတည်း။

ကျွန်ပိုင်နှစ်ပါး ဟူသည်ကား။ အစုအငန်း ရှိကိုတန်ဘိုး နှင့်ဝယ်ခြင်းတပါး။ ၎င်တန်ဘိုးထက်အလွှန်ပေး၍ဝယ်သောကျွန်တပါး။ ဤသို့နှစ်ပါးတည်း။

မြီကြောင့်ဖြစ်သော ကျွန်လေးပါး ဟူသည်ကား။ မြီရင်းနှင့်ဖြစ်သောကျွန်တပါး။ မြီပွားကြောင့် ဖြစ်သောကျွန်တပါး။ မြီရင်းပွားနှစ်ပါးကြောင့်ဖြစ်သောကျွန်တပါး။ မြီကိုတိုင်ခံသော့ကြောင့် ဖြစ်သောကျွန်တပါး။ ဤသို့လေးပါးတည်း။

အိမ်မှုကြောင့်ဖြစ်သောကျွန်နှစ်ပါးဟူသည်ကား။ ကာမဂုဏ်ရှင်တွင်မလျှော်ရတတ်၍ဖြစ်ခြင်းတပါး။ ကာမဂုဏ်ကြောင့်လျှော်ရန်သူတထူးမှာကျွန်ခံခြင်းတပါး။ ဤသို့နှစ်ပါးတည်း။

The six kinds of slaves connected with the images of Gaudama, pagodas, tanks, or convents, and bought by other free people or slaves, are these; slaves, not redeemable; slaves, redeemable; slaves put in as part payment; slaves, who become so on account of debt; a slave of any of the above descriptions, who, having criminal connection with a (free man's) slaves, and not being able to pay compensation, becomes his slave; those who become the slaves of free people for some abuse or criminal action.

The seven kinds of slaves bought of those who are free and of good family, servants of the king, are these; the slave himself originally bought; the son of the same, tha-bauk, his son tha-det, his son tha-tee, his son tha-twoot, his son tha-tau, his son tha-hmyau.

The seven kinds of slaves given by a grand-father, grand-mother, parents, relations, or friends, are these; an hereditary slave; a slave who is bought, belonging to some class of the king's servants; a thong-ya; a pan-ya; or a let-ya; a person who is living dependent on them; a person living in dependence on any of their children.

The seven kinds of slaves who have no family connection, and who do not belong to any of the classes of the servants of the king, but have come by hereditary descent, are these; an hereditary slave, his child called tha-bauk, his child called myay-lat, his child called ouk-ka-lat, his child called kyoon-tset, his child called kyoon-beng, his child called kyoon-tsee.

The two kinds of slaves who are as pledges are these; one who is bought for one half of his value; one bought for less than half the amount he is pledged for.

The two kinds of slaves who are the property of the master are these; one, a person who belongs to some class of the king's servants, bought at his full value; one who is bought for more than his full value.

The four kinds of slaves who become so for debt, are these; one who has become a slave for an original debt; one who has become a slave for the accumulation of interest; one who has become a slave on account of both; one who has become a slave from being security for a debt.

The two kinds of slaves who have become so on account of sexual intercourse, are these; one who becomes the slave of the object of his passions, having nothing wherewith to pay the compensation; one who becomes a slave to a third person to obtain the means of paying the compensation.

ၦ ဝင်ပြင်ကျွန်မျိုးများပြားဟန်ကိုပြပေအံ့။ ပုဏ္ဏားမျိုးကျွန်ကိုအမျိုးခြားတို့ဝယ်၍စေစားခြင်းတပါး။ ပုဏ္ဏားချင်းချင်းကျွန်တပါး။ ရဟန်းကိုရဟန်းမှတပါးသောအမျိုးတို့ဝယ်သောရဟန်ကျွန်တပါး။ ရဟန်းကိုရဟန်းချင်းချင်းဝယ်ခြင်းတပါး။ သတင်းသိလရှိသူကိုဝယ်၍စေစားခြင်းတပါး။ သုကျွန်မကိုယောကျ်ားလွတ်က။ မယားပြု၍ကိုယ်စားခံရခြင်းတပါး။ သုကျွန်ယောကျ်ားကိုမိမ္ဘလွတ်က။ လင်ပြု၍ကိုယ်စားခံရခြင်းတပါး။ အဖကျွန်ခံရာသားခံခြင်းတပါး။ သားကျွန်ခံရာအဖခံခြင်းတပါး။ အစ်ကိုကျွန်ခံရာညီကျွန်ခံခြင်းတပါး။ ညီကျွန်ခံရာအစ်ကိုခံခြင်းတပါး။ သုကျွန်ကိုဝန်ခံရာ။ မပေးမအပ်နိုင်ခြင်းကြောင့်ကျွန်ဖြစ်ခြင်းတပါး။ သူဥစ္စာကိုစာရင်းနှင့်ဝန်ခံမိ၍ကျွန်ဖြစ်ခြင်းတပါး။

ဂုဏ်ကြောင့်ဖြစ်ခြင်းလေးပါးဟူသည်ကား။ ဆေးခမပေးနိုင်၍ကျွန်ဖြစ်ခြင်းတပါး။ ရွှေနေခကြောင့်ကျွန်ဖြစ်ခြင်းတပါး။ ထမင်းငတ်မွတ်ကျွေးမွေး၍ဖြစ်သောကျွန်တပါး။ ရွာသူကြီးကအိမ်ခင်းပေး၍ကျွန်ဖြစ်ခြင်းတပါး။

အထက်ဆိုခဲ့သည်ကျွန်မျိုးတဆယ်နှစ်ပါး။ ဒိဋ္ဌကတ်ကျွန်လေးပါး။ ပေါင်းတဆယ်ခြောက်ပါးအရင်းဖြစ်သည်။ ထိုတဆယ်ခြောက်ပါးတို့တွင်အစိတ်စိတ်တပြားပြားဖြစ်သောကျွန်မျိုးအဝင်ခုနှစ်ဆယ်ငါးပါး။ ရှစ်ဆယ်သုံးပါးရှိသည်။ ထိုသို့ရှိသောကျွန်မျိုးတို့တွင်။ အခြေအတက်နှစ်ဆသုံးဆစားရာသောကျွန်။ မစားရာသောကျွန်။ အဝေးအနီးစေစားရာသောကျွန်မစေစားရာသောကျွန်။ လွတ်ရာသောကျွန်မလွတ်ရာသောကျွန်။ ပရာ။ ပယ်ရာသောကျွန်အပြားကိုခွဲခြားဆိုပေတုံအံ့။

မင်းပေးကျွန်သုံးပါးတွင်။ သားစဉ်မြေးဆက်ကျွန်ဖြစ်စေပေးသောကျွန်ကိုအမိုးပေးခြင်းငှါမထိုက်မခံသင့်။ ပေးရင်းအရှင်ကေရာဇ်လွတ်စေဟု နှုတ်မှလွတ်စေ။ နားတွင်းရှောင်ထုံးပေါင်တင်ခေါင်းရိတ်ထိမ်းမြားနာဖျားသောအခါအရှင်ကေရာဇ်ပေးဖွဲ့သောကျွန်မှာအမိုးမခံပိုင်သာချေ။ ပေးဖွဲ့ရင်းသခင်တသက်မြဲစေ။ ထိုသခင်မရှိလျှင်လက်ဖွဲ့တော်မူစုအတိုင်းသာ။ လက်ဖွဲ့ကျွန်မည်ရသည်။ ချင်းတို့ကိုချင်းတို့မရွေးပိုင်။ ခံသူလည်းမခံပိုင်။ အမှတ်မဲ့ဉ်သူကိုကျွန်ပြု၍စေလေ။ ပေးတော်မူသောကျွန်မှာပျော်ပါးသမျှစေစားရ၏။ မပျော်ထွက်သွား၍ထင်ရှားမိဘအမျိုးထံရောက်လျှင်လွတ်စေ။ တဦး

Besides these, there are other kinds of slaves which I will note;—a Bramin slave bought and employed by one of another caste; a Bramin, the slave of another Bramin; a Rahan slave bought by a person not a Rahan; a Rahan, the slave of another Rahan; a person who is living in the performance of the moral duties, who is bought and employed as a slave; a person who becomes a substitute for a female slave, who has been given by her master in marriage to a free man; a person who becomes a substitute for a slave man given in marriage to a free woman; a son who becomes a slave as a substitute for his father; a father who becomes a slave as a substitute for his son; a younger brother for the elder; an elder brother for the younger; a person who, having become security for the slave of another and not being able to produce him, becomes a slave in his place; a person who becomes a slave in consequence of having stood security for a debt.

The four kinds of slaves who become so on account of benefits conferred, are these; one who becomes a slave on account of being unable to pay the physician (who attended him;) one who becomes a slave for the pay of his advocate; one who becomes a slave on account of having been supported (by the master) in a time of scarcity; one who becomes a slave in consequence of the thoogyee of a village, having given him a place to build his house and live on.

The twelve kinds of slaves mentioned above, and the four of the Bidagat, (Vedas,) in all sixteen, comprise all the classes into which slaves were originally divided; from these there are subdivisions to the number of seventy-five, making a total of ninety-one. And amongst these slaves, those from whom the amount of their redemption may be two or three times taken, and those from whom it may not; those who may not be sent to, or employed at a distance, great or small; those who may; those who may be released, and those who may not; all these I will now lay down separately :—

Amongst the three kinds of slaves given by the king, when a person is given as an hereditary slave, whose children and grand-children will be born slaves, it is not proper to offer to redeem him or to take the price of his redemption. When the king, who originally gave him, shall order his release, then let him be released. As regards slaves given by the king at the time of boring the ears, binding up the hair, putting on the goung-boung, shaving the head, betrothment, or sickness, their price shall not be taken; let them continue slaves during the life of the king who presented them; and at his death, they shall only be called "the royal gift;" they have no right to pay their price and redeem themselves, nor has the person to whom they were given a right to receive it. As regards a slave casually given by the king, to be made use of temporarily, he may be employed as long as he pleases to remain; but if he is dissatisfied and goes away, and publicly returns to his parents, let him be free. If

ကလည်းအဖိုးပေးလိုသည်၊တဦးကလည်းခံမည်ရှိလျှင်ဆင်ခြင်၍ခံစေ။ဆင်ခြင်၍ခံစေဟူသည်ကား။ တန်ဘိုးမရောက်ထက်ဝက်ဖြစ်စေ လျော့ ညန့်၍ခံသမျှသည်ဆင်ခြင်ဟူ၏။ တံသည်အတိုင်းမခံရ။အဘယ်ကြောင့်နည်းဟူမူကား။ ကျွန်ကိုပြည် ရှင်မင်းအမျက်ကြောင့်တကြောင်းယူမည်သူကိုသဒ္ဒါ ၍ တကြောင်းမှတ်မွဲ့ပေးတော်မူခြင်းဖြစ်သည်။ပေါင်သေ။ပေါင်ရှင်ပေါင်သွင်သို့ဝင်သည်ကျွန်မဟုတ်ချေ။မစေစားတန်ခေါင်းဆေးပြုပ်လွှဲထိမ်းမြား မင်္ဂလာရေသွန်ခေါးထမ်။ အဆောင်အရွက်အကိုင်မထည့်ရ။သူသေကုတ်ဟီထမင်းချက်မစေရ။စေချေသော်စေသူဝန်မလွတ်မင်းဒါဏ်သင့်စေ။ ။ထိုမှတပါး။နီးဝေးကြည်ရေပင်နိမ့်ပင်မြင့်စေရာ၏။ အပြစ်မရှိစစ်မြေ၌ သခင်ပြုသူနှင့် အတူလိုက် ၍ နောက်ပါ ခေါ်သော်လည်းအပြစ်မရှိ။ အရှင်မလိုက်ဘဲချင့်ကိုအရှင် ကိုယ်စား လိုက်စေ သော်လည်း အပြစ် မရှိ။ ကိုယ်စား မဟုတ် ကိုယ်ခစားလိုက်လျှင် ရသော ဘဏ္ဍာ ကို ဆယ် စုတစုပေး ၍ လွတ် စေ။ ကုန်စယ်ရောင်းဝယ် ၍ အလျောက်ဥစ္စာရလျှင်သခင်ကိုဆယ် စုတစုပေး၍ကျွန်အရာကလွတ်စေ။

သားစည်မြေးဆက်ပေးသောကျွန်မှာအမှုမျိုးကိုစေပိုင်စေ။ သန္တကအဝင်ဟူ၏။

လက်ဖွဲ့ကျွန်မှာအမှုမျိုးတွင်မသင့်သမျှမစေပိုင်ချေ။ ထိုလက်ဖွဲ့ခံသူတွင်သာစစ်ခေါင်းမည် ဝေး သွား ရာရပ် ရွာတွင် နေ ရာ လက် ဖွဲ့ကျွန် ဟူ သောအရာနှင့်သာစေပိုင်သည်။ထိုတွင်ပစ္စည်း ဥစ္စာရောင်းဝယ်ရလည်းမယူသာချေ။သေသော်မူကား။ အရှင်မှာတိုင်ကြား၍အမွေခံသူမရှိလျှင် သိမ်းယူပိုင်စေ။လက်ဖွဲ့ကျွန်ကိုအဖိုးခံချေသော်။ ခံသူဆယ်တက်။ ပေးသူလည်း ဝန်မလွတ်အရှင်သို့ရောက်ကြစေ။ ဤကားမင်းပေးကျွန်သုံးပါးပြီး၏။

ရှုတ်ပြစ်ကြောင့်ဖြစ်သောကျွန်နှစ်ပါးဟူသည်ကား။ ချင့်သည်ကျူးလွန်စွာစုန်းသူပြုသူသတ် ကျောက် ကမ် ပါး က ချ သည်။ ရှုတ်လွန်ကြီး ရှုတ်လွန်ငယ်တစုံတခုသူ တထူး သို့ အကျူး အလွန်ဆို ရာမလျော် နိုင် ၍ အဆိုခံရသူတွင်ကျွန်ခံလေ၏။ထိုကျွန်တသက်စေရာ၏။ သားမြေး ကြေးကျွန်သ ပေါက်မကောက်ရ။ထိုကျွန်ခံသူသေလျှင်လွတ်စေ။ ထိုကျွန်ခံသူမသေ အရှင် ပြုသူအလွန်။ခံသူသေလျှင်ကျွန်ခံသူထင်ရှားရှိသည်ဟု။မယားလင်သားသမီး ဆက်ခံမစေရလွတ်စေ။ မင်းလဲစိုးပေါက်ရှိ။ ထီးကျိုးစည်ပေါက်ရှိလျှင် လည်းကျွန်အရာကလွတ်စေ။ ၎င်ကျွန်တို့မှာခေါင်းဆေးပြုပ်လွှဲရေသွန်းကုတ်ဟီထမင်း

one party wishes to pay the value of the slave, and the other is about to receive it; let the case be considered, and let him receive, not the full price, but the half, or such other reduced price as is proper; full price shall not be taken. Why is this?—because it is merely a casual gift given by the king, during either a fit of anger against the slave or affection towards the receiver. He is not a slave who comes under the head of irredeemable, redeemable, or temporarily pledged; he shall not be employed in washing the head, or in ceremonies for the propitiation of the stars; in pouring the water, or holding the sword, (at the time of washing the head, or propitiating the stars;) nor in the ceremonies attending betrothment, shall he be employed to carry any of the utensils; he shall not be employed in cooking rice for the dead; if he be so employed the person employing him shall be liable to criminal punishment. With the exception of these, he may be employed by land or water, at home or at a distance, without any fault; and if his master call him to the field of battle and take him with him, there shall be no fault; or if the master does not go but sends him as a substitute, there is no fault; if he goes as a follower, not as substitute, let one-tenth of the property taken be given to him, and let him be free. If he acquires property on a trading expedition on his own account, let him give one-tenth to his master, and be released from slavery.

A slave who has been given, and whose descendants are to continue in slavery, may be employed in any service; he is included under the head of irredeemable slaves.

A slave given at any of the above mentioned ceremonies, shall not be employed in any degrading service; he shall only be employed with the person to whom he was given, in military expeditions to a distance, or in the district he lives in; a slave so presented shall only be employed in this way; the master shall have no right to take goods acquired by him in trade. At his death, if he has no heirs, let the master take possession of his property, after having made a report to the king. If the master takes ransom for a slave so given, he shall forfeit ten times the amount, and the person who gave it shall not be held free of fault; let them be brought before the king. This is what is said of the three kinds of slaves given by the king.

The two kinds of slaves who have become so for abusive language are these; when a person has accused another of being a witch, or a murderer, of having pushed another over a precipice, let the abuse have been much or little, if he cannot pay the compensation, he shall become a slave to the person accused or abused. Such a slave may be caused to work for life, but his descendants shall not be slaves; at his death they shall be released. If the master shall die before the slave, the wife, husband, or children shall not cause him to serve them; let him be free. In case of an usurper seizing the throne, he shall be free. He shall not be employed to pour water on the head

အချက်အရွက်။ထိန်းစများအဆောင်အရောင်အရွက်အထန်း မထင်ပိုင်ချေ။
တစုံတခုထည့်ချေလျှင် ကျွန်အရာကလွတ်စေ။ မပျော်ထွက်သွားပြေးသော်
ကျွန်ခံ၍မင်းမလဲ။ထိးမကျိုး။စည်မပေါက်ဖြစ်က။နှုတ်လွန်ကြောင့်သူတပါး
ထံလည်းလျှော်ရသည်။ကျွန်မှာထိးကျိုးစည်ပေါက်ရှိပါပြီ။ လွတ်ရကောင်း
သည်မဆိုသာ။ ကျွန်ပိုင်အဝင်ဖြစ်ချေသည့်စေပိုင်စေ။ ကိုယ်ဘိုးပေးမှလွတ်
စေ။သားမြေးမွေးလည်းကြေးသပေါက်ကောက်စေ။ကိုယ်ဘိုးတဝက်နှင့်နေ
သူမှာ။ကျွန်ပေါင်အဝင်ဖြစ်သည်။သားသို့ကိုကျွန်မပြုသာချေ။ထမင်းဘိုးတ
နှစ်တကျပ်။ ဆယ်နှစ်တိုင်အောင်စား၍လွတ်စေ။ အမှတ်တမဲ့သားစည်မြေး
ဆက်ကျွန်ပါကိုခံမိသော်လည်း။ ပေါင်ရင်းသူသေသော်။ရွေးသော်လွတ်စေ။
အရှည်စေရသည်အရွေးမခံမဆိုသာ။

လက်ပြစ်ကြောင့်ဖြစ်သောကျွန်နှစ်ပါးလည်း။နှုတ်ပြစ်ကဲ့သို့တည်ဟုမနူ
မည်သောရှင်ရသေ့ဆိုတော်မူ၏။

သုဥစ္စာဘဏ္ဍာကိုခိုး၍ ကျွန်ဖြစ်ခြင်းနှစ်ပါးလည်း နှုတ်လွန်ကျွန်ကဲ့သို့
တည်း။

မင်းကြီး။ ပြည်ရွာပျက်သောကျွန်ကား။ သုံးပါးတည်း။ သုံးပါးဟူသော်
ကား။သုံးရ။ဘမ်ရ။လက်ရ။သုံးပါးကိုဆိုသတည်း။

သုံးရဟူသောကျွန်ကား ပုံကန်သောင်းကြမ်သောအရပ်။မြို့ရွာပြည်ကအာ
လျှောက်ဝင်လာသည့်သူကိုသုံး ရဟူသတည်း။ ဤသုံးရကိုပျော်ပါးသမျှစေ
စားရ၏။မပျော်ထွက်သွား၍နေရင်းသို့ဖြစ်စေ။ စုထားရာအချင်းချင်းထံဝင်
ရောက်သွားနေထိုင်လျှင် ကျွန်အရာကကင်းလွတ်စေ။ တွေ့သော်လည်းမယူ
ပိုင်ချေ။ အဆွေအမျိုးအဖိုးအဖွားတို့က အဖိုးပေးလိုပါသည်ဆိုလျှင် ပေးသ
မျှခံစေ။ ရကောင်းသည်မတောင်းသာ။ ချင့်အိမ်တွင်ရှိခိုက်။ဆွေမျိုးညာတိ
တို့ကပေးရွေးလျှင်မူကား။ တန်ဘိုးခံ၍လွတ်စေ။ အရွေးမခံမနေသာချေ။အ
ရွေးမခံနေ၍ ထိုကျွန်ပြေးသွားရာ။ ဆွေညာတိ အဖိုးပေး သူ ထံရောက်လျှင်
ကျွန်ဖြစ်သည်မဆိုသာချေ။ အဖိုးပေးကောင်းသဉ် လည်းမတောင်းသာချေ။
လွတ်စေ။အဘယ်ကြောင့်နည်းဟူမူကား။သုံးရတို့ကိုရောင်း၍ဝယ်ရာသက်
ရှိသုံးရမှန်သမျှ ကိုအဖိုးပေးဝယ်စည်တွင် ဖြစ်သော်လည်း အရှင်ပေါ်လျှင်မ

at the time of propitiating the stars, nor to cook or carry rice for the dead, nor to carry or move any of the utensils of the ceremony of betrothment; if he be employed in any of these ways, he shall be freed from slavery. If, not finding his situation to his liking, he shall run away, he may be reclaimed, if an usurper has not seized the throne; his running away shall not free him.

If a person shall become a slave to a third person to procure money to enable him to pay the damages in a case of abusive language, he shall not be released on a plea of an usurper having seized the throne, he comes under the head of slaves who are the absolute property of their owners; the master has a right to employ him; let him only be released on paying the amount of his debt; if he has any descendants they may be taken as born slaves; a person who is in bondage for half the price of his body, comes under the head of a pledged slave; his children shall not be used as slaves; one tickal may be charged yearly for their food till ten years of age, when they must be released. If, without thought or protest, his children or grandchildren have allowed themselves to be employed as slaves, when the person originally pledged shall die or be redeemed, they shall be released; the master shall have no right to say he will not receive the amount of his redemption, on the plea of the length of time he has served.

The law for those two kinds of slaves who have become so for offences of the hand,* is the same as that for those who have become slaves for offences of the tongue.†

The two kinds of slaves who have become so for theft, come under the same law as those who have become so for abusive language.

Oh king! there are three kinds of slaves taken when a country is ravaged; they are these; Thong-ya, Let-ya, and Pan-ya.

A Thong-ya is a person who voluntarily comes from a district in rebellion; he may be employed as long as he finds his situation agreeable; but if he is not happy in his situation, and returns to his former place of residence, or to where his friends, who have also come in, are living together in a place given to them, let him be released from slavery; even if he is dicovered there, he shall not be reclaimed. If his relations or parents wish to pay his price, let whatever they choose to give be taken, nothing shall be demanded of them. If they wish to redeem him during the time that he is in the master's house, let his proper price be taken, and let him be released: the master shall not refuse to allow his redemption; if he does so, and the slave runs off to his relations who offered the price, he shall have no right to claim him as his slave, nor to demand his price; let him be free. Why is this?—because, if when selling a man or animal classed as a Thong-ya, the original owner shall make his appearance, even whilst the price is being paid down, the sale is annulled. If

* Assault, theft, &c.

† Abuse, false accusation, &c.

ရောင်းပိုင်။ ဝယ်သူလည်းမဝယ်ပိုင်။ ချိမ်တွက်ပေးပြီးမှ ငါးရာတွင်းတခေါ် ကွာသောအရပ် ကြိုးပြတ်လွတ်ရောက်မှ။ အရှင်ပေါ်သည်ဟုမစွဲသာ။ ဝယ်သူ၏တာသာဖြစ်စေ။ ထိုဝယ်သူမှာသာအရှင်သူဟောင်းမိဘပေါက်ဖော်တို့ ကပေးရွေးစေ။ ဤကားသုံးရမှန်းသိလျက်ရောင်းဝယ်ကြသောစကားတည်း။

ဖမ်ရဟူသည်ကား။ စစ်မြေအရပ်မှာတောအုံတောင်ကမ်နေရာဒင်။ ပြေးရာဒင်။ ဖမ်၍ရသည်ကိုဖမ်ရဟူသတည်း။ ဤကျွန်တို့မှာလည်းသုံးရနည်းတူ ဖြစ်စေ။

ထိုသုံးရဖမ်ရလူတို့ကို အစည်မကွာ အဆက်ဆက်ကျွန်ခံ၍၊ ရှိကလည်း ရှေးသုံးရဖမ်ရဖြစ်သည်ဟု မဆိုသာ။ ကျွန်စည်သန္တကသို့ဝင်စေ။ အဘယ် ကြောင့် နည်းဟူမူကား။ အရှင်စိုးမင်းကစုထားချရာ။ ချင်းတို့ ဌာနသို့မပြန် ခြင်း။တို့ဘိုးဘွားမိဘချင့်တို့ကိုဖြူအောင်မပြုချေသောကြောင့်တည်း။

လက်ရဟူသည်ကား။စစ်မြေအရပ်တဖက်တလမ်တိုက်ရာတွင်။ ခါးဦး လှံဦး၌လည်းကောင်း။ သူတပါးသတ်၍ဖြစ်မည်ပြုရာလု၍၊ရသောသူတို့ကို လက်ရဟူသတည်း။ ထိုသူတို့မှာအသက်ဖိုးပေးမှလွတ်စေ။ ဆွေမျိုးညာတိ ဘောင်။ အရှင်ကစုထားရာပြေး ၁ွာ းရောက်နေသော် လည်း အသက်ဖိုးမ လွတ်သာ။ ချင့်ကိုစေ၍သားစည်မြေးဘွားစည်ဆက်ရှိလျှင်လည်းကျွန်စည် ဝင်စေ။ ထိုကျွန်စည်ဝင်ရာ၌စုငန်းရင်းရှိသော်။ ချင့်တို့မိဘရင်းသူသေ၍ ပေါက်ဖွားသူရှိလျှင်ရွေးပါလိုသည်ဆိုက။တံဘိုးတွင်နှစ်ခြေကိုရွေးစေ။

သုံး ရဖမ်ရတို့၌ သားမြေး မြစ် စည်ဆက်ရှိ မှန်က။ လက်ရနှင့် နည်းတူ ဖြစ်စေ။

ဤသို့ဆိုသောသုံးရပ်တို့မှာချင့်တို့ကိုယ်ရင်းရှိစည် ရွှေထီးရွှေနန်း ဆက်စံ သော်။ထီးကျိုးစည်ပေါက်။ မင်းလဲစိုးပေါက်ရှိသော်ကျွန်အရာကကင်းလွတ် စေ။ချင့်တို့ကိုယ်မရှိ။ သားမြေး မြစ်အဆက်ရှည်မှ ဖြစ်လျှင် မလွတ်သာ။ အ ခြေအတက်ပေးမှလွတ်စေ။

အဆွေအမျိုးချင်းချင်းကျွန်ဖြစ်သည်နှစ်ပါးတည်း။ နှစ်ပါးဟူသည်ကား။ ဘေးဆိုးဖြစ်သောကျွန်မှာကိုယ် ကို အ လယ် ထား ၍ အဖ အဖိုး အဖေး။ အ ထက်သုံးဆက်။သားမြေးမြစ်။အောက်သုံးဆက်။ ကိုယ်နှင့်သော်ခုနှစ်ဆက် ဤလူမျိုးချင်းချင်းတွင်။မကုံ၍ကျွန်ခံနေရလျှင်မယားမျိုးကအနွယ်။လင်မျိုး ကအနွယ်နှစ်ရပ်ရှိသည်။ ထိုသူတို့ရှိစည်။ကိုယ်နေရင်းအဖိုးကိုပေးလျှင်ယူ စေ။နေရင်းသူမရှိ။သခင်လင်မယားနှစ်ပါးလည်းမရှိ။နေရင်းသူသားမြေးတို့

the price has been paid, and they be transferred to the buyer, and removed to a place about a mile distant, should the owner come up, he shall have no claim on the seller; the affair rests with the buyer, and let the former owner, parents or relations, settle the price of redemption with him; this is when the parties know that the person or thing sold was a Thong-ya.

A Pan-ya is one taken in an invaded district, either hiding in the recesses of the hills, or in the jungle, or in the act of running away. These slaves shall be treated in the same way as Thong-ya slaves.

If these Thong-ya and Pan-ya slaves have been employed for generations as slaves, they shall not plead that they were originally Thong-ya or Pan-ya; let them come under the head of hereditary irredeemable slaves. Why is this?—because they did not go to the place appointed for their residence by the king, nor return to their own district, nor did their relatives take steps to redeem them.

A Let-ya is a person taken in the heat of an engagement, who was at the sword's point and saved, or who was saved from being put to death by another, and rescued from him. Such a person on paying the price of his life shall be released; even if he runs off to where the king has appointed a place for the residence together of his relations, he shall not be released from the obligation to pay the price of his life. And if he be employed (as a slave) till he has sons and grand-sons, let him come under the head of hereditary slaves. If he belonged originally to any of the classes of the kings' servants, and the person who originally took him be dead, and has left descendants, and a proposal be made to redeem him, let him be redeemed for double the sum he may be declared worth.

If Thong-ya and Pan-ya slaves have sons and grand-sons, let the law as regards them be the same as that laid down for Let-ya.

If, during the life-time of a Thong-ya, Pan-ya, or Let-ya originally taken, a new king shall come to the throne, or it shall be seized by an usurper, let them be released from slavery. If they have died, and only their sons, grand-sons, or descendants remain, they shall not be free, except on payment of their proper price and something in addition.

Among relations, there are two kinds of slaves; from one's self upward are the father, grand-father, and great-grand-father, three generations; and from one's self downwards are the son, grand-son, and great-grand-son, three generations, in all seven generations, including one's self. Among these relations who, through want, may become slaves to one another, are included relations on the side both of the husband and the wife. If, during the life of the original parties, the slave shall pay the original sum borrowed, let it be taken, but if the person who originally became a slave be dead, and the master and mistress be also both dead, and only their descendants survive, the price shall not be demanded; they shall not be consider-

သာ၍ အဖိုးကိုခံသော်မခံသာလွတ်စေ။ ကြေးသပေါက်လည်းမကောက်သာလွတ်စေ။ချင့်တို့ကိုယ်ရှိစည်အမှုကြီးငယ်ကိုစေစားပိုင်၏။ မစေစားပိုင်သောအရာ မရှိ။ အဘယ်ကြောင့် နည်းဟူမူကား။ အဖေး ဆိုးဖြစ်ခြင်းကြောင့်တည်း။

အဖေးမဆိုးကျွန်မှာကိုယ်ကိုအလယ်ထား၍အဖအဖိုးအဖေး အမိအဖဲအဖော်အဖွေ။ဤကားအထက်ခုနှစ်ဆက်တည်း။ အောက်ခုနှစ်ဆက်ဟူသော်ကား။သား။မြေး။မြစ်။ တီ။ မျောက်။ ကြွတ်။ ဆတ်။ ဤသည်လျှင်အောက်ခုနှစ်ဆက်တည်း။ ဤခုနှစ်ဆက်တို့မှာပိုင်ဘိုးရောက်လျှင်ပိုင်စေ။ကြေးသပေါက်ကောက်စားစေ။ ဤပိနည်းတော်ထွက် အမျိုး ဖြစ်သည်။ တိုးပွားမစားစေနှင့်။ရဟန်းတို့တွင်တောင်းပိုင်။ ဆေးကုပိုင်ကြောင်းကို မှာသည်။ ဓမ္မသတ်မှာမင်းလောင်းမင်းကောင်း တို့ထုံး အဖေး ဆိုးတွင်သာ ကင်းလွတ်စေ မှာသည်။ ။တိုးပွား မစားစေနှင့်ဟူသည်လည်းခုနှစ်ဆက်အောက်အထက်နှစ်လီတို့မှာတန်ဘိုးသာကြေး သ ပေါက် ကောက် စားစေ။ အခြေ အတက်မစားသာ။ အဘယ်ကြောင့်နည်း ဟူမူကား။ပိနည်းတော်က။အထက်အောက်ခုနှစ်ဆက်နှစ်လီကိုအမျိုးရင်းဆိုချေသော့ကြောင့်တည်း။

ကျွန်မဝမ်ဥဖြစ်သောကျွန်လေးပါးတည်း။လေးပါးဟူသည်ကား။အစည်သန္တကကျွန်မတွင်မွေးသောကျွန်။ အစုအငန်းမျိုးဆွေမရှိ။ ကြေးဝယ်အပိုင်ကျွန်မတွင်မွေးသောကျွန်။ဍင်အမျိုးရှိကျွန်ပေါင်မတွင်မွေးသောကျွန်။ငိုအမျိုးရှိ။အသွင်းခံသောကျွန်မတွင်မွေးသောကျွန်။ဤသို့လေးပါးပြားရာတွင်။သန္တကစုငန်းမရှိ။ကျွန်မတွင်အဖမထင်မွေးသောသားကိုရွေးခြင်းဌါမထိုက်။ အရှင်အဖိုးယူမှပေးရာသတည်း။ ။သို့ကားဆိုတုံ၏။အလွတ်သူယောကျ်ားနှင့်သင့်နေသည်ကိုသခင်အလိုတူအသိအမြင်ဖြစ်၍မွေးသောသားယောကျ်ား။တယောက်မျှသာဖြစ်လျှင်တန်ဘိုးပြတ်၍။ အလွတ်သူအဖ ခုနှစ်စုအဖိုးကိုချ၍။သခင်တစုစားစေ။ သို့းမိမ္မတယောက်တည်းဖြစ်က။တန်ဘိုးပြတ်၍သခင်နှစ်စု။အဖတစုထား၍ရွေးစေ။သားယောကျ်ား။သို့းမိမ္မ။မမွေးလျှင်သို့းကိုမ

ed as slaves born of a purchased slave; let them be free. As long as the original slave is alive, he may be employed in any kind of work; there is no case in which the master has not the right to employ him. Why is this?—because they are children descended of the same great-grand-sather.

As regards slaves not descended of the same great grand-father, putting one's self in the middle, there are seven generations in the ascending scale, viz; the father, grand-father, great grand-father, great great grand-father, great great great grand-father, great great great great grand-father, and great great great great great grand-father; and seven in the descending scale, viz: the son, grand-son, great grand-son, great great grand-son, great great great grand-son, great great great great grand-son, and great great great great great grand-son. If these seven have been bought for their full price, let the right to them be perfect, and let their descendants be taken as slaves born of a bought parent. These tables of relationship are taken from the sacred books (the Weenee-dau.) No advance beyond their proper value shall be allowed to be taken for them. Among Rahans they may ask for what they require, or administer medicines.* In the Damathat, according to the custom of good kings, and kings embryo Boodahs, it is laid down, that when they are descendants from a common great-grand-father only are they held free. As regards the saying that interest or increase shall not be demanded in the seven generations both ascending and descending, even when a child is taken as a born slave, (of a bought parent,) let the proper value only be taken; there shall be no addition made to it. Why is this?—because in the Weenee, seven generations in the ascending and seven in the descending, are called near relations.

There are four kinds of slaves born of a slave mother, they are these: children born of an hereditary, irredeemable slave; children born of a mother bought outright, who has no relations, and who does not belong to any class of the king's servants; children born of a mother who is a pledged slave and has relations; and children born of a slave mother who has relations, and was paid as part of the price for something bought. Of these four, children born of an hereditary irredeemable slave, whose fathers are not certain, are not entitled to be redeemed unless the master chooses; but though it is thus said, if she cohabit with a free man with the knowledge and consent of the master, and have only one male child, let his price be fixed, and let two-thirds belong to the father, and one-third to the master. If there be one female child, let her price be fixed, and let two-thirds belong to the master, and one to the father; let him redeem her at this rate. If both a male and female child are born, the female shall

* So in original. Rahans appear not to be wholely cut off from their worldly relations; in the Weenee, they are allowed to administer medicine, and proper requests for what they want, to these relations; this appears to be what is alluded to here, though the relation of the two subjects is not very clear.

ရွေးသာချေ။ သားယောက်ျားတန်ဘိုးပြတ် ၍ သုံးစုနှစ်စုလွတ်စေ။ တစုကို
ရွေးစေ။ဤသို့ရွေးစေဟူရာ၌။ အခြေတွင်မဆိုတန်ဘိုးနှင့်ခြေကိုဆိုသတည်း။
ဤကား အလွတ်သူယောက်ျားကို သခင်အသိထိမ်းမြားသကဲ့သို့နေစေခြင်း
ဖြစ်သောကြောင့်တည်း။ ထိုကျွန်မတွင် သားသွီးအများ မွေးစေကာမူ။ ကျွန်
မိမ္ဘသခင်မသိအိုးအိပ်ရာမရှည်ရဖြစ်က။ အဖအလွတ်သူပေးရွေး ရကောင်း
သည်မဆိုသာ။ အဘယ်ကြောင့်နည်း ဟူမူကား။ ကျွန်စည်တို့တွင်သန္တေရှိ
လျှင်အသက်စောင့်စေ။သေလျှင်ကိုယ်ဘိုးပေးစေ။မသေတော်လလိုလျှင်သား
သွီးကိုရွေးစေ။ ရှိသည်နှင့်အညီသန္တေပေးစည်မွေးဖွားစည်။ ထိုကျွန်မ၏အ
သက်ကိုမစောင့်။ ဟင်းခါးရေလုံမပေးချေသောကြောင့်တည်း။ ချင့်သားသွီး
မှန်တုံ၏။ အထိန်းအသိမ်းအမှတ်အသားမပြုချေသောကြောင့်မရွေးရရာသ
တည်း။ သခင်မပေးစားသော်လည်းဟင်းခါးရေလုံပေးခြင်း။ စောင့်နေကျွေး
မွေးခြင်းဖြစ်လျှင်။ လင်မည်၍အခြေသင့်ရာကိုပေးရွေးစေ။ တနည်းထိုကျွန်
မကိုအလွတ်သူဝင်ထွက် ၍ သန္တေရှိ မည်ကျွန်မကစွဲမည်။ မနေညင်းလျှင်အ
များနည်း။သုံးဆယ်လေး ဘယ်။ တပိဿာ လျော်ရသည့် လူမျိုးမဟုတ်ချေ။
ယောက်ျားအလွတ်သူမနေ လိုက။ ထင်းဘိုးမီးဘိုး ငွေသုံးကျပ် နှင့် သာအ
လျော်ပြီးရချေသတည်း။

အစုအငန်းအမျိုးရှိကို ပိုင်ဘိုးပေး ၍ ဝယ်သည်သူကိုမရွေးပြီ ဆိုလည်း
အရင်းတိုင်းအရွေးခံစေ။ ရွေးတွင်ပိတ်ဆိုသည်ကိုကားဟု မဆိုသာချေ။ အ
စည်သတ္တကသားမြေးကိုမရွေးပြီ။ရွေးတွင်ပိတ်ဆိုကမရွေးသာ။

၎င်သတ္တကပင်ဖြစ်သော်လည်းရှောင်းရင်းကရွေးပါမည်ဆိုသည်ကိုဝယ်
သူကရွေးပါတော့ဆိုလျှင်ရွေးစေ။ ဤကားသတ္တကကျွန်စည်။ စုငန်းမရှိဖြစ်မှ
တည်း။အစုအငန်းအမျိုးရှိကျွန်ပိုင်မတွင်သန္တေရှိ၍မွေးသောသားသွီးတို့ကို
ချင့်မိဘလင်တို့ပေးရွေးလိုမူ။အမိမှာအရင်းတိုင်း။မွေးသွီးမှာနှစ်လရှိရာတန်
ဘိုးတွင်။ နှစ်ခြေပြတ် ၍ ပေးရွေးစေ။ ငကျွန်ဖြစ်သည် လင်မထင်သန္တေမွေး
ဖွားသည်မဆိုသာချေ။လင်မရှိ။လင်ရှိဖြစ်စေ။ရွေးလျှင်နည်းတူ။ခံစေရွေးစေ။

not be redeemable; let the price of the male be fixed, and striking off two-thirds of it, let him be redeemed for the remaining third. In thus laying down how they are to be redeemed, the proper original price is not meant, but twice that amount, and this is because the mother lived with a free man with the knowledge of the master, as if they had been regularly betrothed. If such a slave woman (irredeemable hereditary slave) shall bear many children, and the master do not know of her connection with the father, and they do not regularly cohabit, the free father shall have no right to claim the privilege of redeeming the children. Why is this?—because, if an irredeemable hereditary slave is got with child, let (its father) watch over her life, and if she die, let him pay the price of her body; if she does not die, let him redeem the children. But if he does not minister to her whilst with child, nor watch over her (at the birth,) or give her appropriate drink, (he shall not redeem them.) The reason is this; though the children be his (the father's,) because he did not take any care of, or interest in them, he is not allowed to redeem them. Though the master may not give the woman in marriage, if he (the father) takes care of her, and administers to her the above drink, let him be considered as her husband, and let him be allowed to redeem the children at a reasonable price. In another case, if a free man has had connection with such a slave, and she be got with child, if she sue him to become her husband, and he refuse to be so, she is not a person who has, like others, a right to compensation in thirty, or forty, or one hundred tickals. If the free man do not wish to take her to wife, the only compensation is three tickals of silver for her fire-wood.

A person who has relations, and belongs to any class of the king's servants, who has been bought outright, though it may have been engaged that he should not be redeemed, yet let him be redeemable at the price originally paid; it shall not be said that he is irredeemable. But if the descendant of an hereditary irredeemable slave is sold with a promise that he will not be redeemed, he becomes irredeemable; but if at the time of selling this irredeemable slave, (the owner) shall say he will at some future time redeem him, and the buyer shall agree to it, let him be redeemed. This is when the slave is irredeemable, and does not belong to any class of the king's servants.

If a female slave bought outright who has relations, and belongs to some class of the king's servants, shall have children, and the husband of the woman, or her parents, wish to redeem them, having decided what they are worth according to the original sum paid for the mother, and the age of the children, let double that amount be paid; the master shall not plead "she is my slave, and the man was not publicly known to be her husband." Whether she has a husband or not, if they wish to redeem them, the law is the same.

အစုအငန်းရှိသောကျွန်သားသမီးဖြစ်စေ။ အစည်ကျွန်သားသမီးဖြစ်စေ။မကုန်၍တန်ဘိုးတဝက်နှင့် ပေါင်ရှင်ထားချ။သားစည်မြေးဘွား အများရှိသော်လည်းပေါင်ရင်းတဝက်ဖိုးကိုရွေးလျှင် မွေးသမျှသားတို့ဝယ်သူလက်ကလွတ်စေ။ထိုသို့ကားဆိုတုံ၏။ ကျွန်ပေါင်တို့တွင်မွေးသောသားသမီးတို့ကိုတနှစ်တကျပ်တယောက်ကိုထမင်းဖိုးတွက်၍ပေးစေ။ ။ဆယ်နှစ်က။လွန်၍ငါးနှစ်ရောက်။တဆယ်ငါးနှစ်တိုင်လျှင်အလုံးစုံထမင်းဘိုးမပေးသာလွတ်စေ။ဆယ်နှစ်အလွန်တနှစ်။နှစ်နှစ်။သုံးနှစ်။လေးနှစ်ရှိလျှင်အကျပ်တဆယ်ရရန်တွင်တွက်၍ချပေးစေ။ အနှစ်နှစ်ဆယ်ပြည့်မှမဟူသာ။ ဤကားကျွဲပေါင်းတခြီ။ကျွန်ပေါင်းတရွာဟူသတည်း။

အသွင်းခံသောကျွန်ဟူသည်ကား။ ၎င်အမျိုးရှိကျွန်တို့ကို။ မကုန်၍မိဘလင်တို့ဖြစ်စေ။ သူတထူးမြီကိုယူ၍မြီရှင်မှာအရင်းကအပွားမတက်မှီကျွန်ပြု၍ စေပါသွင်းခြင်းအရင်းအပွားနှစ်စုမြီနှင့် ကျွန်ပြု၍ စေပါသွင်းခြင်းနှစ်ရပ်တွင်အပွားရောက်မှသွင်းသော်။ရင်းပွားပေးမှကျွန်အရာကလွတ်စေ။အပွားမရောက်မှီသွင်းလျှင်အရင်းကိုပေးစေ။အပွားလွတ်စေ။ထိုအသွင်းခံတွင်မွေးသောသားသမီးတို့ကိုကျွန်မဆိုသာချေ။မြီမှုနှင့်ရောက်ချေသည်လွတ်စေ။သို့ကားဆိုတုံ၏။ထမင်းဘိုးမှာငါးနှစ်တွင်ရွေးစားရာ၏။ထိုထက်မစားသာ။လနှစ်လွန်သမျှကိုလွတ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ မြီမှုအပွားကိုစားနှုံးတင်ချေသော့ကြောင့်လည်းကောင်း။ ကိုယ်ဘိုးမှအလွန်မြီဖြစ်ချေသော့ကြောင့်လည်းကောင်း။ အနည်းမျှကိုယ်ဘိုး၏သုံးစုတစုဖြစ်သည့်မြီနှင့်သွင်း၍။ကာလရှည်သော်ငွေရင်းတွင်သာပေးစေ၊ သားသမီးမွေးမြင်သမျှ.မှာထမင်းဘိုးမစားသာချေလွတ်စေ။

တနည်းအသွင်းကျွန်မှာကြေးငွေစပါးမည်မျှကိုယူမည်။ မည်မျှလနှစ်တိုင်အောင်အလုပ်ချ၍ သွင်းပြေစေ။ ဆိုကြ၍အသွင်းခံခြင်းမှာ။ ထိုလနှစ်ရောက်လျှင်ပြေစေ။ လွန်၍စေချေလျှင် လွန်ခကိုထုံးစံအတိုင်းငွေရှင်ကပေးစေ။ နေ့လမရောက်မှီထွက်သွားလျှင်နေ့လမမှီရက်လကိုတွက်၍ပေးစေ။ အသွင်း၍စေစားရာ၌ သားသမီးမွေးသော်ကြေးသပေါက်မဆိုရာလွတ်စေ။ ထမင်းဘိုးမှာအထက်ကဆိုခဲ့ပြီးသည် အတိုင်းနှစ်ကိုတွက်၍စားစေ။ ဆယ်နှစ်ထက်လွန်လျှင်ချ၍လွတ်စေ။ ထိုကျွန်တို့အရှင်စေရာသောလျှင်။ နှစ်လမစေ့မဆိုသာငွေဆုံးစေ။ မစေတန်မြစ်ကူးချောင်းခြားပင်နိမ့်ပင်မြင့်အသွား အတက်စေချေသော့ကြောင့် ဘေးဥပါတ်ဖြစ်၍ လနှစ်လွန်ချေလျှင်။စေသူကပေးစေ။

If the children of a slave belonging to some class of the king's servants, or of an irredeemable slave, shall from want be pledged for half their price, even if they have had many descendants, all the children must be released on payment of the original half price for which such slave was pledged. Though this is said, for children born of a pledged slave, one tickal per annum for food shall be paid for all those under ten years of age; if they have reached their fifteenth year, nothing shall be paid; if they be above ten and under fifteen, let an equitable deduction be made from the ten tickals, and let the balance be paid; nothing is payable after twenty years of age. This is the origin of the saying, "from one pledged buffalo, a penful; from one pledged slave, a village."

With regard to a slave given in part payment, if the husband, or parents, or master of a person, having from want incurred a debt, shall give over that person to be employed as a slave, if he was given over after the interest had become due, he shall be released on paying both principal and interest; if he was given over before any interest was due, let the original sum be paid; there shall be no interest, and children born to them shall not be called slaves; they are simply connected with debt. Though this is said, the price of their food for five years shall be paid, but no more; they are free of all expense beyond this. Why is this?—because the slavery was incurred on account of the interest of a debt, and also, because the debt is more than the price of the body of the person incurring slavery. If the amount of debt be less than the price of the body of the person given over, viz: about one-third, and the person has been given over for a long time, let only the original sum borrowed be paid, and nothing shall be paid for the food of any of the children born whilst the parent was in this state of slavery; let them be free.

In the case of another manner in which a person is handed over to slavery, if one shall take money or grain to any amount, and shall hand over a person to work as a slave till a certain time when the amount is to be considered paid, on the arrival of the time, let it be considered paid; if the slave be employed after that time, let the creditor pay the usual hire for the time over. If the slave leaves his employer before the time is up, let him, having calculated the amount, pay for the time still due. If during the time a female slave is employed thus, she shall bear children, they shall not be called born slaves, they shall be free; as regards the price of their food, let the years be reckoned and paid for as has been laid down above; if the child be more than ten years of age, let the proper deduction be made. If such a slave shall die in slavery, there shall be no claim for the time unfulfilled; the money shall be lost. If the slave be employed in a way he ought not to be, in crossing a river, or on the other side of a river, in climbing trees, whether lofty or low, and any misfortune shall befall him, when his time is expired, let the person who employed him, pay.

သေဘေးကြောင့် ဖြစ်သောကျွန်နှစ်ပါးဟူရာ၌။ မိကျောင်းငန်းသစ်ကျား။ အဆိပ်ရှိသောသတ္တဝါတို့ကြောင့်သေမည်တွင်ကယ်၍ဖြစ်သောကျွန်။ အရှင်စိုးမင်းမဟုတ်ခေးပြသတ်၍သေမည်တွင်ကယ်၍ဖြစ်သောကျွန်။ ဤကျွန်နှစ်ရပ်မှာချင့်တို့ကိုယ်ကိုစေရာတွင်အဖိုးပေးသော်။ အသက်ဘိုးပေးမှလွတ်စေ။ ချင့်တို့တွင်မွေးသောသားသို့မီးတို့ကိုလည်းကျွန်မဟူသာလွတ်စေ။ ထမင်းဘိုးတွင်သာကျွေးရသည်မှန်လျှင်ပေးစေ။

ကျောင်းကျွန်လေးပါးဟူရာ၌။ အရှင်မင်းကောရာဇ်ရေစက်သွန်း၍လှူရာပါသည် မှာရွေး ခြင်း ၄ါ မထိုက်။ အစည်ကျောင်း နှင့် မကွာ သင်္ဃကဖြစ်စေ။ ကျောင်းပျက်စီးသည်ဟု။ အရှင်စိုးမင်းသို့ချည်းကပ်ခိုမှီမထမ်သာ။ သံသရာဝင်ကျွန်ဖြစ်ချေသည်။ စည်ဆက်များ စွာထမ်၍မင်းမှာရှိသော်လည်း။ သာသနာတော်ငါးထောင် တည်စေရည်မှတ်၍လှူချေသည်။ အကပ်အမှီမခံသာချေ။ ကျောင်း သို့သာရည် ညွှတ် သည်အတိုင်း ဆရာစည်ရှိရာလုပ် ကျွေးမွေးစေ။ ကျောင်း းကျွန်သည် ကျောင်း မရှိဆရာစည် ပြတ်လျှင် ဘုရား စေ တီပုထိုးသိမ်သို့သာအ ရုံစောင့် ကျွန် ဖြစ် စေ။ ဘုရား ကသည် ကျောင်း သို့ မ ရောက် သာ။ ကျောင်းကဘုရားသို့ရောက်လျှင် ရောက်ပိုင် စေ။ ဝိနည်းတော်ရှိသည်အတိုင်းတည်စေ။ ။ငင်ကျောင်းကျွန် သားသမီးတို့နှင့် စုခြားအလွတ်သူတို့နှင့်သင့်၍ကျောင်းကျွန်ဖြစ်ခြင်းမှာ။ မွေးသောသားသမီးတို့သည်သံသရာ ရေစက်ချ၍လှူသည်မလွတ်။ ကျောင်းကျွန်သို့သာ ပါ စေ။ တ တန် မှာလည်း ယောကျ်ား လိုက်ယောကျ်ားပါ။ မိန်းမလိုက်မိန်းမပါ။ ဝိနည်းတော်က ပြသည် ၈ ကားဆင်ခြင်တုံ။

အရှင်ဇကောရာဇ်မလှူ။ ကျောင်းနေသခင် အရိယာ တို့ ကြေး ငွေဝတ္ထုနှင့်ဝယ် ၍ စေသောကျွန်တို့မှာသား မြေး မွေး မြင် ၍ ကျွန်စည် ဆင်း သက်သော်လည်းသင်္ဃကကျောင်း ကျွန်မဟုတ်။ ကျောင်းကျွန်အရာက လွတ်စေ။ ပုဂ္ဂလကျွန်ဖြစ် ချေသည်။ ထိုကျောင်းစည်ဆရာတို့အဖိုးရင်းခံလျှင်ပေးစေ။ မခံလျှင်လွတ်စေ။ ရဟန်းတို့ဥစ္စာကို အရှင်မင်း ဇကောရာဇ်မပိုင်ဖြစ်၍ ကြေးငွေဝတ္ထုကိုမယူသာမခံသာ။ လူချင်းမှာသာအရှင်ဇကောရာဇ်တို့ သိမ်း ယူခံစား ထိုက်ချေသည်။

အရှင်ဇကောရာဇ်မလှူ။ ကျောင်းဒါယကာတို့သဒ္ဓါ၍ ကျောင်းနေပုဂ္ဂိုလ်ကို

With regard to the two kinds of slaves become so in return for saving their lives; a slave becomes so by being saved from an alligator, a gnan, (poisonous snake,) a leopard, a tiger, or any venomous animal, when he was about to be killed by it, or a slave rescued from being killed, not by the orders of the king, but by robbers. In these two cases they shall only be free on paying the price of their life, but on the succession of a new king, or the deposition of the old one by a usurper, they shall be free, and children born to them shall not be deemed slaves, let them be free; only if they have been really fed, let them pay the price of their food.

As regards the four kinds of slaves of the kyoungs, those who have been devoted by the king by the usual ceremony of dropping water, shall not be redeemed, let them be hereditary, and irredeemably attached to the kyoung; they shall not go and employ themselves with the king on the plea that the kyoung is destroyed. They are slaves connected with a future state; even if they have been slaves or servants to the king for a number of generations, they were devoted with the intention of their remaining to the end of the five thousand years that the religion of Booda, Gaudama, shall exist; they shall not attach themselves to him, they shall only be slaves to the kyoung as they were originally destined. Let them minister to the priest who may be in the kyoung; if the kyoung be destroyed and the succession of priests be broken, let them become only slaves to a pagoda, they shall not come as slaves from a pagoda to a kyoung, but from a kyoung they may be transferred to a pagoda; let the law as laid down in the sacred book (Wenee) be fulfilled. If a free person, or one of any class of the king's servants, shall by connection with the child of a slave of a kyoung have children, as the children of kyoung slaves are a part of the offering made, and consecrated with the view to benefits in a future state, they shall not be free; let them belong to the kyoung. What is laid down in the sacred book (Wenee) that the male children shall belong to the father, the females to the mother, may also be taken into consideration.

If the king did not dedicate them, but they were bought by an Areeya,* the head of the convent, and they have children who are hereditary slaves in the service of the kyoung; they are not irredeemable slaves of the kyoung, they are slaves of the head of the kyoung; if the succeeding heads of the kyoung choose to take the original price, let it be paid; if he will not take it, let them still be free. As the king has no power over the goods of Rahans, he shall not take possession of them.† Amongst his fellow men only the king has the right to take possession (when there are no heirs.)

As regards slaves not given to a kyoung by the king, but who have

* Areeya is here used in a complimentary sense; it means a priest who has obtained a certain degree of mastery over his passions. No Areeyas exist in these days.

† That is, as heir.

လှူသည်မှာမလှူစပိုင်။ ရဟန်းတို့လည်းအလှူမခံစပိုင်။ကျွန်ယောကျ်ားကျွန်မိမ္မ။ လယ်ယာရွှေငွေကျွဲနွားမြင်းဆင်ပတ္တမြားတို့ကိုလှူအပ်၏။ ထိုသို့ပင်လှူအပ်သော်လည်း။ ကျောင်း၏ဒါယကာကျောင်းကိုစောင့်ရှောက်ထိန်းသိမ်းစေခြင်း လှူသည်မှာလည်းမလှူစပိုင်။ အရှင်ဧကရာဇ်သာ လူနှင့် မြေကိုပိုင်သည်။ ကျောင်းဒါယကာတို့မလိမ္မာ၍ သင်္ဃာဆရာတို့ ကို လှူသည်ဖြစ်စေ။ ကျောင်းကိုလှူသည် ဖြစ်စေ။ ကျောင်းကျွန်မဆိုသာ လွတ် စေ။ ကာလအရှည်အဆက်များ စွာရှိလည်းလွတ် စေ။ထိုကျောင်း၏ဒါယကာ ကချင့်ကိုကျောင်းဌာသုတ်သင်ပြင်စိမ့်မည်လှူသည်။ မပြင်မဆင်မလုပ် ဟူ၍ ကျွန် လည်း မဆိုအပ်ချေ။ ထောင်းသတ်ရိုက်ခပ်ခြင်းငှါ မထိုက်။ ထိုသို့ပြုချေလျှင်အပယ်ဝင်ဆင်းရဲ မကင်းသာရှိချေ သည်။ မပြုမပြင် မလုပ် မဆောင် နေလျှင်။ နေသူ၏ကံကြမ္မာငရဲသာဟူပေ။

ဘုရားစေတီပုထိုးသိမ်ရေကံရေတွင်းနှင့်ဆိုင်ရာကျွန်ဖြစ်ခြင်းလေးပါးဟူရာ၌။ အရှင်မင်းဧကရာဇ်ရေစက်သွန်း၍လှူသောယောကျ်ားမိမ္မကျွန်တပါး။ ၎င်ဘုရားအစည်သားသို့မီးတို့နှင့် အလွတ်သူ စုခြားသင့်၍ ဖြစ်သောကျွန်လည်းတပါး။ အရှင်မင်း ဧကရာဇ်မှတပါး။ ဒါယကာ တို့ဝယ် ၍လှူသောကျွန်လည်းတပါး။ အရှင် မလှူအထိန်းအသိမ်း အစောင့် တို့ဝယ်သောကျွန်လည်းတပါး။ ဤလေးရပ်ကျွန်လည်းကျောင်းကျွန်ကို ဆိုခဲ့ပြီးသည်အတိုင်း စီရင်။ ၎င်တွင် ကွဲသည်ကား။ ဘုရား ရှင်ကို သာမိုဃ်းမြေလယ်ယာကြေးကျွန်နွားလှူ အပ် သည်။ ရဟန်းသင်္ဃာတို့ကို မ လှူ အပ်သည်သာ ကွဲသည်။ ရွှေခွက်ငွေခွက်စသော အရာ တို့ကိုကျောင်းတွင် အရိယာတို့သုံးအပ်၏။ အခြားသို့မဆောင် မယူသာ။ ထိုသို့ဆိုခြင်း ကား။ ကျောင်း ဘုရားတို့တွင်အစည်ရှိသောဝတ္ထုကို သာဆိုသတည်း။ ဤကားဂရုဘဏ်။ လဟုဘဏ်။ ရှိသည်တို့တွင်သုံးအပ်မသုံးအပ်ကိုဆိုသောအခဏ်းတည်း။

ဘုရားကျောင်းနှင့် ဆိုင် သူကိုအလွတ် သူတို့ဝယ်၍ ကျွန်ပြုခြင်းခြောက်ပါးဟူသည်ကား။ ။ပေါင်သေတပါး။ ပေါင်ရှင်တပါး။ ပေါင်သွင်းတပါး။ မြီကြောင့် ဖြစ် သောကျွန်တပါး။ ၎င်ကျောင်း ဘုရားအသည်ကျွန်မကိုယည်ပါး၍မလျော်ရတတ်၎င်တွင်ကျွန်ဖြစ်ခြင်းတပါး။ ကျောင်းဘုရားအသည်ကိုယည်ပါး၍၎င်တို့ကိုလျော်ရန်ငွေကြေးကြောင့်သူတပါးတို့

၁။ ။မြေသေ။မြေရှင်အကျယ်စကား။

မြတ်သောမင်းကြီး။ အကြွင်လူတို့၌။မြေသေ။မြေရှင်ဟု ပိုင်စုတွင် နှစ်ပါး
အပြားရှိ၏။ ထိုနှစ်ပါးတို့တွင်။မြေသေဟူရာ၌။ သူရဲမြေ။ အစုအငန်းကိုပေး
သောမြေ။ သူကြီး။ပြည်စိုး။မြေတိုင်။တောကဲ။စာချီ။စမာ။အကြီး။အစီတို့ကို။
စားစုမင်းဧကရာဇ်က။နယ်ပါယ်နှင့်ပေးသောမြေ။ အဘေးအစည်ရှည်စွာ
က။ မျိုးရိုးစည်ဆက်အအုပ်အကြီးတို့စားစုလုပ်စုမြေ။ သည်မြေရပ်များ မြေ
သေမည်၏။ ။မြေရှင်ဟူရာ၌။၎င်မြေသေမှကြွင်းသော။ဘေးဘိုးမိဘက။
ဆင်းသက်၍။အမွေရသောမြေ။သူတထူးရောင်း၍ဝယ်ရာရသောမြေ။ သူတ
ထူးပြေး၍ရသောမြေ။မဆီးမတားအသိအမြင် ဆယ်နှစ်လုပ်၍ပိုင်သောမြေ။
တောကိုခုတ်ထွင်တီကျင်၍ရသောမြေ။ စမြင်မြေတိုင်အကြီး အအုပ်တို့ပေး၍
ရသောမြေ။သည်မြေရပ်များသည်။မြေရှင်မည်၏။ ။သို့ကားဆိုတုံ၏။
စမြင်မြေတိုင် အကြီးအအုပ် ပေးသော်၎င်။ လယ်ရှင်မဆီးမတား လုပ်သော်
၎င်။တောကိုတီထွင်၍လုပ်သော်၎င်။ ထိုမြေကိုပိုင်သူအဆုံး။ အပိုင်ရောင်း၍
ဝယ်သော်။ လုပ်ပိုင်စားပိုင်မြေပိုင်မှန်စေ။ ရောင်းသူရှိစည်ရွေးရကောင်း
သည်ဆိုသော်မရွေးသာ။သို့သော်လည်းရောင်းသူရှိလျက်။ဝယ်သူသေသော်
ရောင်းသူကရွေးစေ။၎င်သူသေသော်။အရာထမ်ရှိလျှင်ရွေးကရွေးစေ။

ဆိုခဲ့ပြီးသမျှ မြေသေမှာ။ထိုမြေသေ၏ အရှင်ဟောင်း သားမြေးမြစ်တို့
သော်၎င်။ထိုမြေသေတွင်လုပ်စုအဖက်ဆိုင်တို့သည်လည်းကောင်း။ ပေးရွေး
ပါမည်ဆိုလျှင်။အပေးအရွေးကိုခံစေ။၎င်မြေသေကို သားမြေးမြစ်မှန်လျက်။
မင်းဆက်များစွာ။နှစ်ရှည်စွာလုပ်မှ ပေးရွေးသော်တန်ဖိုးအတိုင်းပေးစေရွေး
စေ။ရွေးတွင်းမပိတ်သာချေ။ထိုမြေကိုအထက်ချဖေါ်ချဖက်အမှုထမ်းချင်းတို့
အပိုင်ရောင်းသော်ပေါင်သော်။ရောင်းပိုင်။ပေါင်ပိုင်စေ။ ထိုမြေတွင် မိမ္မရိုးက။
အသေမြေ။ယောက်ျားရိုးကအသေမြေဖြစ်လျှင်။ပေါက်ဖေါ်အများရှိသည်ဟု
ထိုမြေသေကို အမွေမခံမစားစေရာ။ သူတပါးတို့အားလည်း မရောင်းမပေါင်
သာချေ။ဘေးဘိုး မိဘဆုံးသည်တကားဟုမဆိုသာချေ။ မိမ္မရိုးမှန်လျှင်။ မိမ္မ
ရိုးစိုက်သူတယောက်တည်းသာဆင်းသက်ဆက်ခံစေ။ ။ယောက်ျား
ရိုးဖြစ်ကလည်း။ယောက်ျားရိုးတွင်တယောက်တည်းသာ ဆင်းသက်ဆက်ခံ
စေ။ထိုမြေကြောင့်တင်ပြီးရှိသော်။အမှုအခင်းထွက်သော်။ ပေါက်ဖေါ်စုတမိ

*1st. The law regarding the perfect or imperfect proprietary right in land.*

Oh excellent king! the right of any person in land is two-fold, either perfect, or disputable. Of these two, there is a perfect proprietary right in—1st, the land of soldiers, given to the companies of royal servants; the land given by the monarch in measured allotments for the subsistence of Thoogyees, governors of provinces, land measurers, superintendents of forests, writers or clerks, heads, or chiefs; 2nd, land that has come by hereditary succession, and been long in the possession of the head man's family, which they use and cultivate for food. These are called *myaythay*, i. e. lands in which the right is said to be perfect. As regards lands the right in which is disputable, they are all lands except those that have just been noted as land in which the right is perfect. Hereditary estates, land that has been purchased, land that has been obtained on another's going away and leaving it, land that has been openly occupied and worked without interruption for ten years, forest land which has been cleared, land allotted or given by officers, the land measurer, head man, or superintendents,—these are said to be *myaysheng*, lands in which right is liable to dispute. Though it is thus said, yet if the Thoogyee or land measurer, or other constituted authority have made the allotment; or should the land hsve been worked without opposition from the owner; or should the land have been reclaimed from the forest and brought under cultivation, then if the actual occupant of such land shall sell his right, let the right (of the buyer) to cultivate, own, and live upon it, be considered good and sound; during the lifetime of the seller it shall not be redeemable; (i. e. against the will of the buyer.) But after the death of the buyer, if the seller wish to redeem, then, let him do so. If the seller is dead and has left heirs, and they wish to redeem it, let them do so.

As regards the above land in which the right is perfect, if the sons, grand-sons, or great grand-sons of the former owner, or if parties who have a claim to it as partners in working it, shall offer to redeem it, let them do so. If the true sons or descendants of the owners of such land shall wish to redeem it after a long lapse of years and many successive kings have reigned, and the (person in possession) has been working it, let them redeem it at its proper value; it shall not be considered irredeemable. But if the original parties in the receipt of the grant, or their attornies, have sold the land outright, or mortgaged it, let them have the right to do so. If the land come in the female line, or if it come in the male line, no one shall receive a share in the inheritance of it on the plea of relationship; they shall not pledge nor sell it, on the plea of being descended of a common ancestor. If it come in the female line, let the person who takes her place and office alone inherit. If it come in the male line, let one only in the male line inherit by des-

တဘတည်းဘိုးဆိုဘွားဆက်ဖြစ်သည်ဟု။ထိုမြို့ထိုအမှုကိုမခံမဆပ်မဆောင်
စေရာ။အမျိုးစွဲသူကသာအမှုမျိုးနှင့်ထိုမြို့ကိုခံဆပ်ဆောင်ရွက်စေ။ ထိုသို့စိုက်
၍အကြီးအအုပ်ဖြစ်သူတို့သည်။ ထိုမြေသေအမှုရွာအုပ်အမှုကြောင့်။ ယူရ
သည်မြို့ကိုလည်း၊ထိုဆိုင်သူသေလျှင်။မယားဖြစ်သည်ဟုမြို့ရှင်တောင်းသော်
တောင်းရ၏။တောင်းသော်လည်း ထိုမယားက။မဆပ်သာ။အစည်အရိုးကိုခံ
စိုက်သူ။မြေမှုကိုဆောင်သူတို့ကမသိမဆိုသာ။ထိုမြေအရိုးစိုက်သူ။ ထိုရွာထို
မြို့ကိုအုပ်သူတို့ကဆပ်စေ။

မြတ်သောမင်းကြီး။ဆိုခဲ့ပြီးသောမြေသေ မြေရှင်ဟူသမျှမှာ။ မိဘဘိုး
ဘွားပေါက်ဖေါ်တို့သားမြေးမြစ်ညီနှင့်အစ်ကို။ မောင်နှင့်နှမပင်ဖြစ်ကြသော်
လည်း။မရွေးသာချေ။အပိုင်ရောင်းလျှင်ပိုင်စေ။ခုနှစ်ဆက်အဝင်ပေါက်ဖေါ်
သားမြေးဖြစ်သည် မှန်သော်လည်း မရွေးသာချေ။ ရောင်းရင်းတိုင်းပိုင်စေ။
ပေါက်ဖေါ်ချင်းပင်ဖြစ်စေ။ဆိုခဲ့ပြီးသမျှကို ရောင်းမည်။ အမျိုးအမွေဆိုင်တို့
ကိုအနှုန်းမေး၍။မဝယ်မည်ဆိုသူနေစေ။ဝယ်မည်ဆိုသူဝယ်စေ။ ။အ
ဆွေသားချင်းဖြစ်၍မေးစည်။မဝယ်ပြီဆိုသည်ကိုတဦးဝယ်မှ။ အညီဝယ်ပါ
ရစေဦး ဆိုပြန် သော်လည်းကောင်း။ တဦးသူဝယ်၍ တနှစ် စွဲလုပ်ပြီးမှဆို
သော်။ဝယ်ရင်းသူသာပိုင်စေ။မဝယ်ဆိုသူ နှစ်ကြာချေသော့ကြောင့်။ မဝယ်
သာလွှတ်စေ။မဝယ်ပြီဆိုသည်နေ့လည်းကောင်း။လလည်းကောင်း။ ရောင်း
ဝယ်ကြစည်။မဝယ်ပြီအထက်ဆိုလိုက်ပေသည်။ ယခုဝယ်ပါမည်ဆိုလျှင်။
မဝယ်ပြီသူသိသူမြင်ဆိုသည်ဟု။ မရောင်းမနေသာချေ။ ပေါက်ဖေါ်ချင်းဖြစ်
သည်။ပေါက်ဖေါ်ချင်းအလိုက်ဆိုရာရောင်းဝယ်စေ။ ။ဆိုင်သူတဦးကို
ရောင်းမည်။ဆိုင်သမျှလူတို့ကိုဝယ်ပါ။ ငမှာသုမြို့တင်ခဲ့သည်။ လျော်ရန်ရှိခဲ့
သည်တိုင်ဆိုပြော၍။ဝယ်မည်ဆိုလျှင်အစုံအညီဝယ်စေ။သို့ကားမဟုတ်။ င
ကိုသာအလုံးရောင်းကောင်းသည်။ ငါသာအလုံးဝယ်ရကောင်းသည်။ ဝယ်
သူတို့ဆိုလျှင် ဝယ်သင့်မဝယ်သင့်ကိုဝယ်သူချင်းဆိုစေ။ ရောင်းသူကို မဆို
သာချေ။ သို့ကားမဟုတ်တုံ။ဝယ်ပါမည်ဆိုသူတဦးကိုမသိစေရ။ တဦးသာ
ကိုရစေလိုသမှုရောင်းချေသော်။ ရောင်းသူမှားချေသည်။ ဝယ်သူမှာနုတ်၍
ဝယ်သင့်မဝယ်သင့်ကိုဆိုကြစေ။ဥစ္စာရှင်သိမ်းနုတ်ယူစေ။ ဝယ်သင့်သည်
ကိုဆိုကြသူချင်းဆိုကြစေ။ ဝယ်သင့်သူကိုရောင်းစေ။ မရောင်းပြီဆိုလျှင်။တ

cent, and bear the burdens attached; if there be any debts incurred on account of these lands, or any suit or matter arising out of them, the relations, children of the same parents, or descendants of the same grand-parents, shall not on account of relationship, bear any portion of these debts or other matters; let the person who succeeded to them alone bear all burdens, and pay all debts connected with them. Having cleared all the burdens, should this person, the head man or superintendant, die, having incurred debts on account of the land, or as being the superintendent, Thoogyee of the village, if the creditors sue his widow, on the ground of her being so, they shall have the right; nevertheless, she shall not be obliged to pay. The person who succeeded (her late husband,) the person who bears the burden of this land, shall not plead ignorance of the debt: let the person only who succeeded to the land, the Thoogyee, or head man of the village, pay it.

Oh excellent king! as regards both the lands in which the right is perfect, and those in which it is disputable, if parents, grand-parents, or relations, children, grand-children, or great grand-children, be they even brothers and sisters, shall wish to redeem such lands, they shall not have a right to do so; if they have been sold out-right, let the buyer have a full right to them. Although they be really relations within the seven degrees, they shall not redeem the lands; let the buyer have a right to them at the price or on the terms on which he originally bought them. If he (the buyer of the lands of which we have been treating,) shall wish to sell them, let him offer them to all those having a right of inheritance in them; let those who do not wish to buy them decline, and let those who wish to buy do so. If one who has been offered the land and declined to buy it, shall, after it has been bought by another relation, state his wish to purchase one half, if the request be made one year after it has been bought and worked, let the person who originally bought, have a full right to it, because the party who wishes to buy has had the offer made him, and has allowed a year to elapse; therefore he shall have no right to it; let it be free. If days or months only have elapsed since he declined to purchase, and he say, "I will now buy," though (the possessor) shall plead it has been declined before witnesses, and refuse to sell, he shall not be allowed to do so; the person making the offer is a relative; let them buy and sell as becomes relatives. If one person connected with the land shall wish to sell it, and shall propose to all who have an interest in it to purchase it, saying he is in debt or has to make compensation, if they say they will buy it, let it be sold in equal proportions to all. If one shall wish to buy the whole, let the other buyers decide whether the whole shall be sold to him; the seller shall have no voice in the decision. If it be not thus, but (the seller) has sold it to one of the party without letting another know who has expressed a wish to buy it, he has com-

ရှုးတွေ့ရပေသည်။စရိတ်ကိုဥစ္စာရှင်ကပေးစေ။ သူတပါးသို့လည်း မရောင်းသာချေ။ထိုစရိတ်မှာအဘေးဆုံမဆိုသာချေပေးစေ။ ။ဎင်လယ်မြေကိုတဦးဦး၌။ပေါင်၍ရှိမည်။ပေါင်ရကောင်းသည်မဆိုသာ။ပေါင်သူလက်မှိအရှည်ပေါင်၍ရှိမှ။အသိအမြင်ဖြစ်လျှက်။ နောက်မှ ပေါင်ရကောင်းသည်ဆိုသော်။ ပေါင်ရင်းသူမှာသာပေါင်စေ။ ဆိုင်သူဖြစ်သူဟု မပေါင်သာချေ။ သို့မဟုတ်။ပေါင်သည်လန္ရစ်။ပေါင်သည်။ ပေါင်သင့် သသူတို့အညီပေါင်ပါမည်ဆိုသော်ပေါင်စေ။ တဦးမှာအလျှင်ပေါင်နှင့်ချေသည်မဆိုသာ။ ဎင်လယ်မြေကိုတဦးဦး၌။နှစ်ရှည်ပေါင်၍ရှိပြီးမှ။အပိုင်ရောင်းလျှင်ဆိုင်သမျှလူတို့အပိုင်ဝယ်စေ။ငါ၌နှစ်ရှည်သည်မဆိုသာ။ဎင်မြေကိုမရောင်း။အသီးအနှံ့ကိုပူပြင်းစွာကျေးငွေရှိ၍ရောင်းသော်။ထိုရောင်းစည်ဝယ်ကြသသူတို့ ရောင်းဝယ်စေ။အမျိုးအရိုးပေါက်ဖေါ်ဖြစ်သည်။သူတပါးသို့ မရောင်းမဝယ်သင့် မဆိုသာ။ရောင်းဝယ်သည်အတိုင်းရောင်းဝယ်ပိုင်စေ။ ။သို့ကားမဟုတ်တုံ။သူစိမ်းသူကျက်မဆို ဝယ်မည် ရောင်းမည်။ စရန်သွင်း၍နေ့ရက်ရှိပြီးမှ။ထိုနေ့ထိုရက် မရောက်မှီအခြားမှာရောင်းချေသော်။ ဝငိသောဥစ္စာကို တန်ဖိုးပေးစေ။နေ့ရက်လွန်၍ရောင်းသော်ရောင်းပိုင်စေ။ထိုအသွင်းစရန်ကို မရသာဆုံးစေ။ ။သို့ကားမဟုတ်တုံ။မည်သည်နေ့ရက်လတွင် ဝယ်သည်အတိုင်းအဖိုးပြေပေး၍ဝယ်ပါမည်။ သည်နေ့ သည်လရောက်၍မဝယ်နေလျှင်။ ဥစ္စာရင်းပေးယူမည် စာထားရှိကလည်း။ ထိုစာထားဂတိအတိုင်း တည်စေ။ ဆံစပါးအဝတ်အထည် အချည်အကွင်း ရွှေငွေ သက်ရှိသက်မဲ့ ရောင်းဝယ်သမျှသည်ထုံးနည်းတူဖြစ်စေ။ ။သက်ရှိသက်မဲ့။ကျွဲ။နွား။ဆင်။မြင်း။လူ။ကစားရောင်းဝယ်ကြသမျှသည်။ဎင်နည်းတူ။မိုဃ်းမြေ လယ်ရာဥယည်လူအဝတ်အထည် အလိပ် အချည်အကွင်းများမှာ။ အမျိုးဆိုင်ရာ။ မှာရင်းအတိုင်းရောင်းဝယ်ကြရာ၏ဟု။ ဗြဟ္မာမင်း သားရင်းဖြစ်သော။ မနုမည်သောရှင်ရသေ့ ဆိုတော်မူ၏။

၂ ။မြေကိုပိုင်ခြင်းခုနှစ်ပါးအကျယ်စကား။

မြတ်သောမင်းကြီး။မြေ၌ပိုင်ခြင်းခုနှစ်ပါးအပြားရှိသတည်း။ခုနှစ်ပါးဟူသည်ကား။ ၁။ ဘိုးဘွားမိဘတို့ကအမွေရ၍ပိုင်သောမြေတပါး။ ၂ ဝယ်၍ပိုင်သောမြေတပါး။ ၃။ မြေတုံငံစမြင်တောကဲတို့ချ၍ပိုင်သောမြေတပါး။ ၄။ ဥစ္စာရှင်ရင်းတို့အထိန်းအသိမ်းမရှိ၍တောကိုခုတ်ထွင်တီကျင်း၍ပိုင်သောမြေတပါး။ ၅။ သူတပါးတို့ပေး၍ပိုင်ခြင်းတပါး။ ၆။ အရှင်စိုးမင်းပေးချသနားတော်မူ၍ပိုင်ခြင်းတပါး။ ၇။ သူ

mitted a mistake; having ejected the buyer, let them, (the relations) try whether he had the right to buy or not, and let it be sold to the person entitled to buy. If the person in possession shall refuse to sell, and if a suit at law be instituted, let him bear all the expenses of the suit; and he shall not sell (the property) to any other person; and as regards the expenses of the suit, he shall not plead (as an excuse) the descent from a common ancestor. Let him pay the expenses. If these lands should be in pledge to any person, there shall be no question about the right, if the pledge has been made before witnesses, and the pledgee has been long in possession; as it was originally pledged, so shall it be; it shall not be pledged to a claimant on the plea of family connexions. But if within a month and a year of the pledge being made, the family connexions to whom it ought (in the first instance) to have been pledged, should offer to take the pledge equally among themselves, let it be so pledged; the plea of having already pledged it to another will be of no avail. If the right and title in the aforesaid lands, after having been in pledge to any one for a considerable time, be offered for sale, let all such as are connexions, buy it. The person to whom the lands were pledged cannot claim them on the plea of long possession.

If these same lands be not sold, but if from the pressure of debt, the fruit or grain be sold, let the person who bought and he who sold have a right to do so; the relations and family shall not dispute the right to all these to a stranger; let the sale be confirmed. Moreover, whether it be a relation or a stranger to whom it is sold, if he has paid earnest money, and the holder of the land shall have agreed to close the bargain on a certain day, and before that day he shall sell it to another, let him pay back double the amount advanced. But if the day of closing the bargain is past, let him have the right to sell, and let the intended purchaser lose his advance. If it be bought on a written engagement, that on a certain month and day the whole price shall be paid or the lands returned, if on the arrival of that month and day the money be not paid, let the engagement be abided by. Let rice, paddy, cloths, pieces of cloth, rings, bracelets, gold, silver, all property, animate and inanimate, all merchandise, be subject to the same rule. Let all property sold in the market, all merchandise, property animate and inanimate, buffaloes, oxen, horses, elephants, men, all property that is bought and sold, be subject to the same rule; enclosures, lands, fields, clearings, gardens, men, cloths, piece or rolled goods, rings or bracelets, may be sold in the family as laid down. Thus he who was the true prince of Byahmas, Menoo the recluse, said.

*2nd. The seven kinds of right to land.*

Oh excellent king! there are seven kinds of right to land: the seven kinds are these; 1st, lands inherited from forefathers; 2nd,

တထူးတို့မြေကို။မတားမဆီးမဟာန့် ဆယ်နှစ်ကျော်ဆယ်နှစ်မြောက် မြေရှင်
တို့အသိအမြင်လုပ်၍ ပိုင်သည်တပါး။ ဤခုနှစ်ပါးပြင်မြေနှင့် စပ်သည်ကို
ပိုင်ခြင်းမရှိပြီ။ထိုသို့ပိုင်ခြင်းခုနှစ်ကို။ဗိုလ်ပါအပေါင်းတို့သိစေရာ၏။ ။
ဧင်မြေတွင်အစည်ဆက်ရာမဆက်ရာ။ ပေါက်ဖေါ် စု တို့အညီပိုင်ရာမပိုင်ရာ
ကိုဆို ခဲ့ပြီးအထက်မြေမှုအတိုင်းမှတ်သားစီရင်ရာ၏။

၃ ။ပေးခြင်းအမျိုးအကျယ်ရှစ်ပါးစကား။

၃ မြတ်သောမင်းကြီး။ပေးခြင်းအမျိုးအပြားရှစ်ပါးရှိသတည်း။ ရှစ်
ပါးဟူသည်ကား။ တပါးပေးခြင်း။နှစ်ပါးပေးခြင်း။သုံးပါးပေးခြင်း။ လေး
ပါးပေးခြင်း။ ငါးပါးပေးခြင်း။ ခြောက်ပါးပေးခြင်း။ ခုနှစ်ပါးပေးခြင်း။ ရှစ်
ပါးပေးခြင်းဟု။ပေးခြင်းမျိုးရှစ်ပါးရှိသည်ကို။ခြားနား၍ဆိုပေလတ္တံ့။ ။
ပေးခြင်းတပါးဟူသည်ကား။ သူတထူးကိုချစ်မြတ်နိုး၍။အိမ်ကိုနေတော့ဟု
ပေးလေ၏။အပေးခံသူအိမ်ကိုနေ၍သေသော်။မယားလင်သားသ္မီးမြေး တို့ထို
အိမ်တွင်ရှိလျှင်ဆက်ခံနေစေ။ထိုအိမ်တွင်အတူစားမယားလင်သားသ္မီးမြေး
တို့မရှိသော် ထိုအိမ်ကိုပေးရင်းအိမ်သခင်ရစေ။ ဆွေမျိုးသွေးသောက် အိမ်
နေသောသူနှင့်။ရင်းနှီးသည်ဆို၍မှန်သော်လည်းအိမ်ကိုမရရာ။ ထိုအိမ်ကိုနေ
သောသူ၏ သားသ္မီး မြေး အမွေခံလည်း မရှိ။ အိမ်ကိုနေသောသူလည်းမရှိ
သော်။သက်ရှိသက်မဲ့။ကျေးကျွန်ရှိလျှင်။ ထိုသေသောသူ၏ ပေါက်ဖေါ် အမျိုး
တို့ဆက်ခံစေ။ ထိုအိမ်တွင်နေသောသူတို့သွေးသောက်သူငယ်ချင်းတို့သည်။
ကျေးမွေးမစ၍ သေသည်တိုင်းဖုတ်ကြည်သင်းဂြိုဟ်မည်။ အမျိုးပေါက်ဖေါ်
တို့လည်းကျေးမွေးမစ၍။ ဖုတ်ကြည်သင်းဂြိုဟ်မည်။ ထိုသို့တူကြလျှင်။ ထို
သေသူအိမ်၌။အမိသဖွယ်အုပ်ချုပ် ရှိသောကျွန်မကို။ သွေးသောက် သူငယ်
ချင်းတို့ကရစေ။ ထိုကျွန်မပြင်။သက်ရှိ သက်မဲ့ ဥစ္စာ ရပ်ကိုသေသော သူ၏
ပေါက်ဖေါ်ဆွေမျိုးညာတိခြောက်ယောက်။နှစ်ပြန်အဝင်လူတို့ကသာခံစေ။
တင်မြီရှိလည်း။ အလုံးဆပ်စေ။ တင်မြီကိုကျွန်မရသောသွေးသောက်သူချင်း
တို့ကမဆပ်သာလွတ်စေ။ အိမ်ကိုပေးရင်းသူအိမ်ရှင်ရင်းရစေ။ပေါက်ဖေါ်
သားချင်း။ သွေးသောက်သူငယ်ချင်းသင်းဂြိုဟ်လူဖြစ်သည်ဟု အိမ်ကိုမရ
သာချေ။ ထိုအိမ်ကိုအပေးခံသူသေသူ၌။ကောင်းမွေဥစ္စာမရှိ။ တင်မြီသာရှိ
လျှင်။ထိုတင်မြီကို။သွေးသောက်သူငယ်ချင်းတို့က။ မဆပ်သာလွတ်စေ။ သေ
သူပေါက်ဖေါ် သားချင်းအဝင် နှစ်ပြန်အဝင်ကသာသင်းဂြိုဟ်သည်နှင့်အညီ
ဆပ်စေ။အိမ်ရှင်ရင်းလည်းမလွတ်သာ။အိမ်စုခံရသည် အတိုင်းဆပ်စေ။ အ

lands the possession of which has been obtained by purchase; 3rd, lands allotted by the land measurer, writer, or superintendent of forests; 4th, lands which have no owner and have been cleared from the forest; 5th, lands received in gift; 6th, lands received in gift from the king; 7th, lands which have been worked with the knowledge of the owner for upwards of ten years, without his stopping or preventing the working of them. Besides these seven, there is no other way of being owner of land, and these should be known to all; and whether they shall descend in tail, or whether the relations shall share them equally, shall be decided as has been already laid down.

*3rd. The eight kinds of gifts.*

Oh excellent king! there are eight classes of gifts, viz., 1st, the one kind of gifts; 2nd, the two kinds of gifts; 3rd, the three kinds of gifts; 4th, the four kinds of gifts; 5th, the five kinds of gifts, 6th, the six kinds of gifts; 7th, the seven kinds of gifts; 8th, the eight kinds of gifts; all which I will lay down separately.

The one kind of gift: A person from regard to another, gives him a house, saying, "live in that house," and the person to whom the gift was made, lives in the house; if at his death the wife, or husband, children, or grand-children, are living in the house, let them succeed to it and live therein; but if there be no wife, husband, children, or grand-children, who lived together with the receiver of the gift, let the giver receive back the house; though relations shall prove their relationship to the deceased, they shall not have the house. If he, the receiver of the gift, the dweller in the house, shall have no children or grand-children to inherit at his death, and if he have property, animate or inanimate, bought slaves, let his relations inherit; and if his friends or acquaintances shall have nourished him and ministered to his wants up to the time of his death, and have then buried him, and his relations shall also have ministered to him and assisted at his funeral, if they are in this alike, let them get the female slave who is in the house and superintends it as mistress. Let all property, animate or inanimate, with this exception, go to the six relations on both sides, and if there be debts, let them pay them all. The friends who got the female slave shall pay none of the debts; let them be free from this, and let the person who made the gift, the original owner, have back the house. The relations, friends, and acquaintances, who assisted at his burial shall not get the house. If the person to whom the gift was made shall leave no property, only debts, the friends shall not pay them; let them be paid by the six relations on each side as they may have taken part in the funeral. The owner of the house also shall not be free; having had the house,

ဘယ်ကြောင့်နည်း ဟူမူကား။ အိမ်ကို ယူချေပြီးဖြစ်သော့ကြောင့်တည်း။
သွေးသောက် သူငယ်ချင်း တို့မှာမူကား။ အရပ်သမှုဝတ်မကင်းသင်းပြုပ်
ရာရောက်သော့ကြောင့်။ မြို့နှင့်ကင်းစေဟူသတည်း။ ဤကားပေးခြင်းတပါး
တည်း။

ပေးခြင်းနှစ်ပါးဟူသည်ကား။ အကြင်မိဘနှစ်ပါးတို့တွင်။ သားကြီးသွီး
ကြီးရှိအံ့။ အဖသည် ကျွန်မကို သွားလာ၍။ မွေးမြင်သည်သွီးနှစ်ယောက်ရှိ
လျှင်။ မောင်နှမတို့မှာ။ နင်တို့အစေခံ၍ကျွန်ဖြစ်စေ။ နေရမည် ပိုင်သူ အဖ ပေး
ရာ။ တယောက်ယောက်သောသွီးသည်။ ပိုင်သူအဖ ပေးချေသည်။ အမိ
လည်းကျွန်မှန်ချေသည်။ အဖတဖတည်းပင် ဖြစ်သော်လည်း။ အဖပေးရာ
အစေခံရတော့မည်ဟု။ အစေခံသူကျွန်သွီး တယောက်မှာ။ အဖဖြစ်သူသခင်
သေသော်။ အမဖြစ်သူသခင်မစေပိုင်။ ကျွန်အရာကလွတ်စေ။ အဘယ်ကြောင့်
နည်းဟူမူကား။ ပိုင်သူသခင်ဖြစ်သောအဖစကားကိုနားထောင်ပေသောကျွန်
သွီးဖြစ်ချေသော့ကြောင့်တည်း။ ။ငင်သွီးတယောက်ကား။ အမိ
ကျွန်သော်လည်းငါအဖကောင်းသွီးဖြစ်သည်။ သခင်ပြုမည်သူလည်း တဖ
တည်းဖြစ်သည်။ အစေကိုမခံညင်းဆန်၍နေလေ၏။ ထိုညင်းဆန် နေသောကျွန်
သွီးမှာ။ သခင်ဖြစ်သောအဖသေလျှင်။ ကိုယ်ဖိုးတဝက်ကို သခင်ဖြစ်သော
သွီးသားတို့သို့ ပေးမှ။ လွတ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ သခင်ဖြစ်
သောအဖ၏စကားကိုဖီဆန်သောကျွန်သွီးဖြစ်ချေသော့ကြောင့်တည်း။

မြတ်သောမင်းကြီး။ ပေးခြင်းသုံးပါးဟူသည်ကား။ သံသရာကိုရည်၍
ပေးခြင်း။ ချစ်၍ပေးခြင်း။ ကြောက်၍ပေးခြင်းတည်း။ ထိုသုံးပါးတို့တွင်ပြား
ပြန်သည်ကား။ သံသရာကိုရည်၍ ပေးရာ၌နှစ်ပါး။ ချစ်၍ပေးရာ၌ နှစ်ပါး။
ကြောက်၍ပေးရာ၌လည်းနှစ်ပါးတည်း။ ထိုသို့ရှိရာတွင်။ သံသရာကိုရည်၍
ပေးခြင်းတပါး။ အရှင်ဇေကရာဇ်တို့လှူတော်မူသည်မှာ။ မတောင်းရာပြီ။ ဆုံး
စေ။ တောင်းချေမူ ဒါဏ်ခြောက်ချက်သင့်စေ။ အရှင်ဇေကရာဇ်မင်း မိဖုရား
သားတော်ဥပရာဇာမှ ကင်းလွတ်သောသူတို့သည်။ သက်မဲ့ဥစ္စာ လယ်ယာ
မိုးဃ်းမြေရွှေငွေကိုဂုင်။ သက်ရှိဥစ္စာလူဆင်မြင်းကျွဲနွားတို့ကိုလည်းကောင်း။
ဘုရားကျောင်းအားရည်၍လှူခြင်း၌ါမထိုက်။ အရှင်သာထိုက်သတည်း။ ထို
မထိုက်သော သူတို့တွင် သက်မဲ့ဖြစ် ဥစ္စာတို့ကို ကျောင်း ဘုရားသို့ ရည် ၍
ကျောင်းစည်ကိုလှူသည်ဖြစ်က။ သဃ်ာတို့ဝေခြမ်ရာကျောင်းစည်တည်စေဟု။
ဝိနည်းတော်၌လာသည်။ ရွှေငွေကျောက်သံပတ္တမြားမိုးဃ်းမြေလယ်ယာကျွဲ
နွား။ ကျွန်ယောက်ျားကျွန်မိမ္မတို့ကိုဆိုသတည်း။ ထိုတွင်သံသရာမှု၌ ရေစက်
သွန်းချ၍လှူစေကာမူ။ မယားသားသွီးဆင်မြင်းကျွဲနွားတို့ကို အဖိုးခံလို၀ယ်

he shall pay his share. Why is this?—because he has taken the house. As regards the friends, it was their duty as inhabitants of the district, to assist at the funeral; let them be free from paying any of the debts. This is the one kind of gift.

The two kinds of gifts: If a father having children by his wife, shall get two daughters by a female slave, and shall say to them, "you must serve your brothers and sisters as slaves," if one of the daughters thus given by her father shall say to herself, "my father who had a right to me has given me away, my mother is certainly a slave, and though we are children of the same father, I will serve her to whom he has given me," when her father and master dies, the slave daughter who thus serves shall be free; her sister, her mistress, shall no longer claim her services. Why is this?—because she is a slave daughter who obeyed the commands of her father and master. If the other daughter, saying, "though my mother is a slave, I am the daughter of a good (free) man, the person who claims my service is child of the same father," denies the right (to give her away,) and shall refuse to be employed as a slave, when her father and master dies, she shall only be free on paying to the sons and daughters, who are her masters, one half of her price. Why is this?—because she is a slave daughter who refuses to obey the commands of her father and master.

The three kinds of gifts: A gift made with reference to futurity—a gift made from affection—a gift made from fear. From these again spring two kinds of gifts referring to futurity, two from affection, and two from fear. One of the gifts referring to futurity is this. Things that have been offered by a king shall not be asked for back again (by the owners,) let them be lost; let the person so demanding them suffer the punishment of six stripes. No one except the king and queen and their royal son the heir apparent, are fitting people to make a gift to temples or convents of inanimate things, land, gold, or silver, or of animate things, men, elephants, horses, oxen, or buffaloes. The owners (of all,) the king, queen, and heir apparent, only are entitled to make such offerings. If people who are not entitled shall offer inanimate property to a kyoung, and it be offered to the kyoung and not the priests, when the priests shall divide the property (on the death of the abbot,) it shall remain with the kyoung; this is laid down in the Weenee. Gold, silver, gems, land, buffaloes, oxen, slaves, male and female, are all included, and in these offerings, if a wife, children, elephants, horses, buffaloes, or oxen, be offered and dedicated by the dropping of water, to futurity, and the offerer

လိုသော် လည်းကောင်း။ အစားထည့်မိုက် လိုသော် လည်းကောင်း။ ထိုက် အောင်ပြုလျှင်ထိုလျှရင်းကိုရပြန်အပ်၏။ ဟုမြဟ္မာမင်း၏ သားရင်းဖြစ်သော မနူရှင်ရသေ့ဆိုတော်မူ၏။ ။ဤသည်လျှင်သံသရာကိုရည်၍ပေးခြင်း နှစ်ပါးတည်း။ ။ချစ်၍ပေးခြင်းနှစ်ပါးတွင်တပါးမှာ။သူတပါးတို့အား ချစ်၍ပေးခြင်း၌ပေးသူဥစ္စာရှင်ဆင်းရဲ၍။အပေးခံသူလက်တွင် ထိုပေးသော ဥစ္စာထင်ရှားရှိမူ။ တောင်းသော့်ရပြန်စေ။ အပေးခံသူလက်တွင်ပင်ရှိသော် လည်း။ပေးသူမဆင်းရဲသော်မရရာ။လက်တွင်မရှိသော်လည်းမရရာ။ နှစ်ဦး သားဆင်းရဲခြင်းတူကြ၍ပေးသောဝတ္ထု။ လက်တွင်ထင်ရှားရှိသော်လည်း ကောင်း။မရှိသော်လည်းကောင်းမရရာ။ အဘယ်ကြောင့်နည်းဟူမူကား။နှစ် ဦးသားဂတိမပျက်သော့ကြောင့်တည်း။ ။တနည်းကားသားသမီးတို့ ကိုချစ်၍မိဘတို့ပေးစေကာမူ။ထိုသားသမီးမသေသမျှ မိဖတို့ယူသော် ယူပိုင် စေ။ ။ဤကားချစ်၍ပေးခြင်းနှစ်ပါးတည်း။ ။ကြောက်၍ပေးခြင်း နှစ်ပါးတို့တွင်။ဆင်းရဲသားခြင်းဖြစ်မူ။ အကြောက်ပြေလျှင်ထိုပေးသောဥစ္စာ ကိုအလုံးရစေ။အရှင်ဧကရာဇ်မင်းမိဖုရားဥပရာဇာတို့ကိုကြောက်၍ပင်ပေး ရသော်လည်း။ အကြောက်ပြေပြီးဟု တောင်းခြင်း၌မထိုက်မသင့်လေ။ အ ဘယ်ကြောင့်နည်း ဟူမူကား။ ရာဇာပဗ္ဗာန် ထိုမင်း လက်ထက် တော်အ ကောင်းအညွှံ့အမြတ်အနိမ့်အယုတ်အလပ် ဖြည့်ဖွဲ့တော်မူသည်။ပေးချတော် မူသည်အတိုင်းစည်ဆက်တည်ရလေသည်ဖြစ်သော့ကြောင့်။တရားကျောင်း ၌လည်းမဖေါက်မလှံသာချေဟုရှိသော့ကြောင့်တည်း။ ။သို့ကားဆို တုံ၏။ရွှေထီးရွှေနန်းဆက်စံသော်။ဘုရားကျောင်းမှ လွှတ်သော အရာမှ ကင်း သောအလုံးစုံကို ပစေပယ်စေပင်ရှိသော်လည်း။ရွှေနန်းဆက်စံသူ အရှင်ဧက ရာဇ်ကအပြစ်မဟူ။ထပ်၍သူကောင်းပြုပြန်လျှင် အရှင်ချီးမြှောက်ရာ ဖြစ်စေ ဟုရှင်ရသေ့ဆိုသော တော်မူ၏။ ။ဤတွင်၍ကားပေးခြင်းသုံးပါးပြီး၏။

ပေးခြင်းလေးပါးဟူသည်ကား။ခံတံချင်းသုံးပါးတွင်။ဥစ္စာကိုပေးမည်။ လူကိုပေးမည်။ ဥစ္စာနှင့်လူကိုပေးမည်။ ခံရာ၌လူကိုပေးခြင်းတပါး။ဥစ္စာကို ခြင်းတပါး။ကျွန်ကိုပေးခြင်းတပါး။ကျွန်တွင်သခင်ဥစ္စာပါသည်ကိုပေးခြင်း တပါး။ ဤလေးပါးတည်း။

ပေးခြင်းငါးပါးဟူသည်ကား။ မွေးသည်သားသမီး ကိုသူတပါးတို့အား မွေးပါလေပေးခြင်းတပါး။ ၎င်သားသမီးတို့ကိုသူတပါးတို့အား အထိန်းအမ နှင့်ဖြစ်စေ။ပနာနှင့်ဖြစ်စေပေးခြင်းတပါး။သူတပါးတို့သည် သားသမီးပြုပါရ စေအမှတ်မဲ့တောင်းရာ မိဘတို့ပေးခြင်းတပါး။ ၎င်ကဲ့သို့တွင် လက်ဆောင်ပ နာနှင့်တောင်း၍ပေးခြင်းတပါး။ ဤငါးပါးသည်။ သူငယ်ဖွား၍အချက်ကြီး

wishes to buy, or the receiver to sell them back, or give another in exchange, if an equivalent be offered, he may receive them back. Thus the son of the king of Byahmas, the recluse, said. These are the two gifts made with reference to futurity.

As regards the two gifts from affection, one is when a gift is made from affection, and the person who made the gift has become poor, the thing given being notoriously still in the possession of the person to whom it was presented; if in this case the giver demand it back, let him have it. Though it be in the possession of the receiver, if the giver be not poor he shall not receive it back; and if it be not in his (the receiver's) possession, he shall not under any circumstances receive it back. If both be equally poor, whether the thing given be in the possession of the person to whom it was given or not, the giver shall not receive it back. Why is this?—because neither has broken his engagement. In another case; if parents from affection have made presents to their children, during the whole life-time of the children, if the parents wish to take back their gift, let them have the right to do so. These are the two gifts from affection.

As regards the two gifts made through fear, if the giver and receiver be both poor people, when the fear is over, the whole of the property given may be recovered; but if the gift be made to the king, queen or the heir apparent, even if through fear the whole property has been given to them, it is not proper on the ground of the fear being over to demand it back. Why is this?—because, during that reign, their order fixing a man's condition, whether in the respectable or inferior, the exalted or humble, the degraded or middle class, must be abided by in future generations, and the law also must not be departed from. Nevertheless, if a new king succeed, and he, having power to annul or set aside all orders except those relating to pagodas and kyoungs, shall forgive the fault, and restore the degraded person to the condition of a respectable man, let him hold the rank to which his lord has raised him. Thus the recluse said.

The four kinds of gifts: There are three things for which security is given; 1st, for property; 2nd, for the person; 3rd, for both; and four things which are given as security in the above cases; 1st, the person; 2nd, property; 3rd, a slave; 4th, the master's property in the slave's possession. These are the four.

The five kinds of gifts: giving one's own children to another to bring up; giving them accompanied by a nurse; or by a present; parents giving their children to another on casually asking for them; giving them in the same way (on being asked) with a present; these five are gifts of a child from the time the navel string is cut till they

ဖြတ်သည်ကသည်။ မိဘမှန်းကိုသိသည်တိုင်အောင်သားသမီးတို့ကို ပေးခြင်း
တည်း။ ။အကြင်သူနှစ်ယောက်တို့တွင်။တဦးသားသမီးသည်အငယ်လည်း
မဟုတ်အရွယ်လည်းမရောက်မှီ။သုံးနှစ်ရွယ် လေးနှစ်ရွယ် ကသည်။ ဆယ်
နှစ်ရွယ်တိုင်အောင်ကို။တဦးကသားသမီးပြုပါမည်တောင်း၍။တဦးကလည်း
သားသမီးပြုပါလေတော့ဟုပေး၏။ လက်ဆောင်မပါလက်ဆောင်ပါတောင်း
ပေး၍ခြင်း။ယူခြင်းလည်းတပါးတည်း။ဤသို့သားသမီးတို့ကိုပေးခြင်းငါးပါး
ကိုခွဲခြမ်းစိတ်ဖြာ၍ဆိုခြင်း၌။ အကြင်သူသည်သားသမီးတို့ကိုမွေး၍ အချက်
ကြီးဖြတ်ထဉ်လျှင်။သားသမီးပြုပါလေတော့ဟုပေးယူကြ၍။ ကြီးပြီးသောအ
ခါမှမိဘရင်းတို့ကရလိုပြန်လိုသည်ဆိုအံ့။မွေးပေးသောသူနှင့်သားသမီးပြုသူ
က။ အတူတကွနေမည်။မလိုက်လိုဆိုသော်မိဘရင်းတို့ကမရရာ။မွေးသူကရ
စေ။ မွေးသူတို့ကသားမပြုလိုပြီ။မိဘရင်းသို့အပ်လျှင်။မိဘရင်းတို့ကယူစေ။
ဂုဏ်ကျေးဇူးမှာမပေးရရာ။ ထိုသို့ကားမဟုတ်။မွေးသောသားသမီးသည်မိဘ
ရင်းသို့ပြန်လည်နေချေသော်ကျင့်ကိုယ်ဖိုးတန်သည်ကိုမွေးပေးသောမိဘပြုစု
ကအလုံးရစေ။မိဘရင်းတို့ကအချက်ကြီးဖြတ်ပြီးမှ။သူတပါးတို့ကိုသားသမီး
ပြုလေတော့ပနာနှင့်ဖြစ်စေ။အထိမ်းနှင့်ဖြစ်စေ။ ပေးသောသားသမီးတို့ကိုမိဘ
ရင်းတို့ကယူပြန်လို၍ ထိုသားတို့မလိုက်၍။ မွေးပေးသောမိဘပြုသူတို့က မ
ပေးဆိုသော်။မဆိုစပိုင်ချေ။ မိဘရင်းတို့ကရစေ။စောင့်မ၍ကျွေးမွေးပေးသော
မိဘပြုသူတို့မှာ။ ချင်းကိုယ်ဖိုးတန်ရာ လေးစုတစု စားပိုင်စေ။ ကျွေးမွေးရာ
တင်မြိရှိလျှင်။ခံတွင်းစုကိုမိဘရင်းတို့ကပေးစေ။၎င်သားသမီးကို ငါတို့မကျွေး
မမွေးပြီ။မွေးကျွေး၍ မိဘပြုသူတို့ကအပ်လျှင် ကျေးဇူးဂုဏ်ခကိုမစားသာ။
ကိုယ်ဖိုးကိုလည်း မရရာ။ တင်မြိကိုလည်း မဆပ်စေရာ။ အဘယ်ကြောင့်
နည်းဟူမူကား။အပ်ရင်းကအထိန်းပနာနှင့်အပ်ချေသော့ကြောင့်တည်း။

အကြင်သူသည်သားသမီးပြုပါမည်။မွေး၍အချက်ကြီးဖြတ်သည်မှ။ အ
မှတ်မဲ့တောင်း၍ပေးသောသားသမီးတို့သည်။ကြီးမြောက်သောအခါမိဘရင်း
သို့ပြန်လည်နေပြန်အံ့။ချင်းကိုယ်ဖိုးကိုသုံးစုပြု၍နှစ်စုကိုမိဘပြု၍ ကျွေးမွေး
ပေးသောသူတို့ကရစေ။ ထိုသားသမီးကို မိဘရင်းတို့ကရစေ။ ၎င်သားသမီးတို့
သည်။မိဘရင်းတို့ထံမနေလိုသည်ကို။မွေးကျွေး၍မိဘပြုသူတို့က။ သားသမီး
မပြုပြီမိဘရင်းသို့အပ်လျှင်။ ဂုဏ်ခကိုယ်ဖိုးကိုမစားရရာလွှတ်စေ။ အကြင်
သူသည်။မိဘရင်းတို့မှာပနာလက်ဆောင်နှင့်တောင်း၍မွေးလျှင်။သားသမီးပြု
၍ကြီးမြင့်မှ။ ထိုမိဘရင်းသို့ပြန်လည်နေ၍။ မိဘရင်းကယူလိုပြန်ချေသော်။
ချင်းကိုယ်ဖိုးတန်သ၍ကို မွေးကျွေးသူတို့ကပေးစေ။ တင်မြိ ရှိလျှင် ခံတွင်းစု

are able to know their parents. If a person shall offer to bring up the child of another, not an infant, and before puberty, from the third or fourth to the tenth year of his age, and the other shall give it over, saying, " adopt him as your child," whether there be a present accompanying it or not, this is another kind of gift, and in these five separately detailed gifts of children, if any one give a child after the navel string is cut, saying, " adopt this child," when he is grown up, if the parents shall say they wish to have it back again, if the child shall say he does not wish to go back, but to remain with his adopted parents, his own parents shall not obtain him; let those who brought him up keep him. If the people who adopted him shall say they do not wish to bring him up, and make him over to his own parents, let them take him; they shall pay nothing for the favor conferred. If the adopted child without permission returns to and remains with his own parents, let the persons who had adopted him receive the proper value of his body. As regards children given by their parents after the navel string is cut, saying, " adopt this as your child," if it be accompanied with a present or a nurse, if the parents wish to take it back, and the child refuse to return, and the adopting parents shall refuse to give it up, they shall have no right to do so; let his own parents receive him, and let the people who adopted and brought him up have a right to one fourth of the proper price of his body; and if in bringing him up debt shall have been incurred, let the parents pay what was incurred for food. If the adopting parents who have brought him up, shall return such a child to his parents, saying they will not bring him up any longer, they shall not receive any remuneration for the obligation, nor shall they receive the price of his body, nor shall the parents pay any debts incurred. Why is this?—because when he was made over originally, he was accompanied by a nurse or present.

If a person shall offer to adopt the child of another, and at the time the navel string is cut, shall make the offer in this casual way, and if the child given them shall, when he is grown up, return and live with his own parents, let the price of his body be divided into three shares, and let the parents who adopted him receive two, and let the own parents have the child. But if this same child shall not wish to live with its own parents, and the adopting parents shall return him to them refusing to bring him up, they shall have no remuneration for the obligation, nor shall they have the price of his body. If a person shall ask a child from his parents, making them a present, and bring him up as his own child, if when the child is grown up he shall go back and live with his original parents, and they shall wish to keep him, let them pay the proper price of his body to the people who brought him up, and if there be any debts, let them pay

ဆပ်စေ။ထိုမွေးကျွေးသူတို့က မိဘရင်းသို့မမွေးလိုပြီအပ်လျှင်။ ဂုဏ်ခကိုယ်
ဖိုးတင်ပြီကိုမယူမဆပ်ရရာ လွတ်စေ။ဤပေးခြင်းလေးပါးကား။သူငယ်ဖွား
၍အချက်ကြီးဖြတ်သည်ကသည်။မိဘကိုမှန်းသိသည်တိုင်အောင်။သားသမီး
တို့ကိုပေးခြင်းတည်း။

အကြင်သူနှစ်ယောက်တို့တွင်။တဦး၌သားသမီးသည်။ အငယ်လည်း
မဟုတ်။ အရွယ်လည်းမရောက်မှီ။သုံးနှစ်။လေးနှစ်ရွယ်ကသည်။ ဆယ်နှစ်
ကျော်တိုင်အောင်သားသမီးကို။ တဦးကသားသမီးပြုပါမည်တောင်း၍။ တဦး
ကသားသမီးပြုလေတော့ပေး၏။ လက်ဆောင်မပါ။ လက်ဆောင်ပါတောင်း၍
ပေးခြင်းယူခြင်း။ သားသမီးတို့မှာ။ မိဘရင်းဓာရလိုသည် ဆိုသည်ကို။ မွေး
ကျွေး၍ကြီးမြင့်သောသားသမီးတို့ကမိဘရင်းထံမလိုက်ဆိုသော်။မိဘရင်းသို့
နို့ဖိုးငွေတဆယ်ငါးကျပ်ဆပ်စေ။ ထိုသားသမီးသည်မိဘရင်းထံနေမည်။မိဘ
ရင်းတို့ကလည်းယူမည်ဆိုသော်ယူစေရစေ။ထိုသားသမီးတို့၏တန်သဉ်ကိုယ်
ဖိုးတွင်တဝက်မွေးကျွေးပေသောမိဘများတို့ကစားစေ။တင်ပြီရှိလျှင်မိဘရင်း
တို့ကခံတွင်စုဆပ်စေ။ ။ဤတွင်၍ကားပေးခြင်းငါးပါးဟုမြဗ္ဗာမင်း၏
သားရင်းဖြစ်သောမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

ပေးခြင်းခြောက်ပါးဟူသည်မှာ။သံသရာကိုရည်၍ပေးခြင်းတပါး။ချစ်၍
ပေးခြင်းတပါး။ ကာမဂုဏ်ကိုလို၍ ပေးခြင်းတပါး။ အတတ်ပညာကိုလို၍
ပေးခြင်းတပါး။ မိုက်၍ပေးခြင်းတပါး။ ကြောက်၍ပေးခြင်းတပါး။ ဤသို့
အားဖြင့်ပေးခြင်းခြောက်ပါးဖြစ်သတည်း။

ထိုခြောက်ပါးတို့တွင်။သံသရာကိုရည်၍ပေးခြင်း၌။ပုဂ္ဂလိကသင်္ဃိက။
နှစ်ပါးအပြားရှိသည်။ ပုဂ္ဂလိကမှာအလှူခံသောသူပိုင်သည်။ သင်္ဃိကဂိုဏ်
တွင်အကြီးပိုင်သည်။ ၎င်းဒါရကာတို့ပေးပြီးမှရကောင်းသည်မဆိုပိုင်။ မယူ
ပိုင်။ယူရကောင်းသည်။ပိုင်ရကောင်းသည်။ ပေးလှူသောအလှူရှင်တို့ဆိုပြန်
သော်။ဒါဏ်တထောင်သင့်စေ။

သားသမီးမှလွတ်သောသူကိုချစ်၍ပေးသည်မှာ။ သုံးပါးအပြားရှိသည်။
အမိအဖ။အဖိုးအဖွားဆရာတို့ကို။ အလေးအမြတ်ပြု၍ ပေးခြင်း တပါးမှာ။
ထိုဘိုးဘွားမိဘဆရာတို့လက်ဝယ်ထင်ရှားရှိသော်လည်းမရရာ။ မရှိသော်
လည်းမရရာ။ ဘိုးဘွားမိဘဆရာတို့လက်တွင်ရှိလျှက်။ ယူသူသေသော်ပေး
ရင်းသူရှိကရစေယူစေ။ ငါတို့ပေါင်းဖက်ကျွေးမွေးသူဖြစ်သည်ဟု။ အတူနေ
သူတို့ကမရသာချေ။ ။တတန်သူတပါးတို့အားသက်ရှိသက်မဲ့ဥစ္စာ
ကို။သားစည်မြေးဆက်ပိုင်လေတော့။ မယူပြီဟုပေးသည်မှာ။ ဂတိအတိုင်း

what has been incurred on account of food. If the adopting parents shall return him to his parents, saying they do not wish to bring him up, they shall have no claim to remuneration for the obligation, no part of the price of his body, nor shall the original parents pay any of the debts incurred. These four gifts, are of children given from the time they are born and the navel string divided, till they are able to know their parents.

If a person shall offer to adopt the child of another, no longer an infant, nor yet attained to puberty, that is to say, between the age of three or four and ten years, and the parents shall give him the child, if the parents of the child thus asked for and given, whether accompanied by a present or not, shall say they wish to take him back, and the child who has been adopted and grown up shall refuse to return to his parents, let the person who adopted him pay his parents fifteen tickals ofsilver, the price of his milk. If the child is willing to live with his own parents, and they say they will take him, let them have him, and let the adopting parents have one half of the price of his body; and if there be any debts let the parents pay what may have been incurred for food. This is what is said of the five kinds of gifts. Thus Menoo, the son of the king of Byahmas, said.

The six kinds of gifts: gifts having reference to a future state; gifts from affection; gifts from lust; gifts to be taught knowledge or science; gifts from folly; gifts from fear; these are the six kinds of gifts.

Of these six, as regards the gift having reference to a future state of existence, they are of two kinds, poggalika and thenghieka. In poggalika gifts, the person to whom the offering is made, has a right to keep it. In thenghieka gifts, it becomes the property of the chief of the assembly of priests. After a supporter of religion has made such gifts, he has no right to any further claim on them; if he say to the person to whom the gift was made that he ought to obtain them back again, let him be punishable with one thousand (stripes.)

There are three kinds of gifts made from affection to persons other than children. Those given from respect to parents, grand-parents, or teachers, shall not be demanded back even if they are still in their possession; if demanded they shall not be given up. If they are still in the possession of the person to whom they were given, and he die, if the person who made the gift be still alive, let him take it back; no person shall receive it on the plea of having lived together, and contributed to the subsistence of the receiver of the gift.

In another case; in making a gift to other than the above parties, if animate or inanimate property be given in terms that the descendants of the receiver of the gift shall have a perfect right to it, that the giver will not take it back, let it be theirs according to the terms of the promise. If (the giver) shall demand the gift back, saying,

ပိုင်စေ။ ငါဆင်းရဲသည်။ ဥစ္စာဖြစ်သည်။ ချင်းတို့လက်တွင်မှိုပါသည်။ ပေး ကောင်းပါသည် တောင်း၍မရရာပြီ။ အဘယ်ကြောင့်နည်းဟူမူကား။ ဂတိ သစ္စာရှိချေသောကြောင့်တည်း။

တတန်ပေးခြင်းမှာ။ ယူတော့တသက်တွင်၍ပေးခြင်း၌။ ထိုယူသူသေက။ ဥစ္စာရှင်ရစေ။ ဥစ္စာရှင်မရှိသော်သည်းကောင်း။ သားမြေးတို့ရှိသော်လည်း ကောင်း။ ယူစေရစေ။ အပေးခံသူမသေရှိ၍။ ရောင်းပေါင်လိုလျှင်။ ဥစ္စာရှင် ရင်းမှာသာရောင်းပေါင်စေ။ ငါတသက်ပိုင်ပြီတကားဟု အခြားတပါးမှာမ ရောင်းမပေါင်သာချေ။ရှင်သားမြေးတို့လည်း။ အမွေမဆက်ခံသာချေ။ ဥစ္စာ ရှင်ရင်းသားမြေးတို့ကသာရစေ။မရောင်းမပေါင်သုံးစား၍ ကုန်သော်လည်း ကောင်း။ပေးသောဝတ္ထုသည်သက်ရှိဖြစ်၍သေပျောက်သော်လည်းကောင်း ကုန်ပိုင်ဆုံးပိုင်စေ။

ကာမဂုဏ်ကိုလို၍ပေးခြင်းငါးပါးပြားသည်။ငါးပါးဟူသည်ကား။ အ ရွယ်လွန်သောသူနှင့်။တရားမဝင်သူတို့ပြင်။ အလွတ်သူချင်းသဘောထူအိမ် ထောင်ဘက်ရှည်၍ လင်မယားပြုမည်မဆို။ ကာမဂုဏ်မှုရှင်လန်းခြင်းကို အလိုရှိ၍ ပေးရာ၌။ ကာမဂုဏ်ရလျှင်ဆုံးစေ။ကာမဂုဏ်မရလျှင်ပြန်၍ပေး စေ။ လင်ရှိမယားမှန်းကိုသိလျက်။ ကာမဂုဏ်ကိုလို၍ပေးခြင်းမှာ။ ကာမ ဂုဏ်ကိုမရလည်း မယားခိုးအရာ မကင်းဖြစ်ချေသည်။ ထိုပေးသော ဝတ္ထု ဥစ္စာဆုံးစေ။

တတန်မှာ။လင်ရှိမယား။ငလင်ကိုငါမပြောဆို၍။ကာမဂုဏ်ကိုလို၍ပေး ၏။ထိုမယားသည် လင်ကိုမပြော။သူတပါးပြော၍လင်ကစွဲသော်။ ပေးသော ဝတ္ထုဥစ္စာကိုပေးသူမရရာ။မယားခိုးအပြစ်မလွတ်သာချေ။

တတန်မှာလည်း။ချင်းလင်းကိုချင်းပြော၍လင်ကစွဲသော်။ပေးသောဥစ္စာ ကိုအရင်းအတိုင်းပြန်စေ။မယားခိုးအပြစ်မလွတ်သာချေ။

တတန်မှာလည်း။ငလင်ကိုငါမပြောဆို၍ပေးလေ၏။ကာမဂုဏ်လည်းရ ၏။ပေးသောဥစ္စာကို။လင်မယားအညီသုံးစားပြီးမှ။ မိမိလင်ကိုပြော၍ လင် ကစွဲသော်။ မယားခိုးအပြစ်လည်းလွတ်စေ။ ပေးသောဥစ္စာကိုလည်း နှစ်ဆ တက်ပြန်၍ပေးစေ။

အတတ်ပညာကိုလို၍ပေးခြင်း၌လေးပါးတည်း။ ထိုလေးပါးတို့တွင်။အ တတ်သည်။နှုတ်အတတ်။ လက်အတတ်ဟူ၍ နှစ်ပါးရှိသတည်း။ ထိုနှစ်ပါး တို့တွင်တပါးပါးကိုသင်ပါ။ ဆရာသို့ဥစ္စာပေး၍ယူလေ၏။ ဆရာသင်ပါပေ လျက်။မိမိပညာအစွမ်းသတ္တိနည်း၍။သုံးနှစ်သင်ရာမတတ်က။ပေးသောဥစ္စာ

"I am poor, the thing was mine, it is now in your hands, you ought to give it (me,)" he shall not receive it. Why is this?—because there is a promise.

In another case of gift; if a thing is given to a person for life only, at his death let the giver, if he is alive, receive it back; if he is dead, let his children or grand-children receive it. If the receiver, during his life time shall wish to pledge the thing given, he shall only do so to the original owner, (the giver.) He shall not pledge it to any other person, on the ground that it is his for life, nor shall his descendants have any right to inherit it; let only the descendants of the original owner receive it. If it be not sold or pledged, but all used or eaten, or if the thing given be an animal, and die, or be lost, the receiver has a right to consume or lose it.

The gift from lust is divided into five kinds, which are these: 1st, a gift given to any person, except one past childbearing, or an infant under age, for the temporary enjoyment of that person, without any promise or mutual wish or intention of becoming man and wife. In this case, if sexual intercourse takes place, the gift shall be lost to the giver; if connection has not been had, let it be returned. 2nd, A person knowing that a woman has a husband, makes her a present with the view of having connection with her. In this case, though connection be not had, the giver is not free from the crime of seduction; let him not recover his gift. 3rd, In another case; if a person makes a present to a man's wife with the view of having connection with her, she having promised not to tell her husband, and without her telling, the husband, on the information of another party, prosecutes the giver, the gift shall not be restored to the giver; he is not free from the crime of seduction of a wife. 4th, In another case; if the wife tells her husband, and he sues (the giver of the present,) let the gift be returned, but (the giver) shall not be free of the crime of seduction of a wife. 5th, In another case; if the woman has said, "I will not tell my husband," and (the man) gives her the gift and has connection with her, and after the husband and wife have expended the thing given, she tells her husband, and he sues (the giver,) let him be free from the crime of seduction of a wife, and let (the woman) return double the amount of the gift.

As regards gifts made from a desire of being taught some learning, art, or science, there are four kinds; 1st, there are two kinds of learning, that of the hand, and that of the mouth. If a person makes a gift to a teacher to instruct him in either of these branches, and he is taught, but from want of intellect he fails to acquire in three years what was

ကိုမရရာ။ချင်းကြမ္မာဝိပါက်သာတည်း။ ။ဆရာကသင်ပါပေလျှက်။ သုံးနှစ်ပတ်လုံးအတတ်ကိုမစွမ်ဆောင်လေ။ ဖင့်၍နေသောကြောင့် ပြောက်သည်ကိုမတတ်တကားဟုတောင်းသော်။တဝက်ပြန်၍ပေးစေ။ တပည့်ခံသူသင်ခြင်းပါလျှက်။ဆရာမသင်။သုံးနှစ်ပတ်လုံးစေစား၍ နေချေသော်။ ဝတ္ထုရင်းတိုင်းပြန်၍ပေးစေ။ သုံးနှစ်လုပ်ခွန်ကိုလည်း ဆရာကပေးစေ။ ဆရာကလည်းသင်။တပည့်လည်းတတ်သည်ညီပေက။ ပေးသောဝတ္ထုကိုမရရာပြီ။ ဆရာကလဥ်းငါသင်၍တတ်သည်တကားဟု။ဂုဏ်တွက်ကိုပေးကောင်းသဉ်တောင်းခြင်းငှါမထိုက်။ တပည့်ကဆရာကျေးဇူးကြောင့် တတ်ပေသည်ဟု။ ပူဇော်ခြင်းငှါပေးလျှင်ပေးသူယူသူနှစ်ယောက်အမြတ်တည်း။

မိုက်၍ပေးခြင်းကား နှစ်ပါးတည်း။နှစ်ပါးဟူသည်ကား။ ရှုံးသင့်သည်။ နိုင်သင့်သည်ကိုမသိ။ သူတပါးလှည့်ဖျား၍ဆိုရာပေးခြင်းဖြစ်က။ မဆုံးသာချေ။ ဥစ္စာရင်းတိုင်းကိုရစေ။အဘယ်ကြောင့်နည်းဟူမူကား။လှည့်ဖျား၍ယူချေသောကြောင့်တည်း။ ။သို့ကားမဟုတ်တုံ။သူတပါးလှည့်ဖျား၍မဆိုသည်ကိုမပေးတန်။မသိ၍ပေးမိသည်မှာ။တဝက်ဆုံးစေ။ ဤကားအအုပ်အထိန်းရှိသူတို့သိ၍ဆိုရာဌှစီရင်ရသောအကြောင်းတည်း။ အအုပ်အထိန်းမရှိ။လုကပ္ပနားအထီးကျန်ဖြစ်က။ထိုပေးသမျှဝတ္ထုကို။မြို့ကွပ်အကြီးအအုပ်တို့က။ထိုသူမိုက်တို့ဥစ္စာကိုတောင်း၍အလုံးယူစေပြီးလျှင်ကျွေးမွေးစေ။

ကြောက်၍ပေးခြင်းကား။အရှင်ဇကေရာဇ်မင်းမိဖုရားဥပရာဇာတို့ဖြစ်က မရသာ။သူတပါးဖြစ်ကအကြောက်ပြေလျှင်ရစေ။ ထိုမှတပါး။အရှင်ဇကေရာဇ်မင်းမိဖုရားဥပရာဇာတို့မဟုတ်စေကာ။တိုင်းနိုင်ငံကိုပုံဂံသောင်းကြမ်း၍ချီသွားတိုက်လံချ။စစ်မြေပြင်အရပ်ဌှကြောက်၍ပေးခြင်းမှာ။အကြောက်ပြေ၍တောင်းသော်လည်းမရရာပြီဟု။ဗြဟ္မာမင်း၏ သားရင်းဖြစ်သော။ မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

ပေးခြင်းခုနှစ်ပါးဟူသည်ကား။အဝေးဌှရှိသောသက်ရှိသက်မဲ့ဥစ္စာကိုသူတပါးအားပေးခြင်းတပါး။ မယားကိုသုအား ပေးခြင်းတပါး။ သို့်းကိုသုအားပေးခြင်းတပါး။မယားမသိသည်ကိုလင်ပေးခြင်းတပါး။လင်မသိသည်ကိုမယားပေးခြင်းတပါး။မိဘမသိသည်ကိုသားသို့်းတို့ပေးခြင်းတပါး။သားသို့်းတို့မသိသည်ကိုမိဘတို့ပေးခြင်းတပါး။ပေါင်းခုနှစ်ပါးတည်း။

ထိုခုနှစ်ပါးတို့တွင်။အဝေးဌှရှိသောသက်ရှိသက်မဲ့ဥစ္စာကိုသူတပါးအားပေးလေ၏။ပေးသည်အတိုင်းလက်သို့ရောက်သော်ရစေ။ ပေးသည်ကိုမယူမိ

atempted to be taught him, he shall not recover back the thing given; it is the consequence of his own bad fortune, resulting from deeds done in a former state of existence. 2nd; If the teacher does teach him, and for the whole three years he does not exert himself to acquire (what is taught him,) but is idle and forgetful, if he demand back what he gave, saying, "I have not learned," let one half be returned to him. 3rd; If the scholar or apprentice is anxious to learn, and the teacher does not teach him, but for the whole three years employs him (as a servant,) let him restore the value of the original gift, and let him pay him also three years wages. 4th; If the teacher teaches, and the scholar or apprentice learns, with equal diligence, the thing given shall not be obtained back, and the teacher ought not to ask for further remuneration on the score of having taught him; but if the learner, reflecting that by the teacher's favor he has acquired what he wished to learn, shall make him an offering as his superior, it displays excellence both in the giver and receiver.

As regards gifts from folly, they are two; 1st, A person makes a gift, without knowing whether he will gain or lose by it, being deceived by another; in this case, he shall recover his gift. Why is this?—because it was got from him by deceit. 2nd; If it be not thus, but the giver, though he does not say that he has been deceived, shall have made the gift, not knowing any better, let him lose the half. This is the decision that shall be given when the guardian (of the giver) comes to know the facts, and prosecutes (the receiver.) If there be no guardian, and it be a poor person left alone in the world, let the head of the village or town recover all that was given by the fool, and support him.

As regards gifts from fear; if the gift be made to the monarch, the queen, or the heir apparent, it shall not be recovered; from any other person, when the fear is over, let it be recovered. Besides this, though the gift be not made to the king, queen, or heir apparent, if the kingdom is in a state of rebellion, and a force is marched against the rebels, and a gift is made from fear in the district to be attacked, if the gift be demanded back when the fear is over, it shall not be recovered. Thus the son of the king of Byahmas, the recluse Menoo, said.

As regards the seven kinds of gifts; 1st, Giving things which are at a distance, animate or inanimate; 2nd, A man giving his wife to another; 3rd, Giving a daughter to another; 4th, The husband making a gift without the knowledge of his wife; 5th, The wife making a gift without the knowledge of the husband; 6th, The children making a gift without the knowledge of their parents; 7th, Parents making a gift without the knowledge of their children. These are the seven.

Of these seven, a person gives something at a distance, animate or inanimate, to another; if the gift comes to hand as given, let (the person to whom it was given) have it. But if the giver, before the

၍။ဥစ္စာရှင်သိမ်းယူနှင့်လေသော်။ ငေကိုချစ်လက်စွဲပေးသည်တကားဟုမဆို သင့်ချေ။ ဥစ္စာရှင်ဖြစ်၍ ယူသည်အတိုင်းရစေ။ သို့ကားမဟုတ်။ နှစ်ပါးစုံအ တူရောက်၍ သိမ်းကြလျှင်။ တဝေါက်တဝက်ယူကြစေ။ အဘယ်ကြောင့် နည်းဟူမူကား။ဂတိမျှဂတိပျက်ဖြစ်ကြချေသောကြောင့်တည်း။

မယားကိုသူတပါးအားပေးသည်မှာ။ထိုမယားကိုယူသူကား မရောက် သော်။မရောက်သော်လည်းသို့ပေးသောလင်ရင်းက ယူပြန်လိုလျှင်။မယား၏ ကိုယ်ဖိုးကိုပေးမှရစေ။ထိုမယားသည်။ ငေကိုသူအားပေးလေပြီးသည်။ လင် ရင်းနှင့်မနေပြီ။ယူသူနှင့်နေမည်ဆိုလျှင်နေပိုင်စေ။ ငေမယားရင်းဖြစ်သည်မ ဆိုသာချေ။ အဘယ်ကြောင့်နည်းဟူမူကား။ သူတပါးအား ပေးချေပြီ ဖြစ် သောကြောင့်တည်း။

သွီးကိုသူအားပေးလေ၏။ထိုသွီးကိုမိဘရင်းတို့ကရလိုသည်ဆို ပြန်လျှင်။ အပေးခံသူကားမ။မရောက်သေးသော်။ ထိုသွီး၏ကိုယ်ဖိုး တဝက်ပေးမှ။ သွီး ကိုမိဖတို့ရစေ။ထိုသွီးကိုအပေးခံသူကာမရောက်ချေသော်။ ကိုယ်ဖိုးကိုအလုံး ပေးမှ။သွီးကိုမိဖတို့ကရစေ။

လင်မယားပိုင်သည်ဥစ္စာကို မယားမသိ။ လင်သည် သူတပါးအားပေး သော်။အိမ်ထောင်ဖက်။မယားငယ်အသိမ်းအပြောင်မဟုတ်က။ပေးသည်အ တိုင်းယူသူရစေ။မယားကနှစ်ပါးစုံပိုင်သည်ဥစ္စာဖြစ်သည်။ငါမသိမဆိုသာ ချေ။ အဘယ်ကြောင့်နည်းဟူမူကား။ မယားသခင်လင်ဖြစ်ချေသောကြောင့် တည်း။ထိုသို့ကားမဟုတ်တုံ။ မယားငယ်အသိမ်းအပြောင်ပြုလို၍မယားမ သိလင်ပေးသည်ဥစ္စာမှာ။မယားမသိသည်မှန်လျှင်။ပေးသည်ဥစ္စာကိုတဝက် မယားအားပြန်ပေးစေ။ တဝက်မှာလင်ပိုင်စုဖြစ်သည်။ မယားပါရင်းဥစ္စာ ဖြစ်လျှင်အမှုမျိုးကိုပင်မပေးပိုင်ချေ။ထိုဥစ္စာကိုမယားအလုံးရစေ။ အဘယ် ကြောင့်နည်းဟူမူကား။ မယားပါရင်းဥစ္စာဆိုးကောင်း။တင်မြှိကိုမယားက သာခံဆပ်ရချေသောကြောင့်တည်း။ ။သို့ကားမဟုတ်တုံ။လင်ကပါရင်း ဥစ္စာဖြစ်က။လင်ပေးလျှင်ပေးသည်အတိုင်းရစေ။ မယားဖြစ်သူက။ ငါမသိမ ဆိုသာချေ။ အဘယ်ကြောင့်နည်းဟူမူကား။ လင်ကပါရင်းဥစ္စာဆိုးကောင်း တင်မြှိကိုလင်သာခံဆပ်ရချေသောကြောင့်တည်း။

လင်မသိ။မယားသူတပါးအားပေးသည်မှာ။ မျောက်မ။မဟုတ်ဖြစ်စေ။ လင်မသိကမပေးပိုင်ချေ။လင်ကယူလျှင်ရစေ။ဤကားအညီပိုင်ဥစ္စာကိုသာဆို သတည်း။ ။တနည်းတုံ။အိမ်ထောင်ကြီးချင်းဖြစ်၍။မယားကပါဥစ္စာ ကိုလင်မသိ။မျောက်မမဟုတ်။သူတပါးအားပေးသည်ပေးပိုင်စေ။လင်မယူရ

၁၈ ဓါးစွဲလှံစွဲကျိုင်းစွဲတရား။

ဤသည်လျှင် နဝမတွဲတွင် ပါသော သားဖွားစကား။ အစ အတွင်းသား စကား။အဆုံးစကားစည်ကိုဆိုသတည်း။

၁ ကိုယ်ဝန်ရှိမိမ္မ။သုအိမ်ခြံဝင်အိပ်သောတရား။

မြတ်သောမင်းကြီး။အကြွင်သူတို့တွင်။ သားသမီးမြေးမြစ်ပေါက်ဖော်တို့ သည်။ပဋိသန္ဓေ။ ကိုယ်ဝန်နှင့်။ ဘေးဘိုးမိဘပေါက်ဖော်တို့အိမ်၌။ အိပ်မိ လေ၏။အပြစ်မရှိ။ထိုတဲနေအိပ်မိရာသို့လာ၍ဖွားမြင်စေ။ရက်လည်လျှင်အိမ် ရှင်သို့အဝတ်စုံပေးစေ။ အဝတ်မုံဟူသည်ကား။ ထဘီတဘက်သိုးရင်းကိုဟူ သတည်း။အိမ်ရှင်ကလည်း။ကင်ပွန်းရေစင်ပေးစေဟူသတည်း။ ။ကင် ပွန်းဟူသည်ကား။ထမင်း။စားပွဲအစုံတစ်။ရေစင်အိုးဘုံးနှင့်တစ်။သက်ကယ် ခုနှစ်။ဆီ။နံနွင်း။ ကသယ်တို့ဖြင့်။ သူငယ်နှင့်အမိကို။ သုံးသတ်ခြင်းသည်။ ကင်ပွန်းဟူသတည်း။ထိုသို့ပြု၍။သွားစေရာ၏။ထိုတွင် ဖွားသောသူငယ်သေ သော်လည်းကောင်း။သူငယ်အမိသေသော်လည်းကောင်း။အပြစ်အခြားမရှိ။ အထက်နည်းဖြစ်စေဟူသတည်း။ ။ကျွဲ၌ခြံ၌ဖြစ်လည်းနည်းတူတည်း။ ၎င်အိပ်ဖူးသူတို့လာ၍။ မဖွားမမြင်။အခြားမှာဖွားမြင်သော်။ကင်ပွန်းရေစင် အိမ်ရှင်တို့အားပြုလာစေ။ထိုသို့မပြုဖြစ်သော်။ငွေသုံးကျပ်ကင်ပွန်းရေစင်အ တွက်။အိမ်ရှင်သို့ပေးစေ။အိမ်ရှင်မယူမှကင်းလွတ်စေ။

မင်းကြီး။အမျိုးခြား။သူစိမ်းတို့နည်းတူအိပ်မိလျှင်။အိပ်မိရာ၌ဖွားစေ။ မသေသော်။ဆိုခဲ့ပြီးသည်အတိုင်း။ ကင်ပွန်းရေစင်အဝတ်စုံနှင့်။ရွှေတမတ်။ အမျိုးခြား။သူစိမ်းတို့ကပေးစေ။သေသော်လည်းအပြစ်မရှိ။ အဘယ်ကြောင့် နည်းဟူမူကား။အသိအမြင်တဲနေသောကြောင့်တည်း။ သန္ဓေပါမှန်းမသိ၍။ အိပ်နေစေသည်မဆိုသာ။အိပ်နေတဲတော့ခွင့်ပေး၍အိပ်နေသည်။ သန္ဓေပါ။ သန္ဓေမပါ။မသိမဆိုသာ။အလိုက်သိစွာဖွားလာရမည်။ မဖွားမလာသော်။ အိမ်ရှင်အပြစ်မဟုတ်။ကိုယ်ဝန်ရှင်၏အပြစ်တည်း။အပြစ်ဟူသည်ကား။ချင်း ၌ဥပါတ်ရောက်ရာသည်ကိုဆိုသတည်း။

မင်းကြီး။အကြွင်သူစိမ်းတို့သည်။အိမ်ရှင်ခြံရှင်။ကျွဲရှင်တို့က။တဲနေအိပ် တော့ခွင့်မပေး။ထိုဆိုခဲ့ပြီးသည်၌။တဲနေအိပ်၍ရှိရာဖွားသော်။ကင်ပွန်း။ ရေ စင်။အဝတ်စုံ။ထမင်းပွဲ အစုံနှင့်။ထိုအိမ်ရှင်တို့အားဖွားသူက။ ပူဇော်ပါမည်

18. The law regarding the bearers of the royal sword, lance, or kyaing, (a sort of umbrella with the rim turned up.)

These are the contents of the ninth volume, commencing with bearing a child, and ending with the office bearers of the royal palace.

1st. *The law when a pregnant woman shall go and sleep within the house, or the fence surrounding the house, of another person.*

Oh excellent king! if a pregnant woman shall go and sleep in the house of her grand parents, parents, or other relations, she shall not be held in fault, let her come to the place she had temporarily slept at and there give birth to her child, and after a week has passed let her give the owner of the house a full suit of clothes, namely, a woman's cloth, scarf and jacket; and let the owner of the house give her the pure waters of friendship, namely, one meal of rice, meat and condiments complete; one chattee of clear water with a cover; seven stems of the grass used for thatching; oil, turmeric and (hair) powder, as they are used by the mother and child;—this is called kenboon, ("friendship;") having done what is here laid down, she may be allowed to depart; if in parturition under these circumstances either the child or mother should die, there is no other fine, let the above be complied with. If the birth take place in the granary, or within the fence of the grounds, the rule is the same. If a person who has thus slept in the house (of a relative) shall not return and be confined there, but be confined elsewhere, let her come and make an offering of the pure waters of friendship to the owner of the house; or if she cannot do this, let her give three tickals of silver in lieu of them; if the owner of the house decline accepting it, she is free.

Oh king! if (a pregnant woman) shall in the same way sleep in the house of a person not related to her, let her come and give birth to her child where she happened to sleep; if she do not die, let them mutually as above give the suit of clothes and pure waters of friendship, and the woman give one quarter tickal of gold to the owner of the house, and if she die there is no fine. Why is this?—because her living there was publicly known; (the owner of the house) shall not plead that (she) permitted her to sleep there not knowing that she was with child, (nor shall the woman) say ("she gave me leave to sleep there and I did so; (I) did not know whether I was with child or not;" she shall come and bear her child there; if she do not come, it is no fault of the owner of the house, but the fault of the woman pregnant, and the penalty is this, that a woman so doing is apt to have illness come upon her.

Oh king! if any pregnant woman, not a relative of the owner of a house, granary or enclosure, shall without leave take up her abode in any of the above places and there give birth to a child, if she promise to make an offering of the pure waters of friendship, a full suit of clothes, and a meal of rice, stew and condiments, to the owner of the

ဆို၍။စိတ်တူလျှင်ပူဇော်ခံ၍ပြေကြစေ။ ထို့နှင့်မပြေသော်။ဖွားသူတို့၏အမျိုး
အလိုက်။ထိုသူငယ်မွေးစတန်ဖိုးသုံးစုစု၍။တစုဖွားသူက။ထမင်းစားပွဲဝတ်
စုံနှင့်။ကင်ပွန်း။ရေစင်ပေးပူဇော်စေ။ဖွားစသူငယ်တို့သေသော်။အိမ်ရှင်အိမ်
ပြစ်ကြီးလျှင်။ကြီးပြစ်သင့်ရာလျှော်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ အ
မှတ်မဲ့။တဲခိုအိပ်နေဖွား၍။ သေချေသော့ကြောင့်တည်း။ ။ဤကားမိဘ
အမျိုးသားချင်းရှိသူတို့ဖြစ်ကပဟူသတည်း။ အမျိုးသားချင်းမရှိလျှင်။ သေသူ
အမိကိုယ်တခုဆုံးစေ။သူကျွန်ဖြစ်လျှင်။သခင်ကထိုကျွန်ကိုတဝက်ဖိုးနှင့်ရွေး
စေ။ ထိုကျွန်သည်။ထိုအိမ်ယာ၌သေချေသော်။ သခင်ကအိမ်ရှင်အားတဝက်
ဖိုးပေးစေ။

## ၂ သူကျွန်ကိုရွေး၍။သမက်ခြွေးမပြုသောတရား။

မြတ်သောမင်းကြီး။သူတပါးကျွန်ကိုရွေး၍။သမက်ခြွေးမပြုပြီးမှ။ကျွန်
ဆိုသောစကားမှာ။လင်နှင့်မယားဖြစ်၍စိတ်ဆိုးမနိပါဟုတ်တိုင်းဆိုမိသော်
လည်းအပြစ်မရှိ။ ယောက္ခမတို့က။ မှန်တိုင်းနင့်ကိုကျွန်အရာကရွေး၍။ သွီး
သားနှင့်ပေးစားသည်။ကျွန်သမက်။ ကျွန်ခြွေးမဖြစ်သည်ဆိုချေသော်။ မဆို
အပ်။ သိလျက်ရွေး၍။ခြွေးမသမက်အရာရောက်လေပြီးသည်။အကြင်သား
သွီးကျေးကျွန်တို့ကို။ ရဟန်းသာမဏေပြုပြီးမှ။မထိမဲ့မြင်ပြုခြင်း၌။ပစ္စုပ္ပါန်
သံသရာအကျိုးနှစ်ပါးမဖွင့်ရာ။ သား။ သွီး။ ကျေးကျွန်ဖြစ်သည်။ ဆိုသူ
ဝစီကံထိုက်သည်။ တတန်မှာလည်း။ ဆေးဟာသ်ားပတားစသည်ကို။ကျော်
နင်းပြု၍။ ၎င်ဆေးနှင့်ရေးသော။အမိ။အဖ။အရှင်သူကြီးဆရာရဟန်းသင်္ဃာ
အရိယာတို့အရုပ်ကို။ နှုတ်လက်တို့ဖြင့်လည်းကောင်း။မထိမဲ့မြင်။မရိုမသေ
မပြုအပ်ချေ။ ပြုချေသော်။ ပစ္စုပ္ပါန်သံသရာအပြစ်မလွတ်သကဲ့သို့။ ရွေး၍
ခြွေးမ။ သမက်ပြုပြီးမှ။ ကျိုးရုတ်ရှက်ကွဲဆိုခြင်းသည်။သားစည်မြေးဆက်။
သူတပါးကြားသိ၍။ကျွန်မျိုးအယုတ်။သန္တာနအနွယ်ဖြစ်သည်။မရိုမသေဆို

place, and if the owner accept this, let the matter be at rest by the owner of the place receiving the offering. But if the matter be not thus settled, according to the class of the person who has given birth to the child, let one third of the proper price of the child just born, the pure waters of friendship, a full meal of rice, &c. and a full suit of clothes, be given by her to the owner of the place; if the child die, let (the mother,) according as she may have been in the house, or the granary, make compensation in the proper amount. Why is this?—because it died whilst she was there, and gave birth to it without leave. This is said (when the woman) has friends and relations; if she have no relations, let the mother of the dead child forfeit her person, (that is, become slave to the owner of the place!) If she be the slave of another person, let her master redeem her at half her price, and if such a slave die in the above named places, let the master pay to the owner of the place half her value.

*2d. The law when a person has redeemed a slave and made him or her a son or daughter-in-law.*

Oh excellent king! the law when a person, after having redeemed a slave and made him or her their son or daughter-in-law, shall call him or her "slave," is this: if the husband or wife of the redeemed slave being in a passion shall say so, as it is really true, there is no fault; but if the father or mother-in-law shall reproach him or her, saying, "you are redeemed from slavery and given in marriage to my son or my daughter, you are a slave son-in-law or a slave daughter-in-law," it is improper; they redeemed such a person knowingly, and made him or her their son or daughter-in-law (of their own free will.) As when a son, daughter, or slave has been made Rahan or Thamanay, in case of behaving with disrespect to them, it will be disadvantageous to the interest (of the person so behaving,) both in this life and those to follow. If the person shall say (such a Rahan or Thamanay) is my son, my daughter, or my slave, such speech is reckoned Wazeekan,* or as one may step over or tread on vermilion or other paint without fault; but afterwards when it is taken to paint the figure of parents, or elders, teachers, priests, or Areeyahs, it is improper to do any thing disrespectful towards it; if any thing be done, the doer will not escape punishment in this life and hereafter. If after making a slave a daughter or son-in-law, a person uses language to lower or put them to shame, other people hearing this may say to their children and grand-children that they are descendants of a slave, sprung from an hereditary slave, and use such disrespectful language; if such language be used after having redeemed them, and

* There are three kinds of Kan, viz: 1st. Kayah kan; 2d. Wazee kan; 3d. Manau kan, used in Burmese metaphysics to express the influences as it were of good or evil on one's future destiny; Kaya kan is a good or bad action; Wazee kan, a good or bad expression; Manau kan, a good or bad thought; the context determines in which sense it is to be used.

ရာပြုရာချေသည်။ချင်းရွေး၍သူကောင်းဖြစ်လေသည်ကိုဆိုမိ၍။သမက်ခြွေးမတို့က။ အရေးပြုလျှင်။ရွေးသူယောက္ခမက။အကျအရှုံးအထူးကိုခံစေ။နှောင်သည်ကဲ့သို့မဆိုနှင့်။ မြစ်တားရမည်။ ဤကားသန္တကက ကျွန်ဖြစ်သော သူကိုတည်း။ အမျိုးမှိဆင်းရဲသူကျွန်ဖြစ်ရာ။ ရွေး၍သမက်ခြွေးမဖြစ်ပြီးမှ။ နည်းတူယောက္ခမတို့ဆိုလျှင်။ဆိုပိုင်စေ။ခြွေးမသမက်တို့အရေးပြုခြင်းငှါမထိုက်။ ခြွေးမသမက်တို့က။ အကျခံစေ။အဘယ်ကြောင့်နည်းဟူမူကား။ အမျိုးရှိသူကောင်းဖြစ်သည်ကို။ ကျွန်ဆိုသော်လည်း။ မနှမ်ရာသောကြောင့်တည်းဟု။ ရှင်ရသေ့ဆိုတော်မူ၏။

၃ လင်မရှိခိုက်။ မယားသူတပါးနှင့်နေ၍။ သားသ္မီးခုနှစ်ယောက်မွေးမြင်ပြီးမှ။ လင်ဟောင်းတွေ့တရား။

မြတ်သောမင်းကြီး။အကြင်လင်မယားတို့သည်။သတ္တဝန္တရကပ်။ ရောဂန္တရကပ်။ဒုဗ္ဘိက္ခန္တရကပ်။သုံးပါးတွင်။တပါးရောက်၍။အရှင်ကေရာဇ်စစ်မက်ပြု၍ပျက်စီး ပြေးသွားကွဲပြားကြရာတွင်။မယားသည်သူတပါးနှင့်နေ၍။သားသ္မီးခုနှစ်ယောက်မွေးမြင်ပြီးမှ။ ထိုကွဲသောလင်သည်။ထိုမယားကို။ သေရှင်မှန်းမသိ။တ ဆယ်ငါးနှစ်မြောက်ရှာမှတွေ့လေသည်။ နှစ်ယောက်သားမှန်တိုင်းဆို၍။လင်ဟောင်းနှင့်နေပါမည်။အထက်လည်းလင်မည်သူရှိပါသည်။ ပြောဘူးသည်စကားရှိ၍။ဆိုတိုင်းမှန်ပြီးမှ။ငါနှင့်သားသ္မီးခုနှစ်ယောက်မွေးလေပြီ။ငမယားဖြစ်ရမည်။လင်သစ်ဆိုအံ့။မယားက။ လင်ဟောင်းကိုစုံမက်နေမည်ရှိလျှင်။နေပိုင်စေ။မယားခိုး။ မျှောက်မထားမဆိုပိုင်ချေ။ မွေးသောသားသ္မီးနှင့်ကောင်းဥစ္စာကို။လင်သစ်အလုံးရစေ။တင်မြီရှိလျှင်။လင်ဟောင်းကဆပ်စေ။သည်ကဲ့သို့လင်မယားဖြစ်သည်ဆို၍။ လင်ဟောင်းနှင့်ယည်ပါးပြီးမှ။သားသ္မီးခုနှစ်ယောက် အဖရှက်တင်ကာ။မရောက်ပြန်ချေသော်။ မယားခိုးအပြစ်ငွေအကျပ်သုံးဆယ်လျော်စေ။ မယားကိုစစ်၍။ လင်သစ်နှင့်နေပြန်မည်ဆိုလျှင်ကိုယ်ဖိုးလင်ဟောင်းအားပေးစေ။သို့တည်းမဟုတ်။ခုနှစ်ယောက်အဖသည်။ခုနှစ်ယောက်အမိဖြစ်သည်ဟု။ စိတ်မတူ။ ဗလက်ကာရ။ ကာမရောက်ချေသော်။မွေးသည်သားသ္မီးကိုအမိရစေ။ ကောင်းဥစ္စာကို။တဝက်မယားအားပေးစေ။ တဝက်မှာ။လက်ထက်ပွားဖြစ်၍။လင်သစ်ခုနှစ်ယောက်အဖရစေ။မယားခိုးအပြစ်တွင်။ငွေအကျပ်သုံးဆယ်လျော်စေ။ မယားသည်။ လင်ဟောင်းကိုမနေ။ လင်သစ်နှင့်နေမည်ဆိုလျှက်။ လင်ဟောင်းကျူးလွန်ချေသော်။အပြစ်ထွက်သမျှကို။လင်ဟောင်းက။လင်သစ်သို့လျော်စေ။

thus raised them to the station of respectable people, and the son or daughter-in-law make a matter (of law) of it, the redeeming father or mother-in-law shall pay the expenses of the suit, and shall be admonished hereafter not to use such language. This is said of an hereditary slave. If it be a poor person of family who is redeemed from a state of slavery, and made a son or daughter-in-law, and the father or mother-in-law makes use of the same language, let them have the right to say so; the daughter or son-in-law shall have no ground of action; (if they do sue,) let them pay the expenses. Why is this?—because a person of good family is not degraded by being called a slave. This the recluse called Menoo said.

*3d. The law when a woman in the absence of her husband takes another, and after she has borne him seven children, meets the first husband.*

Oh excellent king! if any husband and wife lose all their property by robbers, pestilence, famine, or in the time of war made by a king, and are obliged to run away and are separated, if the wife take another husband and bear him seven children, and the husband from whom she was separated, not knowing whether she be dead or alive, and having sought her for fifteen years shall at last find her, and they shall both agree (that they are husband and wife,) and she say she will return to her old husband, having previous to this declared that she had another husband; although the new husband say she shall continue with me, she has borne me seven children; if the woman prefer the old husband, let her have the right to return to him; but he shall have no right to sue the new husband for the seduction of his wife, nor accuse his wife of adultery; let the second husband have the children and all the property; and if there be any debts, let the old husband pay them; and after they have thus come together again as man and wife, and the old husband has had connection with her, if the father of the seven children shall have connection with her, let him make compensation in thirty tickals of silver for the crime of seduction of a wife. If in questioning the wife, she say she will live with the new husband, let her pay the price of her body to the old husband; but if it be not thus, if the father of the seven children, on the ground of the woman being the mother of (his) seven children, without her consent shall forcibly have connection with her, let the mother have all the children and half the property, and the other half as being acquired whilst they lived together, let the father of the seven children have; and for the crime of seduction of a wife, let him make compensation in thirty tickals of silver. If the old husband, though the woman refuse to live with him, and say she will live with the new one, shall offer her any violence, let him make compensation to the new husband according to his offence.

တတန်မှာလည်း။ကြွင်နာ၍။တဆယ်ငါးနှစ်မြောက်။ မယားသားမရှိ
မနေ။လိုက်၍ရှာသည်မှာ။မယား၌ကြွင်နာခြင်းရှိလေသည်။ ထိုမယားရင်း
လည်း။လင်သစ်ကိုသာနေမည်။လင်ဟောင်းကိုမနေဆိုသော်။ချက်ကြိုးဖြတ်
ဖြစ်ချေရကား။ ထိုမယားကိုယ်ဖိုးတန်ကိုဖြတ်၍။ သုံးစုစုနှစ်စုလင်ဟောင်း
အားပေးစေ။ ထိုလင်ဟောင်းသည်။အခြားမယားနေပြီးမှဖြစ်လျှင်။ဆိုခဲ့ပြီး
သည်ကိုယ်ဖိုးကိုမရသာ။အရှင်းလွှတ်စေ။ ဤကားချင့်တည်းမယားတပါးရှိ
ချေသော့ကြောင့်တည်းဟုရှင်ရသေ့ဆိုတော်မူ၏။

၄ သမက်ကိုယောက္ခမလက်လွန်သောတရား။

မြတ်သောမင်းကြီး။အကြွင်သူတို့သည်။အဘေးမဆို။ သားသမီးတို့အ
လျောက်။အိမ်ထောင်သင့်နေသော်။ သူတပါးစေ့စပ်၍။သင့်နေသော်။ လင်မ
ယားမှန်သည်တည်း။ထိုလင်မယားအခြင်းများ၍။သတ်ရိုက်ကြရာ။ မယား
အဖယောက္ခမသည်။ အညီဖြင့်တားရကောင်းလျက်။ သမီးကကူ၍။ လက်
ရောက်ထောင်းထုသတ်ရိုက်ချေသော်။ ထိုသူစိမ်းသမက်ကို။ယောက္ခမက။သ
မက်တို့၏အမျိုးအလိုက်။ရွှေ၂၅ကျပ်ဂုဏ်ရွှေ။ ရွှေမှန်မင်းစံရွှေမျိုးသုံးရပ်နှင့်။
အမျိုးကိုထောက်၍သင့်ရာရွှေ၂၅ကျပ်လျော်စေ။

၅ ယောက္ခမကိုသမက်လက်လွန်သောတရား။

မြတ်သောမင်းကြီး။အကြွင်လင်မယားအခြင်းများ၍။သတ်ကြရာ။တရား
သဖြင့်။ယောက္ခမဆီးတားပေသည်ကို။သူစိမ်းသမက်က။ယောက္ခမသို့လက်
ရောက်ဦးဆံဆွဲခြင်း။ ခြေနှင့်ကျောက်ကန်ခြင်းကိုပြုရာတွင်။ သမက်ကို
ယောက္ခမထောင်းသတ်၍ပြုရာ။သမက်အငြိမ်းခံလျှင်အပြစ်ပစေ။အငြိမ်းမခံ။
သမက်ရုံးလွှန့်၍။ယောက္ခမတတောင်သို့။ ကြမ်သို့ကျချေသော်။ထိုယောက္ခမ
၏အမျိုးအလိုက်။ ဂုဏ်ရွှေ။ရွှေမှန်။မင်စံရွှေ။သုံးမျိုးတို့တွင်။ နှစ်ဆယ်ငါးကျပ်
ယောက္ခမသို့။သမက်ကပူဇော်စေ။ ဤကားပင်လယ်ဖားနှင့်ပူဇော်ရန်တည်း။
။ ။မင်းကြီး။ဖားတို့၏အမျိုး။ဖားသင်း။ဖားကြောင်။ ဖားသွယ်။ဖားအိုင်း
ငဖား။ဖားပြုတ်မှစ၍။ ကြည်၌မှီ၍အများရှိသည်။ ပင်လယ်၌ဖားတို့သည်။
သဘော်ဖား။ကျောက်ဆူးဖား၊နဂါးဖား။မိကျောင်းဖား။ ဆင်ဖား။မြင်းဖား။
ပင်လယ်ဖားမှစ၍။ ရေ၌အများရှိသည်။ ဆိုခဲ့ပြီးသမျှဖားတို့၏အဥသည်။မှုံ
ညင်းစေ့။နှမ်စေ့။ မုရောစေ့။ ချင်ရွှေးစေ့။ငုင်ထက်ပဲ။ မူးခွဲကျပ်ရှိသည်အမျိုး
လည်းမှိသည်။စလယ်။ခွက်။ပြည်။စရွတ်။စိတ်။ခွဲ။ တင်းခန့်ရှိသည်။ဖားတို့
သည်။အဥရှိသည်။ပင်လယ်ဖားမျိုးမှာ။အချိန်နှစ်ဆယ်ငါးကျပ်တွင်။အကြီး

In another case; if (the husband) having affection for his wife, shall seek her for fifteen years without taking another wife, and if (when found) the wife shall say she will remain with the new husband, the bond of her affection to him is severed; let her pay him two thirds of the price of her body; if the former husband has taken another wife, he shall have no claim to the above portion of the price of her body, let her be entirely free; this is because he has another wife. Thus the recluse said.

*4th. The law when a father-in-law assaults his son-in-law.*

Oh excellent king! If the children of any persons who are not related, through their great grand-fathers, either of their own inclination, shall come together as man and wife, or be given in marriage by others, they are man and wife; and if this husband and wife quarrel and are fighting together, and the father of the wife who should restrain them equally shall take part with his daughter and beat and cuff (the son-in-law,) he shall pay damages in twenty-five tickals of gong gold, true gold, or mengtsan gold, according to the family of his son-in-law.

*6th. The law when a son-in-law assaults his father-in-law.*

Oh excellent king! if in a quarrel between any man and wife, when they come to blows, the father-in-law shall lawfully and justly interfere to prevent them, and the son-in-law, who is of a family not connected (otherwise) with his, shall lay hold of his front hair, or kick him, and the father shall then strike him, if the son-in-law make no further resistance, let his fault be excused; but if he turn about and in getting out of the way, the elbow of the father-in-law shall come against the floor, let the son-in-law make him an offering according to his class of twenty-five tickals of gong, true, or mengtsan gold. This is what is meant by "the offering of a sea frog." Oh king! of the family of frogs there are the theng, the striped, the tapering, the aing, the fish, and the rough frog; besides these, there are many kinds of frogs that live on the land. Regarding the sea frogs, there is the ship, the anchor, the naga, the alligator, the elephant, the horse, and sea frog; besides, with these, there are many kinds of water frogs; and of the eggs of all the frogs we have mentioned, there are from the size of a seed of mustard, a sesamum seed, a grain of mayau paddy, a kyeng yooay seed, and larger than these of the weight of a pay, a moo, a half tickal, a tickal, there are all these kinds; and there are frogs whose eggs are as large as a tsalay, a kwet, a pyee, a tsaroot, a quarter basket, a half basket, or a basket; amongst the sea frogs, twenty-five tickals is the weight of the

ဆိုးဖြစ်သည်။ ထိုကိုရည်၍။ ကမ္ဘာဦးသူတို့အဆက်ဆက်။ကမ္ဘာဥဒါန်း ထား
သည်အတိုင်း။ ဖားရုပ်သွန်းလုပ်၍။ အချိန်နှစ်ဆယ်ငါးကျပ်ကိုသာဖြစ်စေ
သည်။ ထိုမှအလေးကြီးငယ်ကိုမထား။ဍင်ကသက်၍ရွှေးသို့ရောက်စေသည်။
ဍင်ကတက်၍။ ပိဿာဆယ်ရာ။ ထောင်သောင်းရောက်စေသည်။ ထိုသို့ချိန်
တွယ်ရာ၌။တခန်းကသည်။ တခန်းသို့ကူး၍ချိန်သည်။တခုကသည်။ တခုသို့
ကူးသန်းပြန်လှန်၍ သာသုံးစွဲချိန်တွယ်ကြသည်ကိုအစွဲပြု၍။ ယောက္ခမကို။
သမက်တို့ကျူးလွန်သော်။ပင်လယ်ဖားနှင့်။ အမျိုးအလိုက်ပူဇော်စေဟူသ
တည်း။ ထိုမှတပါး။ ကမ္ဘာအဆက်ဘုရားရှင်တဆူဆူတို့တွင်။ မင်းကောင်း။
မင်းလောင်း။မင်းလျှာတို့သုံးသည်မှာ။ မုံညင်းစေ့မှစ၍။ရွှေး။ပဲ။မူး။မတ်။ ခွဲ။
ကျပ်။ဆယ်။ ပိဿာ။ ထိုထိုမင်းတို့အကြိုက်။ ပရောဟိတ်တို့။ ဗေဒင်နှင့်မှီ၍။
သင့်ရာထားလုပ်သွန်းသောအရုပ်အလေးရှိကြသည်ကို။ မြတ်သောမင်းကြီး။
တရားနှင့်ထောက်၍။ မကောင်းသည်ကိုပယ်ရမည်။ ကောင်းသည်ကိုတည်
စေရမည်။တောင်းတင်းစင်းချိန် ခွင်စသည်ကို။မင်းပြဋ္ဌါန်းရာဖြစ်စေဟု။ ရှင်
ရသေ့မင်းကြီးအားကြားသောစကား။

၆ ဒိဋ်ဌိညွှသည်တည်းရာညွှသည်ဥစ္စာပျောက်တရား။

မြတ်သောမင်းကြီး။ဒိဋ်ဌိညွှသည်တည်းအိပ်ရာ။ အိမ်ရှင်ဥစ္စာမ
ပျောက်။ညွှသည်ဥစ္စာပျောက်သည်စကားမှာ။ညွှသည်တည်းနေ။အိမ်ရှင်
ကပါသမျှဝတ္ထုဆိုးကောင်း။ကြီးငယ်။ရှည်တိုတို့ကိုအိမ်ရှင်အား။မပြမပြော
ပျောက်လေသည်ကိုစွဲသည်မှာ။အိမ်ရှင်အပြစ်လွတ်စေ။ သို့ကားမဟုတ်တုံ။
ထိုအိမ်ရှင်တွင်။ညွှသည်ကပျောက်သည်။ဆိုသည်ဝတ္ထုတွေ့မြင်ရချေလျှင်။
ဥစ္စာမျိုးအလိုက်လျော်စေ။

၇ အိမ်ဌိညွှသည်ဘည်းရာ။အိမ်ရှင်ဥစ္စာပျောက်တရား။

ညွှသည်ဥစ္စာမပျောက်။အိမ်ရှင်ဥစ္စာပျောက်မည်။ထိုညွှသည်သွား
သည်ကာလ။ချင်းတွင်ပါသမျှကို။ မတိုင်မတန်းမပြ။ အိမ်ရှင်မသိ။သွားချေ
သော်။ထိုအိမ်ရှင်တွင်။ထိုနေ့ထိုညည့်ပျောက်သမျှမှန်ရာကို။အခြားလက်သဉ်
မပေါ်သော်။ညွှသည်ကအရင်းတိုင်းလျော်စေ။ ဤကားအပေါ့အပါးအနည်း
ငယ်ဆောင်ရာ။သူတပါးမမြင်တည့်နိုင်ရာရွှေငွေကျောက်သံကိုဟူသတည်း။
တယောက်ထမ်ဖြစ်စေ။အဝတ်ကြီးအထည်ကြီးဖြစ်က။နောင်ပေါ်သောအခါ။
အထက်ဥစ္စာမျိုးအလိုက်လျော်စေ။ဤကားရက်လကြာသည်ကိုဆိုသတည်း။
ယခုဆင်းသွား၍။ယခုမှီရာနေ့ချင်းတွင်ဖြစ်က။ချင်းတို့တွင်။အစည်ကြည့်၍

largest; for this reason, the people at the beginning of the world, according to tradition, in casting (a weight) in the figure of a frog, made it only twenty-five tickals, and in this (figure) they did not make large and small weights; but decreasing from this they came down to the yooay, and ascending from this went up to the viss, ten viss, one hundred viss, one thousand viss, ten thousand viss; and from this (one) in weighing they calculated the others, shifting from one to another weight, (that is, by multiplying or dividing sand, or some other manageable substance, with this twenty-five tickals as the only standard weight.) When the son and father-in-law assault each other, it is said, "let (the offending party) make an offering of one sea frog according to their rank or class." Besides this, in the whole succession of (previous) worlds, in the time of all the gods (in these worlds,) good kings, embryo deities, cast all (the weights) they used in the figure they pleased, and consulting bramin prophets and men versed in calculation, made the various weights, commencing with a grain of mustard seed, yooay, pay, moo, mat, kway, kyot, and piktha, as was proper. Oh excellent king! in accordance with the laws, evil deeds are to be set aside, and good to be established; let large and small baskets and scales (weights and measures,) be established according to the order of the king. Thus the lord recluse made known to the king.

*6th. The law when the property of a visitor, whilst on a visit, is lost.*

Oh excellent king! as regards the case of a visitor or lodger, when the property of the owner of the house is not lost, and the property of the visitor or lodger is, if the visitor have not shown all his property, good and bad, large and small, long and short, to the owner of the house, and if it be lost and he sue the owner of the house, let him be acquitted; but if the property said to be lost by the lodger be seen in the possession of the owner of the house, let him make restitution according to the kind of goods.

*7th. The law when the property of the owner of the house is lost during the stay of a visitor.*

If the property of the lodger be not lost, and that of the owner of the house be, and if the lodger, at the time of leaving the house, did not shew all he had with him, and went without the knowledge of the owner of the house; let the lodger make good all that the owner of the house lost on that day and night, if it be not discovered in the possession of any one else. This is said of light goods of small size that may be carried off without being seen, gold, silver and gems;—if it be a load for a man, cloths or bulky goods, if it be afterwards discovered, let it be made good in the same way as above. This is said when it is long before the discovery is made; if he be caught immediately after leaving the house, or on the same day, and if in

ရှာရာမတွေ့လျှင်။ပျောက်သည်မှန်သမျှဝတ္ထုတွင်။ သုံးစုစု၍တစုကို။ ညွှန်
သည်တို့ပေးလျော်စေ။ဤကား။မတိုင်မတန်းသွားချေသောဝန်။ မလိမ္မာခြင်း
ကြောင့်တည်း။ထိုညွှန်သည်အိမ်တွင်မတဲ။ ဇရပ်။တန်ဆောင်း။ကူ။သစ်ပင်။
မြေပြင်များတွင်တဲနေအိပ်လေ၏။ ရွာသူကြီးတို့ကိုမတိုင်မတန်း။မပြမပြော။
ချင်းတို့ဥစ္စာပျောက်လေသော်လည်း။ အပြစ်မရှိ။ မြို့ကျေးရွာသားတို့ အပြစ်
လွတ်စေ။ ။မတိုင်မတန်းဆို ခဲ့ပြီးသည်အရပ်တွင်အိပ်ချ။သူခိုးလာခဲ့
သည်။ကူညီပါဆိုလျှက်။မကူမညီရွာရှင်ရွာသားတို့နေချေက။ ပျောက်သမျှ
ကို။အမှန်ဥစ္စာရှင်ဆိုဝန့်၍။လက်သည်မပေါ်လျှင်။ မြို့ရွာသားတို့က။အရင်း
တိုင်းပေးစေ။နောက်လက်သည်ပေါ်လျှင်။သူကြီးမြို့ရွာရှင်တို့က။အပြစ်ထွက်
သမျှကိုလျော်နှင့်ရသည်တွင်ယူ၍အတိုင်းစားကြစေ။ ဥစ္စာရှင်ယိုးစွတ်၍။
ထိုမြို့ရွာတွင်။ချင်းဥစ္စာမပျောက်။မှန်ကလည်းစွတ်တိုင်းရွာရှင်တို့သို့ပေးစေ။
ချင်းတို့နှုတ်သီးလျှာအားကိုလည်း။ သိမ်းစေရာ၏ဟု။ ရှင်ရသေ့ဆိုတော်
မူ၏။

၈ ကျွန်လက်ခံတရား။

မြတ်သောမင်းကြီး။အကြင်လူတို့တွင်။သူကျွန်မှန်းကိုသိလျှက်။သခင်သို့
မပြော။ လက်ခံ၍စေစားသော်လည်းကောင်း။ - ကဲ့ဝှက်သော်လည်းကောင်း။
ကျွန်ရှင်စွဲ၍ဆိုတိုင်းမှန်လျှင်။လက်ခံအပြစ်မှာ။ လက်ခံနှင့်သခင်ကစိုက်ထုတ်
လိုက်ရာ။ကုန်သည်စရိတ်ကိုလည်းပေးစေ။ ကျွန်ကိုလည်းအပ်စေ။ ၎င်ကျွန်
ပြေးပြန်သော်။ လက်ခံရင်းသူတာဖြစ်စေ။ သုံးနှစ်အတွင်းဝန်ခံစေ။ ၎င်ပြေး၍
သုံးနှစ်အတွင်းမတွေ့မရသော်။ဝန်ခံသူက။ကျွန်ရင်းအတိုင်း။ ကျွန်လေ။ကျွန်
ပေါ့တန်ရာကိုပေး၍အပြစ်လွတ်စေ။ ထိုကျွန်ကိုနောင်တော်၍တွေ့လျှင်။ ဝန်ခံ
လျော်နှင့်ရသူကပိုင်စေရစေ။ကျွန်ရှင်ရင်းမရသာချေ။ ။သို့ကားမဟုတ်တုံ။
ထိုဝန်ခံသူကဲ့၍ထားသည်။ကျွန်ဆိုတိုင်းမှန်ချေလျှင်။ကျွန်ကိုလည်းသခင်ရင်း
သို့ပေးစေ။ အပြစ်ကျွန်ငါးယောက်။ ဓမ္မသတ်ထွက်အတိုင်း။ငွေအကျပ်ငါး
ဆယ်လည်းလျော်စေ။သုံးနှစ်လည်းဝန်ခံစေ။ ထိုနှစ်အတွင်းပြေးသည်မှန်လျှင်။
ကျွန်ငါးယောက်အဖိုးငွေ ငါးဆယ်လျော်စေ။ သုံးနှစ်လွန်မှပြေးသော်။ကင်း
လွတ်စေ။ ။သုံးနှစ်အတွင်းပြေးသည်မှန်စေကာမူ။ သူတပါးခိုးယူကဲ့
ဝှက်သည်မှန်ကလည်း။ဝန်ခံရင်းကိုမစွဲသာ။လွတ်ကင်းစေ။ ထိုအလျော်အပြစ်
မှာ။မင်းဧကရာဇ်ဆက်စံလျှင်ပစေ။ကျွန်ကိုသာကျွန်ရှင်ရင်းရစေ။ ။ကဲ့
ဝှက်လက်ခံဝန်ခံသူက။သခင်ရင်းသို့အပ်စေ။မအပ်မိသေးသော်။မင်းဆက်စံက
ပစေဟု။ရှင်ရသေ့ဆိုတော်မူ၏။

searching him it be not found, let him return one third of the value of all property proved to have been lost; that is the penalty of his folly for leaving the house without giving notice. If a lodger shall not lodge in the house, but in a common zayat, one with more roofs than one, a cave, natural or artificial, under a tree, or on the plain ground, without giving notice to the thoogyee of the village, if his property be lost, no one is to blame; let the inhabitants of the village be free of fault; if in so sleeping, thieves shall come, and though he call for assistance, the thoogyee and inhabitants of the village give him none, let them make good all his loss that he will swear to if the thief be not discovered; if afterwards the thief be discovered, let the thoogyee and villagers take from him all they had previously made good, for this robbery, and let them divide it amongst them in proportion to their share of the compensation. If the lodger shall make a complaint or accusation as above, and his goods have not been lost in that village, let him forfeit to the thoogyee and villagers the same amount as he has claimed, and let him keep a better guard over his tongue. Thus the lord recluse said.

*8th. The law regarding receiving the slave of another.*

Oh excellent king! if any person knowingly shall, without telling the master, receive his slave and employ him or conceal him, if the master accuse him and his accusation be proved; let him pay the fine for receiving the slave of another, the price of his labour, the expenses of the master following him, and let him make over the slave to the master; and if this slave run away again, let the person who received him before be held responsible; let him be security for three years; and if the slave after having run away is not found or recovered, let the security pay his proper value according to his ability, strength or deligence, as a servant; and if, after this, the slave by chance is found, let him be the property of the person who was his security and has paid his price; the original owner shall not recover him; but if it be not thus, and the person giving security has concealed the slave, if the slave state this and prove it, let the slave be given to his original master, and let (the security) make compensation according to Damathat in five slaves, or fifty tickals of silver, and let him be security for three years; if he (the slave) run within these three years, let the security pay compensation in fifty tickals of silver, the price of five slaves; if he run after the expiration of the three years, let (the security) be held free, even if it be proved that he run within the three years; if it be proved that some other person has stolen or concealed him, the security shall not be sued, let him be free. If a new king has come to the throne, let these fines be all set aside, let the original master only have back his slave, and let the security, the person who concealed him, make him over to the original owner. If he die before he is given over, and a new king has come to the throne, let the matter be at an end. Thus the recluse said.

၉ အရာအထူးရှိသူမယားကို။ကြူးလွန်၍ကျွန်လျော်တရား။

မြတ်သောမင်းကြီး။အရာအထူးရှိသူတို့မယားကို။ ပြစ်မှားကြူးလွန်ရာ ကျွန်တစ်။ဖုင်နှစ်။ဖုင်သုံး။ဖုင်လေး။ဖုင်ငါး။ဖုင်ခြောက်။ဖုင်ခုနှစ်။ဖုင်ရှစ်။ဖုင်ကိုး။ဖုင်တဆယ်ကစ၍။တရာ။နှစ်ရာ။လေးရာတိုင်အောင်။လျော်စေဟူသည် ကား။ကျွန်ကိုမဟူ။ကျွန်တယောက်ကိုယ်ဖိုး။အသေငွေအကျပ်တဆယ်ပြု၍ လျော်စေဟူသတည်း။ထိုကြောင့်လျော်သူတယောက်အဖိုး သေငွေတဆယ်။ ကမ္ဘာအဆက်ဆက်စကားလူသေအဖိုးဟူသတည်း။ ။လူသေကောင် အဖိုးကိုမဟုတ်ဟုပယ်ရမည်။ လူသေကောင်အဖိုးဖြစ်က။ သူယုတ်။သူလတ်။ သူမြတ်လူတွင်အတိုင်းမသိ။အဖိုးထိုက်သူစေတီထိုက်သူ။ရှိသူရှိသဉ်။ဘုရား အစရှိသော။ အရှင်ပစ္စေကဗုဒ္ဓါအရိယာမြတ်တို့ကို။ အဖိုးဆိုခြင်း၄ါ။ သေ သောအလောင်းကို။မဖြတ်နိုင်ဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၀ ငတွင်သေရမည်တဦးကဆိုရာ။အဆိုခံရသူကသတ်သောတရား။

မြတ်သောမင်းကြီး။အကြင်သူတယောက်သည်။သူတယောက်ကို။နင်ငတွင်သေရမည်။ကြုံးဝါး၍စိတ်နှင့်လာရာ။ထိုသူကို။အဆိုခံရသူသတ်၍သေ သော်လည်းအပြစ်မရှိ။ကင်းလွတ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ ဆီး ကြို၍မသတ်က။ ချင်းသေရမည်မှန်သောကြောင့်။သတ်ပိုင်လေသတည်းဟု။ ရှင်ရသေ့ဆိုတော်မူ၏။

၁၁ လွတ်ခြင်းနှစ်ပါး။ရခြင်းနှစ်ပါးတရား။

မြတ်သောမင်းကြီး။လွတ်ခြင်းနှစ်ပါး။ရခြင်းနှစ်ပါးမှာ။ပေးမည်ဆိုတိုင်း ဥစ္စာပေး၍လွတ်ခြင်း။ လူကိုအပ်မည်ဆို၍ အပ်ရာတွင်။ လွတ်ခြင်း နှစ်ပါး တည်း။ ။ရခြင်းနှစ်ပါးမှာလည်း။ဖုင်ကိုရသမျှရခြင်းနှစ်ပါးတည်း။ ထိုသို့လွတ်ပြီး၊ရပြီးမှ။ အမှုမငြိမ်။လွန်ကြူးချော်လျှင်။ လွန်သူမင်းဒါဏ်ခံစေ။ စွတ်တိုင်းဆိုတိုင်းလည်းပေးစေဟု။ရှင်သေ့ဆိုတော်မူ၏၊

၁၂ သူကြွက်။သူဆိတ်။သူဝက်ကိုခိုးတိုက်သောတရား။

မြတ်သောမင်းကြီး။ ကြွက်ဆိတ်ဝက်ဆင်မြင်းကျွဲနွားတို့ကိုခိုး၍။ပွဲမှာ တိုက်ရာ။သခင်တွေ့သော်။ခိုးပြစ်လွတ်စေ။သေ။ကျိုး။ကန်းသော်။ အစားပေး

*9th. The law when slaves shall be given in damages to a man of rank, for having had criminal connection with his wife.*

Oh excellent king! when it is said from one, two, three, four, five, six, seven, eight, nine, or ten slaves, up to one hundred, two hundred, or four hundred, are to be given in compensation for adultery committed with the wife of a man of rank; slaves are not really meant, but the price of one slave is fixed at ten tickals of silver, and according to this the compensation is to be made; for this reason, the price of one man, when ordered to be given in compensation, is fixed at ten tickals of silver. Through the whole succession of worlds this has been the fixed price of a man; but it must not be considered that this is the price of a dead* man. As regards the price of a dead man,—amongst men there are, the degraded, the common, and the excellent; some of inestimable value, some who are worthy of a tsaydee, (that is, having a pagoda raised over them and being worshipped.) The Para, the Pitsega Boodahs, and excellent Areeyahs, the dead bodies of these cannot be estimated. Thus the recluse, called Menoo, said.

*10th. The law when a man shall say, "you shall die by my hand," and the person to whom this is said, shall kill him who said so.*

Oh excellent king! when one man shall say, "thou shalt die by my means," and comes up in a threatening manner and in a passion, if he be killed by the person threatened, there shall be no fault; let (the killer) be held free. Why is this?—because, if he had not anticipated the other, he himself would have died; he had a right to kill him. Thus the recluse said.

*11th. The two laws of release and obtaining.*

Oh excellent king! the two laws of release, and the two laws of obtaining are; when the thing promised is given, (the person making the promise) is released, or where an engagement has been made to produce or hand over a man, when he is given over, (the person who made the engagement is) released. The two laws of obtaining are the same as the above. If after this release and obtaining, the matter be not at rest, but one shall make a further demand; let the person so over-stepping the bounds of what is proper, be punished criminally, and let him give (to the other) whatever he may have charged him with.

*12th. The law when a man is caught setting an animal, which he has stolen, to fight.*

Oh excellent king! if a person has stolen a fowl, goat, pig, elephant, horse, buffalo, or bull, and the owner shall find him in the as-

* This appears to mean the compensation to be paid for causing a man's death.

စေ။ချင်းလောင်းသောဝတ္ထုရှုရသည်ကို။ဥစ္စာရှင်ရင်းကယူစေ။ ၎င်ယူစေဟူသည်ကား။တရွာတမြို့အနီး။နေ့ပေါက်ညည့်ရောက်တွင်ကိုဟူသတည်း။သို့ကားမဟုတ်တုံ။ မြစ်ကူးမြစ်ခြားနှစ်ညည့်သုံးညည့်။ ဆယ်ရက်ခရီးအဝေးက။ဆို ခဲ့ပြီးသည်တိရိစ္ဆာန်တို့ကိုခိုး၍ပွဲသဘင်မှာ။တိုက်မှားတိုက်မူ။သခင်ရင်းတွေ့သော်။တိရိစ္ဆာန်အမျိုးခိုးတက်လျှော်စေဟု။ရှင်ရသေ့ဆိုတော်မူ၏။

၁၃ ကြက်ဝက်ဆိတ်ခြီသို့ဝင်သောတရား။

မြတ်သောမင်းကြီး။အကြွင် ဆိတ်။ဝက်။ကျွဲ။နွား။ဆင်။မြင်း။ကြက်။ဝမ်ပဲ။ခါ။ကြိုးကြာစသည်တို့တွင်။အမိုအမရှိကြသည်။အမရှိရာ။ အမိုသည်ကာမဂုဏ်မှုကြောင့်ရောက်၍။အမရှင်ဖြစ်သော။ သုခြီမြိုးစင်သို့ရောက်မည်အဖြောင့်ပြောက။အမိုရှင်။ချင်းဥစ္စာကိုယူစေ။သွေးခေါ်ယူသည်မဆိုသာ။အဖြစ်လွှတ်စေ။သို့ကားမဟုတ်တုံ။အမရှင်က။လိုသမျှတောင်းယူမည်။ဖျောင်းသွေးခေါ်ချေလျှင်။တခုကိုနှစ်ခုလျှော်စေ။ ။၎င်ကဲ့သို့မတောင်းမမှာ။အလျှောက်လိုက်လာသည်ကို။ထိုအမရှင်တို့။ကဲ့ဌက်၍ထားချေလျှင်။ နှစ်ဆလည်းဟူ၏။ ခိုးတက်တွင်တဝက်လည်းဟူ၏။ လျှော်စေဟု။ ရှင်ရသေ့ဆိုတော်မူ၏။

၁၄ သေရည်တည်ကျွေးတရား။

မြတ်သောမင်းကြီး။အကြွင်သူသည်။သူတယောက်ကိုခေါ်၍။သေရည်တည်ကျွေးသောက်စားစေ၏။သောက်ရာအရပ်ကခေါ်ရာလာသူအိမ်ရောက်ပို့ရချေ၏။မပို့မရောက်လမ်ခရီးတွင်သေသော်။ ခေါ်၍တည်ကျွေးသောသူဝန်မလွှတ်။ သေသူကိုယ်ဖိုးအမျိုးတန်ရာလျှော်စေ။စရိတ်ကိုလည်း။စိုက်ထုတ်သင်းဂြိုဟ်စေ။သားချင်းအဘေးဆုံဖြစ်က။သင်းဂြိုဟ်စရိတ်ကျခံစေ။ဤကားအချက်အရေလှံ့ဓါးဒုတ်ရာမရှိသည်ကိုဟူသတည်း။ ။လှံ့ဓါးဒုတ်ရာနှင့်သေချေသော်။အမျိုးမှာသေခန်းသေနားနှင့်။တင်မြီကိုဆပ်စေ။သူမိမ်းမှာအထက်တကျိတ်သူနှင်းနှင့်ငွေသုံးရာလျှော်စေ။ လက်သည်ပေါ်၍မှန်လျှင်။လက်သည်မှာသုံးရာငွေလျှော်စေ။ ခေါ်၍သောက်စေသည်။ မပို့နေသည်အပြစ်မှာ။ထိုလက်သည်တဝက်ကျခံလျှော်စေ။မြွေခဲ ကျားကိုက် ဆင်နင်း၍သေချေကလည်း။ သေခန်းသေနားသင်းဂြိုဟ်စရိတ်ကို။ မပို့သူကခံစေဟု။ ရှင်ရသေ့ဆိုတော်မူ၏။

sembly, fighting the stolen animal, let there be no fine for the theft. If the animal dies, has a limb broken, or is blinded, let another be given in its stead, and let the owner of the animal take what he may have betted on the match; that is, when the place is not distant, but with which there is daily communication. But if the owner finds the animal fighting in the assembly at a place two, three, or ten days' journey distant, and a river intervening between the two places, let the compensation for theft according to the rules laid down, for the animal stolen, be paid. Thus the recluse called Menoo said.

13*th. The law when fowls, goats, or pigs, go within the fence of another person.*

Oh excellent king! if any male goat, pig, buffalo, bull, elephant, horse, fowl, duck, partridge, cyrus, or other animal, shall enter a fence or fowl-house where a female of the same species is kept, and the owner of the female shall admit that he came there, let the owner take him away; he shall not say the other enticed him; there shall be no fault. But if the owner covetously sets a snare for him, or entices him away, let him make compensation by paying two for one. If he does not so ensnare him, but he comes of his own accord, and he shall conceal or secrete him, double his value is laid down, and one half the compensation as in theft is also laid down (by law.) Let him make compensation (in one of these ways.) Thus the recluse called Menoo said.

14*th. The law regarding giving intoxicating drinks.*

Oh excellent king! if any one has called another, and given him intoxicating drinks, he shall re-conduct him to his house again. If he does not, and he dies by the way, the person who called him shall not be held faultless; let him make compensation in the price of the deceased's body according to his class, and pay also the funeral expenses. If they be brothers, or descended of the same great grandfather, let him pay the funeral expenses. This is said when there are no marks of violence, no sword or spear wound, or marks of a stick on the body. If there be such marks there, and they be of the same family, let (the person giving the drink) pay the funeral expenses and the debts (of the deceased.) If they be not related, let (the giver of the drink) make compensation in ten men or three hundred tickals. If the person who committed the violence be discovered, let him pay the three hundred tickals compensation; and as regards the fault (fine) of having called him, and given him drink without seeing him home, let the person who did the violence bear one half of it. If he dies by the bite of a snake or tiger, or an elephant treading on him, let the person giving the drink and not seeing him home, pay his funeral expenses. Thus the recluse called Menoo said.

၁၅။ ကိုင်ငင်ခြင်းလေးပါးတရား။

မြတ်သောမင်းကြီး။ကိုင်ငင်ခြင်းတရားလေးပါးမှာ။သူခိုးဖြစ်၍ကိုင်ငင်ခြင်း။ ရန်သူဖြစ်၍ကိုင်ငင်ခြင်း။ တခဏအမျက်ထွက်၍ကိုင်ငင်ခြင်း။ ဥစ္စာဘဏ္ဍာရှိ၍ကိုင်ငင်ခြင်းဟုလေးပါးအပြားရှိ၏။ထိုလေးပါးတို့တွင်။သူခိုးဖြစ်၍ကိုင်ရာမှာ။ကိုင်ငင်ပိုင်စေ။ထိန်းသူဖြစ်စေ။လွတ်၍သွားရာ။သူခိုးဖြစ်သည်ဟု။မကိုင်ပိုင်ချေ။ကိုင်ချေသော်။ကိုင်ပြစ်အထက်လျော်တန်းထားသည့်အတိုင်းအပြစ်ကို။ချင်းဥစ္စာခိုးရာ။ အပြစ်နှင့်တန်လျှင်ချပျောက်စေ။ အပြစ်တွင်ချ၍များလျှင်။အကျန်ကိုသူခိုးကလျော်စေ။ ချသည့်ဥစ္စာနှင့်။ကိုင်ပြစ်မတန်။ဥစ္စာနည်းသော်။ကိုင်ပြစ်အကျန်ကိုတွက်ချလျော်စေ။ အဘယ်ကြောင့်နည်းဟူမူကား။အထိန်းရှိချေသည်။ ထိန်းသူနှင့်သာ။မလွှတ်သင့်။လွှတ်သင့်ဆိုရမည်အကြောင်းရှိလျက်။လွန်ချေသောကြောင့်တည်း။ ရန်သူဖြစ်သူဖြစ်၍ကိုင်ရာ။အမျက်တခဏထွက်၍ကိုင်ရာမှာ။မကိုင်ပိုင်ချေ။ဦးဆံလက်ခြေရောက်သည့်အတိုင်း။သွားကျိုး။အရေစုတ်။ လုံထုလုပ္ပတ်ရှိချေသမျှတွင်။ အထက်လက်ရောက်တခန်းက။မှာချက်အတိုင်းလျော်စေ။ဥစ္စာရှိ၍။ ကိုင်ငင်ရာမှာလည်း။အရပ်ဒေသကာလအပိုင်းအခြား။ အပြစ်သင့်မသင့်ကို။မြီတရားက။မှာ၍ရှိသည်အတိုင်းဖြစ်စေ။

ထို့မှတပါး။ကိုင်ခြင်းတွင်ခုနှစ်ပါးရှိသည်။ တပည့်ကိုဆရာ။သားသမီးကိုအမိအဖ။ ကျွန်ကိုသခင်။ မြေးကိုဘိုးဘွား။ အကြီးအအုပ်တို့ငယ်သားကို။အစ်ကိုယ်ကညီကို။အစ်မကညီမကို။ကိုင်ငင်ကြူးလွန်လေအံ့။အပြစ်မရှိ။ ဆိုခဲ့ပြီးသည်ငယ်သူအောက်သားတို့က။ ဆရာမိဘသခင်ဘိုးဘွားအအုပ်အစ်ကိုယ်တို့ကို။ကိုင်ခြင်းတူသော်လည်း။ငယ်သူတို့ကရှုံးစေ။ပူဇော်စေ။၎င်းတွင်နှုတ်အရည်တူဆိုမိသော်လည်း၎င်နည်းတူ။ငယ်သူတို့က။အကြီးအအုပ်တို့အားပူဇော်စေ။အကြွင်သူသည်။နှစ်ဦးသားရည်တူဆဲရေးခြင်းတူကြလျက်။တဦးသားအရေးပြုသော်။ထိုအရေးလိုသူရှုံးစေ။ တရားဒါဏ်ကိုလည်းခံစေ။တဦးအကျကိုလည်းပြန်စေ။

တနည်းတုံ။နှစ်ဦးသားစကားအခွန်းတူကြမည်။ထိုသို့တူရာ။ တဦးကမိဘကိုထိမည်။ တဦးကမယားသားသမီးကိုထိမည်။ မိဘကိုထိ၍ ဆိုသူတရားရှုံးစေ။

တနည်းတုံ။မိဘပေါက်ဖော်မယားသားသမီးနှင့်။အမျိုးကိုဖော်ထုတ်၍ဆိုကြရာ၌။စကားလုံးမျှစေကာမူ။ ကျွန်ရိုးကျွန်စည်ဆိုမည်။ဆိုခြင်းတူမည်ဆို

*15th. The four cases of laying hold of a person roughly.*

Oh excellent king! as regards the four laws of laying roughly hold of a person : 1st, laying hold of a thief; 2nd, laying hold of an enemy; 3rd, laying hold of a person for an instant in a passion; 4th, laying hold of one hiring goods or property (of the person laying hold;) these are the four. Amongst these, a person shall have the right to lay hold of a thief. If the person who has charge of these matters, (the judge or Thoogyee) release him, he shall not have a right to seize him on his release, as a thief; if any one does so, he shall be liable to the fine for laying hold as before laid down; and if it equal the amount of his property stolen, let him lose it; if it exceeds it, let the thief make compensation in the (balance) difference. If the property stolen be not equal in amount to the fine, let (the person so laying hold of the thief a second time) pay the difference. Why is this?—because it rests only with the person who has charge of these matters, to decide as to the propriety of his release, and he has assumed a power which he does not possess. In case of seizing an enemy, or laying hold of a person for an instant in a moment of passion, no one has a right to do so. If the hair be laid hold of, or a kick inflicted, a tooth knocked out, the skin abraded, or the person be bruised, let the fine be levied as laid down in the chapter on assault. In case of apprehending a person who is in debt (to the person apprehending him,) having considered the place, and the time, let it be decided whether he is in fault or not by what has been laid down in the chapter on arrest for debt.

Besides these, there are seven kinds of laying hold of a person, which shall not be considered a fault: 1st, a teacher laying hold of his scholar; 2nd, parents, of their children; 3rd, a master, of his slave; 4th, a grand-father or mother, of their grand-child; 5th, a head man, of those under him; 6th, an elder brother, of a younger; 7th, an elder sister, of a younger. If both the individuals of any of these seven classes now mentioned, shall mutually lay hold of each other, the inferior shall be held in fault; let him make an offering. And if the same persons mutually and equally use abusive language to each other, in the same way let the inferior make an offering to the superior. If any two people shall use abusive language towards each other, and be equally in fault, and one shall sue the other, let him lose his suit, and bear the costs, and let him repay the other any expenses which the suit may have entailed on him.

In another case; if the words of both shall be the same, except that one shall introduce the name of the other's parents, and he, the wife and children of the first, let the person introducing the name of the parents lose the cause.

In another case; if after having equally vilified each others' parents, relations, wives, sons, daughters and class, each shall call the other

ပိုင်စေ။ သို့ဆိုကြရာတွင်။တဦးကကျွန်ုပ်ရိုးဆို၍။တဦးကဘုရားကျွန်၊ကျောင်း
ကျွန်ဆို၍။အရေးရောက်သော်။ဆိုတိုင်းမှန်ကဆိုပိုင်စေ။ မှန်အောင်မဆိုနိုင်
က။ဆိုတိုင်းအပြစ်ကိုခံစေ။စိတ်မန်ကြောင့်ဆိုပေသည်။မဟုတ်ပေဆိုလျှင်၊ဆို
ရကောင်းမည်လော။ အရေးလိုသူရှုံးစေ။ စကားလုံးကြီးငယ်ဆိုကြရာတွင်။
အခွန်းများသူရှုံးစေဟူ။ရှင်ရသေ့ဆိုတော်မူ၏။

### ၁၆ ကမ္ဘာလေးရပ်အခြင်းစီရင်တရား။

မြတ်သောမင်းကြီး။ကမ္ဘာလေးရပ်အခြင်းအရာစီရင်စကားမှာ။ ရေအချိန်
တကျပ်စီအညီငုံစေ၍၊ မီးအညီထွန်းစေသည်။မီးပြိုင်တပါး။ ရေပြိုင်စကား
မှာမူ။မြစ်အင်းအိုင်ထုံမှာ။ချင်းတို့ကိုရေလားစေသည်။ရေပြိုင်တပါး။ ဆံအ
ချိန်တကျပ်စီအညီဝါးစေသည်တပါး။ ခဲနှစ်စေသည်တပါး။ ထိုလေးပါးတို့
တွင်မီးပြိုင်မှာ။ထွန်းမီးအလျှင်သေသူကိုရှုံးစေ။ထွန်းမီးမသေမပြိမ်းမှီရေသီး
သော်ရှုံးစေ။မီးသေရည်တူ၍ရေထွေးစေရာချိန်သည်တွင်။ရေချိန်လျော့နည်း
သူရှုံးစေ။ရေပြိုင်မှာ၊ ရေမှအလျှင်ပေါ်သူရှုံးစေ။ ဆံဝါးမှာ။အချိန်တကျပ်စီ
ဝါးစေ၍။နာရီမနစ်မှီတဦးဆံကုန်၍။တဦးဆံမကုန်လျှင်။ ဆံမကုန်သူရှုံးစေ။
ကုန်ချင်းတူလျှင်။အခံ့ရှိရာရေငုံ၍ထွေးစေ။ ထိုသို့ထွေးစေရာရေနောက်သူရှုံး
စေ။ ရေကြည်သူနိုင်စေ။ ခဲနှစ်သည်မှာခဲလောင်သူရှုံးစေ။ မလောင်မစွဲရှင်း
ကင်းသူနိုင်စေဟူ၍ရှင်ရသေ့ဆိုတော်မူ၏။

### ၁၇ ခိုးမျိုးခုနှစ်ပါး။ရေချစီရင်တရား။

မြတ်သောမင်းကြီး။ခိုးမျိုးခုနှစ်ပါးတွင်။သွေးလေကြောင့်ဖြစ်သောခိုး
တပါး။ ဆေးနှင့်ဖြစ်သောခိုးနှစ်ပါး။ မိရိုးဖလာအစည်နတ်နေ၍ဖြစ်သောခိုး
မျိုးလေးပါးဟူ။ခုနှစ်ပါးရှိ၏။ထိုခုနှစ်ပါးတို့တွင်။မှော်ဝင်။ကဝေ။ မြောက်အ
လွန်တည်း။၎င်အောက်နှစ်ပါးဓါတ်ခိုးတည်း။ ၎င်အောက်အိမ်တလိမ်ခေါင်
ပြန်တည်း။၎င်အောက်ဖော်ဂနီတည်း။၎င်အောက်သားခိုးတည်း။၎င်အောက်
ခြေခိုးတည်း။ ၎င်အောက်လက်တောက်ခိုးတည်း။ ထိုခိုးမျိုးတို့တွင်။အသား
ခြေ လက်တောက်သောခိုးသည်။ မိမိတို့အိမ်ယာ ပန်းပွင့် ပေါက်ပေါက်ကို
တောက်စားသောခိုးတည်း။ ။၎င်းခိုးတို့တွင်။ခြေခိုးလက်ခိုးမှာ။ဆေး

an hereditary irredeemable slave, let them have a right to do so; but if in abusing each other, the one shall call the other an hereditary slave, and the other shall retort by calling him a slave of the pagoda or of a kyoung, and the case be brought before the judge, if they prove what they have said to be true, let them have a right to use the above language; but if they cannot prove what they have said, let them be punished according to the abuse they have uttered. (If one admit) that he made use of the language in a passion, and that it is not true, and after this is prosecuted, let the plaintiff be non-suited; if the indignity conveyed by the words of both be the same, let him, who has used the most, lose the suit. Thus the lord recluse said.

16*th. The law regarding decision by ordeal.*

Oh excellent king! the decisions by ordeal are as follows: 1st, each of the parties are made to take one tickal's weight of water in their mouth, and light candles of equal length; this is called the trial by fire: 2d, the trial by water; both parties are made to go under water: 3d, both parties are made to chew one tickal's weight of rice: 4th, both parties to dip into (molten) lead. Of these four, in the trial by fire, let the person whose light first goes out, be the looser; if before the light goes out, one shall cough out the water from his mouth, in consequence of some portion having got into the trachea, let him loose; if the lights go out together, and neither cough out the water, let them spit out the water, and on weighing it, the person whose water weighs least, loses. In the trial by water; let the person who first comes up, lose. In the trial by chewing rice; let each be made to chew one tickal's weight, and if before the cup with which time is measured sinks, the rice of one be all finished, (or swallowed,) and one not, let the one whose rice is not finished, lose; if they be finished together, let them wash out their mouths in a cup, and let him in whose water there is the greatest portion of rice, lose; and let him whose water is the clearest, win. As regards dipping into (molten) lead; let the person who is burned, lose, and he who is not burned, win. Thus the recluse said.

17*th. The law regarding the seven kinds of witches, or wizards, and their trial by water.*

Oh excellent king! as regards the seven kinds of witches, or wizards; there is the witch who is so by reason of his constitution; the two who are so by reason of medicine; the four who are hereditarily so by reason of the Nat of their parents, taking up his abode in the person continually; these are the seven. Of these seven, the witch called hmau-wen, or kaway myouk, is the greatest; next below him is the hneet-padat, the next is ieng-ta-lien or goung-pyan, the next zauga-nee, the next tha-tsong, the next kyay-tsong, and the next let-touk-tsong.

စား၍ဖြစ်သည်။ အသားစုံးမှာ သွေးလေကြောင့်ဖြစ်သည်။သူတပါးအား။မ
ဖန်းစား။ရေချူသော်။ ခုန္နစ်တောင်ရေတွင်ကြိုးအထုံးမကုန်။တထုံးနှစ်ထုံးသုံး
ထုံးကျန်သည်စုံးတည်း။ရွာအရပ်မထွက်စေအပ်။ယိုးသူလည်းယိုးပိုင်သဥ်။
အပြစ်မရှိ။ ရေနစ်ရေပေါ်မဆိုသာ။ စုံးဟုတ်။ စုံးမဟုတ်။ နှစ်ဦးဆိုတိုင်းမှန်
သည်။အညီအမှုမျိုးဖြစ်စေ။ထိုမှတပါး။ ကဝေမှာ။ရေမှာမဝတ်နိုင်။ နှစ်ပါး
စုံးမှာ။အလွန်အားကြိုး၍ဝတ်သော်။ နှစ်ထုံးနှစ်၏။ငါးထုံးကျန်သည်။ ဒိမ်
တလိမ်စုံးမှာနည်းတူ။ဇော်ဂနီမှာလည်းနည်းတူ။ဤလေးပါးမှာ။ မိရိုးဖလာ
နတ်နေဖြစ်သည်။ စကောစား။ခေါစား။ သုအသက်နှင့်စပ်သည်ကိုသတ်စား
ခြင်း။သူကောင်ကိုဖော်စားခြင်းအမျိုးတည်း။ထိုအမျိုးတို့တွင်။သုံးမျိုးစုံးမှာ
မြစ်ကူး။ချောင်းခြားမဖန်းစားနိုင်။အရပ်တရပ်တည်း၌ပင်ဖြစ်သော်လည်း။
ခုန္နစ်ဒိမ်အလွန်သို့မဖန်းစားနိုင်။ အရပ်တပါးသို့ရေပေါ်သော်ထွက်စေရာ
သည်။ကဝေမှာမြစ်တတန်ခြားသော်လည်း။ဖန်းနိုင်ချေသည်ဖြစ်၍။ထိုစုံးကို
မြစ်ကူးချောင်းခြားအတန်တန်ခြားရာရောက်စေမှ။ဝန်ကင်းသတည်း။ ထိုအ
မှုအရာခုန္နစ်ပါးတွင်။ တပါးပါးတတ်သော ယောကျာ်းမိန်းမတို့အား။ စီရင်ရာ
သောထုံး။ ကမ္ဘာဥဒါန်းကိုဆိုသောစကားတည်း။ ထိုတွင်တရားစောင့်သော
မင်းအမတ်သူကြီး။ကာလံသံပျင်း။ရွာအုပ်ခေါင်းတို့သည်။စုံးမျိုးခုန္နစ်ပါးတွင်
ရှေးဆရာတို့ထားသော ရေချူအရိုးအတိုင်း မှန်အောင်ပြု၍။ရေမစီး။ငြိမ်းရာ
သစ်ဝတ်တစုံ။ကျောက်ခေါင်းကမ်စောင်းမရှိချူရာ၏။ စုံးနှင့်စပ်သည်ကိုရေမှ

Of these kinds of wizards, the atha-tsong, kyay-tsong and let-tsong, are those who (at night) eat flowers and parched grain within the enclosure around their own houses, fire issuing from their mouths. Of these, the kyay-tsong and the let-tsong, become wizards by taking certain medicines; the atha-tsong are so constitutionally; they do not bewitch people. If they are thrown into water seven cubits deep, they can sink so as to leave one, two, or three knots of the rope above water.* These are not proper objects to be banished from the village or district, but the person who accused them is not to be held in fault, he had a right to accuse them. It shall not be said that they sank in the water, or that they floated. The statement of both parties, accuser and accused, is true; they are and they are not witches; let them, therefore, bear the expenses equally.

Besides these; the kaway cannot sink in the water, and the hneet-padat, though with great exertion, he can get under the water, he can only sink two knots, (or cubits,) five are left above water; the ieng-ta-lien and the zau-ganee are the same. These four are wizards by reason of the Nat who has been worshipped by the ancestors in succession taking up his abode in their bodies. They eat the food put out for them in the small flat bamboo frames used for winnowing grain, and in little baskets; they bewitch people so as to cause their death, and then eat them; they also dig up the human bodies from the grave and eat them. Of these, (the last) three cannot bewitch a person across a running stream, and even in the same village or district, they cannot bewitch a person seven houses distant. If these float, they must be banished the district. The kaway can bewitch a person even if a stream intervene, so this witch must be banished beyond several streams, to free the village from his influence. In these seven matters, these are truly the traditionary rules from the beginning of the world for trying any man or woman who practices witchcraft. In accordance with them, let the guardians of the law, the king, nobles, thoogyees, and heads of villages, after having arranged all the preliminary steps in strict conformity with the ceremonial prescribed for the trial of the seven kinds of wizards by the ancient teachers, select a piece of still water where there is no current, and in which there are no stumps of trees, rocks, or inequalities, and throw them into it. All matters connected with witchcraft

* The wording of the original does not clearly express the meaning, which is this: the depth of the water is ascertained to be seven cubits, a rope of that length, on which the cubits are marked by knots, is fastened round the wizard's body and he is lowered gradually into the water; after sinking to a certain distance, say four or five cubits, he remains suspended "in equilibrio," neither sinking to the bottom nor floating to the surface; thus leaving two or three knots of the rope out of water.

စင်သည်။ဟူ။ရာ။တမည်းရွယ်တန်စသည်များမှာ။ဒုဟနှစ်သွယ်ရှိသည်။ သူတပါးကိုဖန်း၍ပေါ်ခြင်း။ကိုယ်ရှင်ပင်အစွဲပြု၍ဖော်ခြင်း။ထိုအကြောင်းများမှန်နိုင်ခဲသည်ဟုမှတ်ယူရမည်။ဆိုခဲ့ပြီးသောလေးပါးစုံးတွင်။ မပေါင်းဖော်ဝန့်အောင်ရှိသည်မှန်စေကာမူ။ရတနာသုံးပါးနှင့်မျှိန်း၍မြစ်တားရာ၏။ရတနာသုံးပါးထံ။ ဆောက်တည်၍အကျင့်သွမ်ကိုမပြုပါပြီဝန်ချစေအပ်၏။ ရတနာသုံးပါးကိုထိပ်ထံကျိမ်ရွက်စေ၍။ သမ္မာအယူတည်စေခြင်းသည်။ မင်းကောင်း။ မင်းလောင်းတို့ဆုမ္ဘစီရင်သောထုံး။ မိုဃ်းကောင်းချောင်းစီး။ပြည်တိုင်းကားငြိမ်ရာသောအကြောင်းဟု။ မြဟ္မာမင်း၏ သားရင်းဖြစ်သော မနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၈ ဓါးစွဲလှံစွဲကျိုင်းစွဲတရား။

မြတ်သောမင်းကြီး။ အတွင်းပြင်။မှူးကြီး။မတ်ကြီး။မှူးငယ်။မတ်ငယ်။ဓါးစွဲ။လှံစွဲ။ကျိုင်းစွဲ။ယည်ခံဟုအများမင်းစည်ကမ္ဘာဥဒါန်းရှိသည်။ ထိုတွင်လည်းကောင်း။ တိုအချင်းချင်း။ ခိုက်ပွားရန်စစ်ရှိသော်။ အလျော်အပြစ်မှာဆို၍။ အတန်တန်ကြီးရှိပြီ။ဓါးစွဲမှာနှစ်ရပ်ရှိသည်။ အစုအားဖြစ်သောဓါးလိုက်အမျိုးနှင့် မင်းဧကရာဇ်ယုံ၍ မည်သည်အစုမဆို။ ညည့်နေ့စွဲရသောသူသည်။သက်တော်စောင့်တဦး။ထိုသူကိုရှုတ်လက်လွန်သမျှသည် အမတ်ကြီးတို့လျော်ထုံးရောက်စေ။အဘယ်ကြောင့်နည်းဟူမူကား။ အသက်ကို အစိုးမရ။နီးသောအမှုထမ်ရင်းဖြစ်ချေသော့ကြောင့်တည်း။ ။မျိုးရိုးဓါးစွဲမှာ။ဓမ္မသတ်ထွက်လူသေဖိုးထားသည်။ကျွန်နှင့်လျော်စေရမည်။ ရှုတ်လွန်သော်ကျွန်ခုနှစ်။ လက်လွန်သော်ကျွန်ကိုးယောက်။ငင်တို့မယားကိုပြစ်မှားသော်။ကျွန်တဆယ်ငါးလျော်စေ။၎င်လူတို့၏အမျိုးကား။ဓါးသွားမပေါ်ရ။ မွန်မြတ်သောအိပ်နှင့်။ မွန်မြတ်သောအဝတ်။ မွန်မြတ်သောအပေါင်းနှင့်ထမ်လိုက်ရသောသူ။မင်္ဂလာကြီးဖြစ်သောလူမျိုးတည်း။

are only made clear by the ordeal of water. As regards the doctor's tamee,* yooaytan,† and other things, they are uncertain, and not to be depended on, whether the witch has bewitched another, and the fact is discovered, or the witch or wizard of themselves confess that they are so. The four witches above mentioned, even if people are afraid to associate with them, should be admonished by the three gems, (god, the law, and the priests,) and warned to desist (from these evil practises,) and they should be called on to declare in the presence of these gems that they will observe the (five) moral duties and will renounce their bad habits, and to swear by the three gems that they will, in future, practice good works. This is the way good kings, embryo Boodahs, decide, and if the king passes sentence in like manner, the rains will be abundant, the rivers full, and the country flourishing and quiet. Thus the son of the king of Byahmahs, the recluse called Menoo, said.

18*th. The law regarding the bearers of the (royal) sword, lance, and umbrella, (with the rim turned up.)*

Oh excellent king! that ministers of the interior and of the exterior, lesser lords' and chiefs' sword and lance bearers, umbrella bearers, and litter bearers, have been attached to all kings, is a tradition from the beginning of the world; and where there are quarrels between them, as regards these compensations and fines, it is laid down on the chapter of fines. There are two kinds of sword bearers; the hereditary sword bearers, and a person in whom the monarch places confidence without reference to his class, a person he has about him night and day, the guard over the royal life; in all cases of assault on, or abusive lauguage to, such a person, let the damages be the same as when committed on ministers or lords. Why is this?—because they are not masters of their own life, and are officers about the (king's) person. As regards an hereditary sword bearer, the compensation shall be made as laid down in the Damathat, by the fixed price of a slave; if the offence be abusive language towards them, seven slaves; and if assault, nine slaves; and if their wives be seduced, fifteen slaves shall be the compensation. These people do not carry their swords drawn, but keep them in a handsome scabbard, and are dressed in a fine goung-boung and clothes, and carry (the sword) after (the king); they are respectable people.

* Tamee is a string woven with seven threads, consecrated with certain ceremonies, and in which are made seven knots. This is hung round the neck of the person bewitched, and prevents the witch escaping. The doctor then beats and cuffs the bewitched person, and asks the name of the witch who has possessed her, and what she wants. The witch being unable to escape, and being alarmed, answers by the mouth of the patient. The doctor orders her never to come again, she promises compliance, the tamee is then taken off, and she is allowed to escape.

† The yooay-tan is a small stick, eight or ten inches long, marked all over with cabalistic figures, which the doctor sometimes uses to beat the bewitched person with in the above operation, in preference to his fists.

လှံစွဲမှာ၊အမျိုးအရိုးဖြစ်၍စွဲထမ်းရသည်သူလည်းရှိသည်။သက်တော်စောင့်မည်သူမဆိုရှိသောသူလည်းရှိသည်။ဖင်အစုမှာဓါးစွဲနှင့်နည်းတူတည်း။ ဤကားရွှေလှံရွှေဓါးကိုဆိုသတည်း။သေသော်လက်ပြစ်၏ဆယ်တက်တည်း။

ကျိုင်းစွဲယည်ခံဝေါတော်ထမ်းတို့မှာ။သူတန်းထားရာ။ငွေသုံးဆယ်ကသည်။ သုံးဆတက်နှုတ်လွှန်လက်လွှန်မှာဖြစ်စေ။ဤလည်းငွေတဆယ်လျှင် ကျွန်တယောက်ကိုမှန်း၍ဖြစ်စေ။ သေသော်လည်းကောင်း။လက်လွှန်၏အပြစ်ဆယ်တက်တည်း။အတွင်းသားဟူရာ၌လည်းကောင်း။ ဆိုခဲ့ပြီးသော သက်တော်စောင့်လည်း။ အတွင်းသားအဝင်တည်း။ ထိုမှတပါး။ဇာတိမျိုးရိုးအနွယ်မဖောက်မလှန်မပြန်သောသူကောင်းမျိုးဟုရှိသည်။ မင်းဧကရာဇ်။ညည့်နေ့စံသွားရောက်ရာ။ အဆောင်ကြီးငယ်မှာစောင့်နေစေသူတို့သည်။ ထိုမင်းဧကရာဇ်သားတော်များကဲ့သို့ အဝတ်အစားနှင့်ထားရသည်။ ရွှေဓါးစသည်ကိုချင်းတို့ကိုယ်မကွာ စွဲထိန်း၍ဝင်ထွက်ရသည်။ သူအတွင်းသား အရင်းဟုရှိသည်။ထိုသူတို့ကိုနှုတ်လက်လွှန်ချေရာမှာ။မင်းဧကရာဇ်။မိဖုရား။ဥပ္ပရာဇာတို့ပြင်။မင်းညီမင်းသားတို့နည်း။ အထက်ကျွန်တန်းရှိသည်အတိုင်း အလျော်ဖြစ်စေ။သေသော်ထိုအလျော်၏ဆယ်ဖက်တည်းဟု။ရှင်ရသော့်ဆိုတော်မူ၏။

ဤကားမနုအကျယ်နဝမတွဲတွင်။ အရင်းသားပွားအစ။ အတွင်းသားအဆုံးစကားအရပ်ရပ်ကိုဆိုသည်တရားပြီး၏။

As regards the lance bearers; there are those who are so hereditarily, and people of any class, called the royal life guards; these are to be considered the same as the sword bearers; this is said of the golden lance and sword bearers. If they be killed, the compensation or damages, is ten times what is paid for an assault on them.

As regards the bearer of the umbrella with the up turned rim, and the bearers of the royal litter or palanquin; in case of assault on or abusive language to them, let the compensation to them be three times what it is for ordinary people, and in this case, let one slave be considered equal to ten tickals. If they are killed, let the compensation or damages be ten times the amount for an assault. As regards the interior people, the above life guards are reckoned as such. Besides these, there are the men of good family, who have never been rebels, or failed in their allegiance, who attend and watch over the monarch by day and by night, wherever he may go, and remain in the different ranges of the palace, large and small, who are like the monarch's own children in point of clothes and food; whose weapons, a g lden sword, &c. are always in their hands; these are the most trusted guards of the interior. In case of assault on or abusive language to these men, the punishment shall be the same as for the same crime against the royal family, with the exception of the king, queen, and heir apparent; the compensation as laid down above in slaves, or if they die in consequence, ten times the same amount. Thus the royal recluse said.

This is the end of the ninth volume of the Menoo-kyay, commencing with the birth of a child, and ending with the guards of the interior of the palace.

# ။မနုအကျယ်ဒသမတွဲ။

---

နမောတဿ။ဘဂဝတော၊အရဟတော။သမ္မာသမ္ဗုဒ္ဓဿ။

---

## မာတိကာ။

### မနုအကျယ်ဒသမတွဲတွင်အမွေခန်းစကားအစည်တည်း။

၁ ဥပမာလေးပါး။

၂ အမိသေ၍အဖနှင့်သား၊ဝေရာသောတရားတပါး။

၃ အမိသေ၍အဖနှင့်သမီး။ဝေရာသောတရားတပါး။

၄ အဖသေ၍အမိနှင့်သမီး။ဝေရာသောတရားတပါး။

၅ အဖသေ၍အမိနှင့်သား၊ဝေရာသောတရားတပါး။

၆ အဖမယားငယ်နေ။ နှစ်ပါးစုံသား။မိထွေးနှင့် အဖသေ။ အဖသား နှင့်မိထွေးပေါက်ဖော်တို့ဝေရာသောတရားတပါး။

၇ လင်ကြီးကပါသားနှင့်။မိထွေးတွင်မွေးသည်သားဝေရာသောတရား တပါး။

၈ ဘထွေးနှင့်အထက်သား၊ဝေရာသောတရားတပါး။

၉ သားသုံးဦး။ဝေရာသောတရားတပါး။

၁၀ မယားသေသော်။ဘထွေးနှင့်သားသုံးဦး။ဝေရာသောတရားတပါး။

၁၁ အဖသေ။အမိကိုသားတောင်း၍။လေးစုတစုတွင်ပေါက်ဖော်တို့ကို ဝေရာသောတရားတပါး။

၁၂ အမိသေ။အဖကိုသမီးတောင်း၍။ လေးစုတစုတွင်ပေါက်ဖော်တို့နှင့် ဝေရာ။မဝေရာသောတရားတပါး။

၁၃ ၎င်မိဘနှစ်ပါးသေ၍။သားယောကျ်ားမရှိ။သားမိန်းမသာရှိ၍။ဝေရာ သောတရားတပါး။

၁၄ မိဘနှစ်ပါးသေ။သားယောကျ်ားချည်းရှိ၊ဝေရာသောတရားတပါး။

၁၅ မိဘနှစ်ပါးမသေမီ။သားကြီးသေ၍။သားကြီးသားနှင့်။ ဘထွေးအ ရီးတို့ဝေရာသောတရားတပါး။

# LAWS OF MENOO.

THE TENTH VOLUME OF THE

## GREAT WORK OF MENOO.

*I worship the god who is worthy of all homage, who possesses an intuitive knowledge of good.*

### CONTENTS OF THE TENTH VOLUME.

THE LAW OF INHERITANCE.

၁၆ ၎င်မိဘနှစ်ပါးသေသောနောက်။အမွေမဝေမှီ။ အမွေခံသားသွီးသေ၍။ချွေးမ။သမက်တို့ကိုဝေရာသောတရားတပါး။

၁၇ မိဘနှစ်ပါးသေသောနောက်။သွီးသားသေလျှင်။သေသူသားသွီးတို့ဝေစားရာသောတရားတပါး။

၁၈ မိဘနှစ်ပါး သေသော နောက်။ သား သွီး အသီး နေရာ တွင်။ အမွေမဆက်ဆံရာသောတရားတပါး။

၁၉ အမွေမဆက်ဆံစေနှင့်ဆိုပြီးလျှက်။သေသူဥစ္စာကို မိဘသို့ဆက်ဆံစေခြင်းတရားတပါး။

၂၀ အဖိုးသေသောနောက်။အဖွားလင်ငယ်နေရာတွင်။အဖွားသေ။သားသွီးမရှိ။အဖိုးထွေးနှင့်အဖွားပါရင်းမြေး။ဝေရာသောတရားတပါး။

၂၁ အဖိုးပါမြေးနှင့်။အဖွားထွေးတွင်မွေးသည်သား။ဝေရာသောတရားတပါး။

၂၂ မိဘနှစ်ပါးရှိစည်။ သားကြီး။သွီးကြီးအသီးစား၍အခြားနေရာ၌။မြေ။လယ်ယာ။ဥယည်။ကျေးကျွန်။သက်ရှိ။သက်မဲ့ကိုမိဘမပေးဘဲသီးခြားယူ၍လုပ်ဆောင် သုံးစားသောဥစ္စာ ကိုမိဘနှစ်ပါး မရှိလျှင်။ ပေါက်ဖော်တို့နှင့်ဝေရာ။မဝေရာသောတရားတပါး။

၂၃ သားလပ်။သွီးလပ်။သားငယ်။သွီးငယ်တို့မိဘဥစ္စာကိုသီးခြားယူ၍လုပ်ရာ၌ဝေရာ။မဝေရာသောတရားတပါး။

၂၄ မိဘဥစ္စာကိုသားကြီး။သွီးကြီး။ သားလပ်။သွီးလပ်တို့တလုံးတည်းရှိစည်။အသီးစား။ အခြားနေစည်ယူလုပ်သည်ကို ဝေရာသောတရားတပါး။

၂၅ မွေးခားသော သားနှင့်။ အမိအဖ။ ပေါက်ဖော် သားချင်းတို့ ဝေရာသောတရားတပါး။

၂၆ အကြင်လင်မယားတို့တွင်။သားသွီးရှိလျှက်။ သူတပါး၏သားသွီးကို သားသွီးပြုမည်။သူသိ။သူထင်ယူ၍မွေးကျွေး၏။ မိဘနှစ်ပါးသေလျှက်။ဝေရာ။မဝေရာသောတရားတပါး။

၂၇ အကျော်အစောပြု၍။သူသိ။သူထင်ဖြစ်သောသားသွီးပြုသူနှင့်။မိဘ။ပေါက်ဖော်မဝေရာ။ဝေရာသောတရားတပါး။

၂၈ မိဘတို့နှင့်သားသွီး။ချွေးမ။သမက်အတူနေရာ။လင်ဖြစ်စေ။မယားဖြစ်စေ။သေလျှင်။သမက်။ချွေးမတို့နှင့်။ယောက္ခမဝေရာသောတရားတပါး။

၂၉ မိဘတို့သည်သားသွီးတို့ကိုအသီးအသီး။ခိုင်လုံစေပြီးမှ။တယောက်သားနှင့်။ မိဘ အတူ။ နေစား ရာတွင်။ သား သေ၍။ချွေး မ တွင်သား မ ရှိ။ယောက္ခမချွေးမ။ဝေရာသောတရားတပါး။

16. After the death of the parents, and before the partition of the property, the sons and daughters entitled to share having also died, the law for partition between the sons and daughters-in-law.

17. After the death of the father and mother, if the sons or daughters die, the law of partition as regards the children of the deceased sons and daughters.

18. After the death of the parents, when the property is divided amongst the children, and they are living separately, the law that it shall not ascend.

19. Though it is said the property shall not ascend, the law when it shall do so to the parents.

20. The grand father having died, the grandmotl er takes another husband and dies without issue, the law for the partition of the original property of the grandmother between her grandchildren and the step-grandfather.

21. Partition between the children of the step-grandfather, and the children of a marriage as above.

22. When, during the lifetime of the parents, the eldest son or daughter, without their having been given them by their parents, shall have taken fields, plantations, gardens, silver, slaves, property, animate or inanimate, and established themselves separately, the law as to what portion of such property, then in use by them, shall, on the death of the parents, be divided amongst the relatives.

23. The younger children under the same circumstances.

24. The elder and younger children having taken the property of the parents, live apart from them, the law for the partition of this property.

25. The law for partition of the property between an adopted son and the relatives of the adopting father and mother.

26. If a husband and wife having children of their own, shall publicly and notoriously adopt and bring up the children of another, the law by which such children shall or shall not inherit on the death of the parents.

27. The law of partition between such publicly adopted children and the relations of the parents—what shall, and what shall not be divided.

28. The parents, sons, daughters, sons and daughters-in-law, living together, a husband or wife dies, the law of partition between the son or daughter, son or daughter-in-law, and the father and mother, or father and mother-in-law—what shall, and what shall not be divided.

29. Parents having given their children a sufficiency, one son with whom the parents are living, dies without issue, the law of partition between the parents and widow of deceased.

၃၀ သွီးသမက်တို့သည်။ဒိုးသီးစား၍အိမ်ခြားနေရာကသွီးသည်။မိဘအိမ်ထက်တက်၍သေသော်။သူ၏ဥစ္စာကိုဝေရသောတရားတပါး။

၃၁ မိဘအိမ်၌သွီးသေ၍။ သမက်တပါးမယားငယ်နေရာ။ လိုက်၍ယောက္ခမနှင့်ဝေခြင်းတရားတပါး။

၃၂ သားသွီးတို့ကိုမိဘပေးထိမ်းမြား၍အခြားနေရာတွင်။နှစ်ပါးစုံသေ။သားသွီးတို့၏မိဘနှစ်ပါး။ဝေရသောတရားတပါး။

၃၃ သားကိုသားချင်း။ မြေးကိုမြေးချင်း။ မြစ်ကိုမြစ်ချင်း။ ဝေရသောတရားတပါး။

၃၄ မိဘနှစ်ပါးတို့မိမွ ငါးယောက် မွေးရာ၌ သားတယောက်ဝေခြင်းတရားတပါး။

၃၅ မိဘနှစ်ပါးပေးထိမ်းမြား၍။ ထိုရသောသား မှန်သမျှတွင်ဝတ်ရုံ။စားရုံပေးသောတရားတပါး။

၃၆ မိဘနှစ်ပါးသားသွီးတို့။ ရူး သွပ်ဆွန့်။နားပင်း။ မျက်မမြင်ဖြစ်သော်လည်း။အစုမှန်ရာ။ဝေရသောတရားတပါး။

၃၇ လင်ပုဏ္ဏား။မယားအမျိုးလေးပါးတို့နေရာ၌ လင်သေ၍ဝေရသောတရားနှစ်ပါး။

၃၈ လင်သည်တအိမ်တည်း၌လက်ဆုံစားမယားအများနေ၍။လင်သေသော်ဝေရသောတရားတပါး။

၃၉ သားသွီးတမိ။ တဖတည်းတွင် စေသင့်ရာ။သက်သေဆောင်ခြင်း။အမွေခန်းတရားတပါး။

၄၀ မယားကြီးတစ်။အပြောင်တစ်။ကျွန်မယားတစ်။ဝေရသောတရားတပါး။

၄၁ ရင်မယားသား။ အပြောင်သား။ ကျွန်မသား။ ဝေရသောတရားတပါး။

၄၂ အပြောင်ခြောက်ပါးတို့။ဝေရသောတရားတပါး။

၄၃ ရင်သားခြောက်ယောက်တို့။ဝေရသောတရားတပါး။

၄၄ မယားကြီးသေ။သားသွီးရှိ။လင်သည်ကျွန်မကိုလက်ဆုံစား၍နေရာတွင်လင်သေရာ၌မယားကြီးသား။ကျွန်မသားတို့။ဝေရသောတရားတပါး။

၄၅ လင်သေ။ ကျွန်ကို လင်ပြု၍။ လက်ဆုံ စားနေရာ။ သားမွေးသည်အထက်လင်သား။ကျွန်လင်သား။ဝေရသောတရားတပါး။

၄၆ ရင်လင်က။သားမယားကသွီးပါရာတွင်။မယားသေ။အမိပါသွီးကိုဘထွေးနေရာတွင်။သားသုံးယောက်တို့။ဝေရသောတရားတပါး။

30. A daughter and son-in-law living separate from their parents in a house of their own, the daughter returns to the house of her parents, and there dies, the law for the partition of her property.

31. A daughter dies in the house of her parents; their son-in-law, having taken a second wife, goes to her place of residence—the law for the partition of the property between him and his father-in-law.

32. Parents having given their children in marriage, and established them in a separate residence, where they both die—the law for the partition of their property between the parents of both.

33. The law for the partition of the property between sons separately and only, grandsons separately and only, and great-grandsons separately and only.

34. The law of partition between five daughters and one son.

35. The law for providing all children born in marriage with necessary support, food, and clothing, and no more.

36. The law of partition by which children who are mad, imbecile, stutterers, dumb, deaf, or blind, shall have their full share.

37. A bramin husband having a wife of the four other classes, the law for partition at his death.

38. The law of partition on the death of a husband who had many wives living in the same house, and eating out of the same dish.

39. Children of the same father and mother, who by precedent have a right to inherit.

40. The law of partition between a head wife, a concubine, and a slave wife.

41. The law of partition between the children of the above.

42. The law of partition between the six kinds of concubines.

43. The law of partition between the six children of the same.

44. The law of partition when the head wife dies leaving children, the husband takes a slave to wife, and eats out of the same dish with her, between her children and the head wife's, on the death of the husband.

45. The law of partition when the husband has died, and the widow raised a slave to be her husband, and eats out of the same dish, between the children of the former husband, and the slave husband.

46. The husband having a son, the wife a daughter at marriage, the wife dies, and the husband marries his step-daughter, the law of partition between the three children.

၄၇ ဥင်နည်းတူ။မယားပါသွီးကိုဘထွေးမယားပြု၍သားမွေးမြင်အံ့။ထိုလင်သေသော်။ လင်ပါသား။ အမိတွင်မွေး သည်သား။ သွီးတွင်မွေးသည်သား။သုံးဦးတို့နှင့်။မိထွေး။နှစ်မ။အမိဖြစ်သူတယောက်ပေါင်လေးယောက်တို့။ဝေရာသောတရားတပါး။

၄၈ ဥင်နည်းတူ။နေရာတွင်။သွီးပါအမိ၌သားမရှိ။ အမိပါသွီးကိုနေရာတွင်လည်းသားမရှိ။ အဖသေ။ အဖပါသားနှင့်။ သွီး မိထွေး ဝေရာသောတရားတပါး။

၄၉ ဥင်အမိပါသွီး။ အဖပါသားတို့နှင့်။ အိမ်ထောင်ကြီးခြင်းသင့်နေ၍သားမွေး၏။လင်သေသော်။လင်ကပါသည်သားကို အဖမယားငယ်ဖြစ်သူမိထွေးနှင့်အိမ်ထောင်သင့်နေ၍။ဝေရာသောတရားတပါး။

၅၀ မိဘနှစ်ပါးမလို။ တူပြေးသွားရာ။ မွေးသောသားနှင့်။ နောက်မိဘသဘောတူပြန်၍ နေတော့ခွင့်ပေး၍နေရာတွင်။ မွေးသောသားတို့။ ဝေရာသောတရားတပါး။

၅၁ ပျောင်ပါး၍ကစားမြူးထူးရာတွင်။ မြင်သောသားနှင့်။ သေသူ မိဘပေါက်ဖော်ဝေရာ။မဝေရာသောတရားတပါး။

၅၂ အကြင်ယောကျ်ားမိန်းတို့သည်။ အမှတ်မထင်သွားလာ၍ သန္ဓေစွဲ။လျှော်သောသားနှင့်။မိဘပေါက်ဖော်တို့ဝေရာသောတရားတပါး။

၅၃ အလျှော်စားသောသားသွီးတို့။ မိဘအမွေခံရာ။ မခံရာသောတရားတပါး။

၅၄ မိဘနှစ်ပါးပေးထိန်းမြား၍ သန္ဓေရှိလျှက်ကွာ၍။ နောက်လင်သစ်နေမှမွေးသည်သား။နှစ်ဦးသား။ဝေရာသောတရားတပါး။

၅၅ အထက်သန္ဓေပေးရင်းအဖဖြစ်ဘူးသူတွင် အမွေခံမရှိ၍။ အဖသားချင်းတို့နှင့်ဝေရာသောတရားတပါး။

၅၆ လင်ဆွေ ခြောက်ယောက်။ မယားဆွေခြောက်ယောက်တို့။ ဝေရာသောတရားတပါး။

၅၇ ညီနှင့်အစ်ကိုဝေရာသောတရားတပါး။

၅၈ အစ်ကိုသေ၍။ညီနှင့်အစ်ကိုမယားသားဝေရာသောတရားတပါး။

၅၉ ညီအစ်ကိုအတူနေရာတွင်။ ညီသေ၍။ ညီမယားသားနှင့်။ အစ်ကိုဝေရာသောတရားတပါး။

၆၀ မောင်နှစ်မနှစ်ယောက်။ဝေရာသောတရားတပါး။

၆၁ မောင်နှစ်မသုံးယောက်။ဝေရာသောတရားတပါး။

47. In the same case; the step-daughter has children by her step-father, the partition on his death between the son of the husband by his first marriage, the son by the mother, the son by the daughter, and she who is step-mother, sister, and mother, in all, four persons.

48. Under the same circumstances, neither mother nor daughter having issue, the law of partition between the son of the father by his first marriage, and his step-mother, on the death of the father.

49. In the same way, the father of a son and mother of a daughter marrying and having a family, the father dies, his son by the former marriage marries his step-mother—the law of partition between them.

50. A couple marry without the consent of their parents, elope and have a child, after which, obtaining their parents' consent, they return and have children—the law of partition between these children.

51. The law of partition between a child begotten without marriage, in youthful wantonness, and the relations of its parents, on the parents' death.

52. A man and woman having secret intercourse, the woman is got with child, the law of inheritance as regards this child, for whom a fine has been paid, and the relations of its parents.

53. The law as to what portion of its parents' property such a child, for whom a fine has been paid, shall or shall not inherit.

54. A woman having been given in marriage by her parents, separates from her husband whilst with child by him, and takes another, the law of partition between the children of both fathers.

55. In case the father of the first child shall have no direct heirs, the law by which he shall share with his brothers and sisters.

56. The law of inheritance as regards the six relations of the husband, and the six of the wife.

57. The law of inheritance as regards a younger and elder brother.

58. The elder brother dying, the law of inheritance as regards his wife and children, and the younger brother.

59. If during the residence together of a younger and elder brother, the younger shall die, the law of inheritance as regards his wife and children, and the elder brother.

60. The law of inheritance as regards one brother and one sister.

61. The law of inheritance as regards three brothers and sisters.

၆၂ ပေါက်ဖော်တဦးသေ၍။တဦးကုမသင်းဂြိုဟ်သည်။ သေသူအမွေကို မသင်းဂြိုဟ်သူပေါက်ဖော်တို့နှင့်ဝေရာ။မဝေရာသောတရားတပါး။

၆၃ သူစိမ်းနာဖျားသောအခါ။ ကုမ၍သေလျှင်။ သင်းဂြိုဟ်သည်မိဘ ပေါက်ဖော်တို့နှင့်။သင်းဂြိုဟ်သူတို့ဝေရာသောတရားတပါး။

၆၄ နှစ်ဦးကျွန် နှစ်ယောက်သေဥစ္စာကို။ သခင်တယောက်တည်းရရာ သောတရားတပါး။

၆၅ နှစ်ဦးကျွန်နှစ်ယောက်သေဥစ္စာကိုသခင်နှစ်ပါး။ဝေရာသောတရား တပါး။

၆၆ မယားတယောက်နေသေ။သားသွီးရှိ။ငင်တယောက်နေသေ။သား သွီးရှိ။ ငင်တယောက်နေသေ။ သားသွီးရှိ။ အဖသေလျှင်။ သားသုံးယောက် ဝေရာသောတရားတပါး။

၆၇ လင်တယောက်နေသေ။သားသွီးရှိ။ငင်တယောက်နေသေ။သားသွီး ရှိ။ငင်တယောက်နေသေ။သားသွီးရှိ။အမိသေ သားသုံးယောက်ဝေရာသော တရားတပါး။

၆၈ ဆရာသေ၍။ တပည့်နှင့် ဆရာ မယားသား။ ဝေရာသော တရား တပါး။

၆၉ တပည့်သေ။တပည့်မယားသားတို့နှင့်။ဆရာဝေရာ။မဝေရာသော တရားတပါး။

၇၀ ဆရာတပည့်မယားသားမရှိသေ၍။မိဘပေါက်ဖော်တို့ဝေရာသော တရားတပါး။

၇၁ အမွေခံထိုက်သောသူမစားရ။အမွေမခံထိုက်သောသူစားရရာသော တရားတပါး။

၇၂ တမိတဖတည်းတွင်။သွီးကြီးနှစ်ယောက်။သွီးလပ်နှစ်ယောက်။သွီး ထွေးနှစ်ယောက်။ဝေရာသောတရားတပါး။

၇၃ မိဘနှစ်ပါးမိတ်မတူရာတွင်ရသောသားနှင့်။ ငင်မိဘနှစ်ပါးဝယ် ကျွန်နှင့်ပေးစား၍မွေးသောသား။ဝေရာသောတရားတပါး။

၇၄ ကျွန် ရိုး ယောကျ်ားနှင့်။ မိမ္မ အလွတ် သူနေရာတွင် ရသော။ နှစ် ယောက်ဥစ္စာကိုကျွန်သခင်နှင့်။မယားဝေရာသောတရားတပါး။

၇၅ ကျွန်ရိုးမိမ္မနှင့်။အလွတ်ယောကျ်ားနေရာတွင်ရသော။ နှစ်ယောက် ဥစ္စာကိုကျွန်မိမ္မသခင်နှင့်။လင်ဝေရာသောတရားတပါး။

၇၆ ကျွန်ရိုးအလွတ်သူနှင့်။ယောကျ်ားမိမ္မသခင်အသိသင့်နေ၍။ ဥစ္စာစု ကိုဝေရာ။မဝေရာသောတရားတပါး။

62. A person having died, one relative buries him,—the law of inheritance as regards this relative and the others.

63. A person being sick, one not related to him takes care of, and after his death buries him,—the law of inheritance as regards this person, and the parents and relatives of the deceased.

64. A husband and wife, who are slaves of different masters, dying, the law when one of the masters only shall inherit.

65. The slaves of two masters dying, the law when the masters of both shall inherit.

66. A man marrying three successive wives, and having children by each, the law of partition between the children of each, on the death of the father.

67. A woman having had three successive husbands, and children by each, the law of partition between these children, on her death.

68. The law of partition between the pupil, and the wife and children of a teacher, at his death.

69. The law of partition between the teacher, and the wife and children of a pupil, at his death.

70. The law of partition at the death of a teacher and pupil having no wives or children, between their parents and relatives.

71. The law when a person entitled to inherit, shall not, and those who are not, shall.

72. The law of partition when there are two elder, two middle, and two younger daughters, by the same father and mother.

73. The law of partition between children born to a couple married without the consent of their parents, and children born of a bought slave of the parents, given in marriage by them.

74. An hereditary male slave marries a free woman—the law for the partition of property acquired by both, at the death of the slave, between his wife and his master.

75. An hereditary female slave marries a free man—the law for the partition of property acquired by both, at the death of the woman, between her master and her husband.

76. An hereditary male or female slave marries a free person without the knowledge of the master—the law for the partition or not of their property.

၁၇ ကျွန်ရိုးဖြစ်စေ။ ကြေးဝယ်ကျွန်အမျိုးရှိဖြစ်စေ။ ယောကျ်ားမိန်းမတို့နှင့်အလွတ်သူသင့်နေ၍ဥစ္စာရှိ၏။သခင်မရှိ။အလွတ်သူမိဘရှိကြ၍။ ချင့်တို့ဥစ္စာကိုဝေရာသောတရားတပါး။

၁၈ အမွေခွဲဝေပြီးမှ။မိဘသည်တယောက်မှာနေ။တယောက်မှာသေ၍ဝေရာသောတရားတပါး။

၁၉ ယောက္ခမဥစ္စာကို။ချွေးမသမက်တို့ပြု စု၍ ဖြစ်ပွားသောဥစ္စာကိုဝေရာသောတရားတပါး။

၂၀ သမက်ချွေးမတို့ဥစ္စာနှင့်။ယောက္ခမတို့ပြုစု၍ဖြစ်ပွားသောဥစ္စာကိုဝေရာသောတရားတပါး။

၂၁ လင်မယားကွာရာ။ သားသမီးတို့မိဘနှင့်မနေသေကြရာတွင်။ ဝေစားခြင်းတရားတပါး။

ဤသျှင်မနူအကျယ်ဒသမတွဲတွင်ပါသောတရားပေါင်း။တရာကျော်ကိုဆိုသောစကားစည်တည်း။

၁။ ဥပမာလေးပါး။

ထိုသို့သောအမွေကို။ သား။မြေး။မြစ်တို့သာ ဆင်း၍ ခံသင့် သော ဥပမာတပါး။ ။သားသမီးချင်းတို့တွင်နှစ်ကွဲခံရာသောဥပမာတပါး။ ။တကိုယ်ရည်တွင်။သားသမီးမှန်လျှက်ခံသင့်သည်သား။မခံသင့်သည်သားကို ဆိုသောဥပမာတပါး။ တကိုယ်ရည်၌သားဂုဏ်သားအမွေမခံရာသောဥပမာတပါး။

ဤလေးပါးဥပမာကိုဆိုပေတုံအံ့။ ။ပေပင်နှင့်တူသောအမွေ။ ။ဝါးပင်နှင့်တူသောအမွေ။ ။ငှက်ပျောပင်နှင့်တူသောအမွေ။ ။ကျူပင်နှင့်တူသောအမွေဟူလေးပါးအပြားရှိ၏။

ထိုလေးပါးတို့တွင်။ပေပင်နှင့်တူသောအမွေဟူသည်ကား။ ပေပင်တို့၏သဘောသည်။ အမြစ်။ အကိုင်း။ အခက်။ အရွက်ကိုစိုက်၍မရှင်။ ထိုပေပင်သည်အသက်အတိုင်းနေ၍ပွင့်၏။ သီး၏။ထိုအပွင့်အသီးကုန်လျှင်။ အမိဖြစ်သောပေပင်သေ၏။ ထိုသေပြီးမှ။အသီးတို့သည်။ အသီးအသီးဆက်၍။ ပေ၏အနွယ်ချည်းဖြစ်လေသည်။ထိုပေပင်ရှင်စည်။အခြားအမွေမဖြစ်နိုင်ဘိသကဲ့သို့။အမိအဖသေလျှင်သာ။သားမြေးမြစ်တို့ခံရသည်။

။ဝါးပင်နှင့်တူသောအမွေဟူသည်ကား။ ဝါးပင်တို့၏သဘောသည်။အမြစ်ကလည်းသားမြေးပွား၏။ အပင်အမွေခံ၏။ ထိုဝါး၏ အသက်ကုန်သောအခါသီး၏။အသီးကလည်းအပင်ယောက်ပြန်၏။ ထိုသို့ကွဲပြားသကဲ့သို့။အမိတယောက်တည်းတွင်။လင်ကြီးသား။ လင်ငယ်သား။ အဖတဖတည်းတွင်။

77. A male or female slave, whether born in slavery or bought, marries a free person, and leaves property; the master being dead, and the parents of the free party alive, the law for partition of the property.

78. When parents, after having divided their property amongst their children, have gone to live with one child, but shall die with another, the law for the partition of such property as the parents may still have remaining at their decease.

79. The son or daughter-in-law having taken charge of, and economized, and added to the property of the father-in-law, the law of inheritance as regards the increase.

80. The father-in-law having traded on the capital of the sons or daughters-in-law, the law regarding the partition of the profits.

81. A husband and wife living separate from each other, and also from their children, the law of partition on the death of the parents.

These are the one hundred laws and upwards of the tenth volume of Menoo Kyai.

### 1*st*. *The four comparisons.*

1st. That all kinds of inheritance shall only descend, that is, that children, grandchildren, and great-grandchildren only shall inherit; 2nd, that amongst children of the same father and mother, the inheritance should be divided twice, one comparison; 3rd, that of children of the same parents, some should, some should not inherit, one comparison; 4th, amongst children of the same parents, three who may not inherit, one comparison.

These four comparisons I will now shew; 1st, the inheritance like a palmyra tree; 2d, the inheritance like a bamboo; 3d, the inheritance like a plantain tree; 4th, the inheritance like a reed.

1st. As regards the inheritance like a palmyra tree; it is the nature of this tree not to grow from cuttings or shoots; having lived its time, it flowers and bears fruit; when the fruit has all fallen off, the parent tree dies; after its death, each fruit becomes a tree, and continues the family. Whilst the tree was alive, no other tree could be produced; so only on the death of their parents do descendants inherit.

2d. As regards the inheritance like a bamboo; it is the nature of this tree to have sons and grandsons (shoots) springing up from the roots; these have their inheritance from the tree (during life,) and when the term of its life is run, it bears seed, from which also trees spring. Like this, are the children of one mother by a first and se-

မယားကြီးသား။ မယားငယ်သားတို့။ ဝေစားခြင်း၌။ ဝါးပင်နှင့်တူ၏ဟူလိုသတည်း။

ငှက်ပျောပင်နှင့်တူသောအမွေဟူသည်ကား။ ငှက်ပျောပင်တို့၏သဘောသည်။မိမိအမြစ်ကသာသားမြေးဖြစ်သည်။ အပင်ကထွက်၍သီးပွင့်၏။ထိုအသီးက။ ငှက်ပျောအပင်မဖြစ်သကဲ့သို့။ အမိအဖတဦးတည်း၌။ သားရင်းမှန်လျှက်။အမွေမစားထိုက်သောသားသို့်းနှင့်တူ၏။ စားထိုက်သောသားသို့်းတို့ကား။အမြစ်ကအပင်ဖြစ်သည်နှင့်တူ၏ဟူသတည်း။

ကျူပင်နှင့်တူသောအမွေ ဟူသည်ကား။ ကျူပင်တို့သဘောသည်။ အမြစ်ကသာ။ သားမြေးမြစ်ပွား၏။ အချိန်တန်၍ ပွင့်လျှင်။ ထိုအပင်သည်သေလေ၏။အပွင့်အကျိုးကို။အသီးမခံရသကဲ့သို့။ တမိတဖတဦးတွင်။ အင်္ဂါမညီသောသားသည်ကျူပင်နှင့်တူ၏။အမွေမစားထိုက်။ ။အမြစ်နှင့်တူသောမိဘမကွာနေခြင်း။အင်္ဂါညီသောသားတို့သာ။အမွေကိုခံရသကဲ့သို့ဖြစ်သောကြောင့်။ကျူပင်နှင့်တူသောအမွေဟူသတည်း။ ။ဤသို့ဆိုခဲ့ပြီးသောပမာနှင့်အညီ။အလုံးစုံအမွေရပ်အမိဗ္ဗာယ်ကိုဆိုပေတုံအံ့။

၂ အမိသေ၍အဖနှင့်သား။ဝေရာသောတရားတပါး။

မြတ်သောမင်းကြီး။အမိသေ၍အဖနှင့်သား။ဝေရာသောတရားနှစ်ပါးဟူသည်ကား။ကျွန်ယောကျ်ားတစ်။ကျွဲတရှည်း။နွားလားဥသဘတရှည်း။ဆိပ်ကုလား။ဆိပ်မြွှာနှင့်။ လယ်တပယ်ကိုသားကြီးအားရစေ။ ထိုမှကြွင်းသမျှသက်ရှိသက်မဲ့တို့ကို။အဖနှင့်သားငယ်တို့မှာရစေ။ ။ဆိုခဲ့ပြီးသောအရာတွင်။ ကျွန်မရှိလျှင်။ ကျွန်ယောကျ်ားအဖိုးငွေအကျပ်တဆယ်။ကျွဲအဖိုးငွေငါးကျပ်စီ။နွားအဖိုးငွေနှစ်ကျပ်နှစ်မတ်စီ။ဆိပ်အဖိုးငွေတကျပ်တမတ်စီ။ လယ်အဖိုးငွေ အကျပ်နှစ်ဆယ်။ ပေါင်းငွေ လေးဆယ်ခုနှစ်ကျပ်နှစ်မတ်။ဤသို့ဆိုခြင်းသည်ကား။အထည်အကောင်မရှိလျှင်။ ငွေကိုတွက်၍အဖိုးပေးစေဟူတုံ၏။အဖ၌ပေးရန်မရှိသည်ကို။ပေးစေမဆိုလို။အဖ၌သက်ရှိသက်မဲ့ဥစ္စာကျွန်သုံးယောက်လေးယောက်။ ကျွဲတဆယ်။ နွားတဆယ်။ဆိပ်မှာလည်းနည်းတူ။ လယ်ပယ်နှစ်ဆယ်ငါးရှိလျှင်။ ၎င်မှာရင်းအတိုင်း။သားကြီးရစေ။ ။၎င်တွင်ကျွန်ရှိလျှင်ရစေ။ဆိတ်မရှိကလွတ်စေ။လယ်မရှိကလဉ်းလွတ်စေ။အလုံးစုံမရှိ။ငွေကြေးစပါးအများရှိလျှင်။ ဆိုခဲ့ပြီးသမျှအဖိုးထားရင်းအတိုင်းကိုသားကြီးရစေ။အလုံးစုံမရှိ။လယ်သာရှိ၍။ လယ်ကိုပေးက။လယ်နှင့်ပင်ပြီးစေ။တဖန်တည်းရကောင်းသည်မဆိုသာ။ဤကားအဖမယားငယ်မနေ။အမိသေရာ၌။ဝေရာသောတရားတပါး။

cond husband, and the children of one father by a first and second wife; amongst them the inheritance is like a bamboo.

3d. As regards the inheritance like a plantain tree; it is the nature of the plantain that from its roots only do children and grandchildren spring; besides this, from the flowers fruit springs, but it does not re-produce* the tree. So amongst children of the same parents, some, like the fruit, are not entitled to inherit, and some, like the shoots from the root, are so.

4th. As regards the inheritance like a reed; it is the nature of the reed that from the roots only, at proper seasons, shoots spring; it flowers, and then dies. As from the flowers there is no advantage, so amongst children of the same father and mother, those who are deficient in any of their members, are like the flowers of the reed, and not entitled to inherit; perfect children, who have not deserted their parents, are like the shoots from the root, and they only are entitled to inherit; thus the inheritance is said to be like a reed.

Now in accordance with the comparisons I have given, will I explain the meaning of every thing regarding inheritance.

*2nd. The partition between the father and son, on the death of the mother.*

Oh excellent king! the two modes of partition between the father and son on the death of the mother, are as follows:—Let the eldest son have one male slave, one pair of good buffaloes, one pair of oxen, one foreign and one Burman goat, with one pay† of arable land; with the exception of these things, let the father and younger children have all the property, animate and inanimate. If there be no slaves, the price of one male slave shall be ten tickals of silver; of a buffalo, five tickals; a bullock, two and a half tickals; of a goat, one and a quarter tickals; of the land, twenty tickals. If the father has not any of these things, let him pay his eldest son in money according to the above rate. But if he has no property, it is not contended that he shall give this; only if he has property, animate or inanimate, such as three or four slaves, ten buffaloes, ten oxen, goats in the same proportion, and twenty-five pays of land, let the eldest son receive as was at first said.‡ If there be slaves, let him have one of them; if there be no goats, let them be excepted; no fields, let them be excepted. If there be none of the things, but much silver and grain, let him have all that was at first said, at the prices laid down. If there be nothing but land, he shall have only fields; he shall have no right to claim more. This is the law of inheritance when the father does not marry again.

* The wild plantain is produced from seed.

† One pay is fifteen tahs of seven cubits long by seven do. broad, as laid down in the Thaythaweeza.

‡ If the inheritance falls short of this, it would appear that the eldest son's share would be one fifteenth of the estate, this being the proportion which his share, as above defined, bears to the value of the property here enumerated.

ဧင်အမိသေ၍။ အဖနှင့်သားဝေခြင်းတနည်းဆိုတုံအံ့။ အမိသေနောက်။ အဖမယားငယ်နေလျှင်။အဖမှာစီးဆင်။စီးမြင်း။ဝတ်စားတန်ဆာ ဓါး။ကျပ် ဖလား။ရေကိုင်။ကွမ်ကိုင်တို့ကိုအဖဥ္စထား၍။ အထက်ဆိုခဲ့ပြီးသောစကား အတိုင်းသားကြီးမရှိလျှင်။မရှိလိုက်ပေးရမည်။ အမိဆင်သော ဝတ်စားတန် ဆာ။ မိမွအဝတ်နှင့်စပ်ဆိုင်သမျှကိုသားကြီးရစေ။ ကျန်သောဥစ္စာရပ်မှာ။ လေးစုစု၍။သုံးစုကိုအဖယူစေ။အိမ်ကိုအဖရစေ။ ဧင်သားမကွဲပြားလောက် ၍။အဖမိထွေးသားတချက်တည်းနေသော်။ ဥစ္စာကိုသူသိသူထင်ခြား၍ထိန်း စေ။ ဧင်မိထွေး၌သားမရှိ။အဖသေလျှင်။အထက်ဆုံခွဲဝေသည်ဥစ္စာသက်ရှိ။ သက်မဲ့။ဆင်မြင်းကျွန်အဖဝတ်စားတန်ဆာကိုသားအလုံးရစေ။ထိုမှတပါး။ ကြွင်းသမျှဥစ္စာရပ်ကိုလေးစုစု၍။ တစုမိထွေးယူစေ။မိထွေးပါရင်းဥစ္စာကို။ မခွဲမဝေသာ။အိမ်ကိုအဖိုးပြတ်၍လေးစုစု။တစုမိထွေးရစေ။ သားအိမ်ကိုရ စေ။အဖပါမြီကိုလည်း။ လေးစုစု၍။ တစုကိုမိထွေးဆပ်စေ။ ဤအရာကား။ မိဘနှစ်ပါးဥစ္စာရင်းဖြစ်သောကြောင့်တည်း။

၃ အမိသေ၍အဖနှင့်သို့း။ဝေရာသောတရားတပါး။

မြတ်သောမင်းကြီး။အမိသေ၍အဖနှင့်သို့း။ဝေရာသော တရားနှစ်ပါးဟူ သည်ကား။အဖစားသောဖလား။ကျပ်။ဓား။ ဆင်။မြင်း။ ကျွန်။ ရေကိုင်။ကွမ် ကိုင်။ အဖဝတ်စားတန်ဆာကိုအဖအလုံးယူစေ။ အမိဝတ်စားတန်ဆာဆင် ရင်သမျှအလုံးစုံနှင့်။စားဖိုသဥ်ကျွန်မတစ်ကိုသို့းယူစေ။ထိုမှကြွင်းသမျှဥစ္စာ ရပ်ကိုလေးစုစု၍။တစုကိုသို့းအားယူစေ။ သုံးစုကိုအဖကယူစေ။ ဤသည် ကား။ အဖမယားငယ်မနေ။ ဝေရာသည်ကိုဆိုသောတရား တပါးတည်း။ အဖစားသောက်၍ ကုန်လျှင် ကုန်ပိုင်စေ။ အဖမယားငယ်နေပြီးမှဝေလျှင်။ ဥစ္စာရပ်မှာဆိုခဲ့ပြီးသမျှလေးစုစု၍။တစုသို့း။သုံးစုအဖယူကြစေ။ အမိဝတ် စားတန်ဆာနှင့်။ကျွန်မိမ္မမှာသို့းရစေ။အိမ်ကိုအဖရစေ။ သို့းကိုပေးဝေသည် ဥစ္စာရပ်ကိုသူသိသူထင်ပြု၍။အဖမိထွေးမကွဲမပြားလောက်၍။တအိမ်တဦး နေရာတွင်။အဖသေသော်။ သို့းကိုတည်ပြုတည်စေ။ အဖရစုမှာလေးစုစု၍။ တစုမိထွေး။ သုံးစုသို့းကြီးရစေ။ အိမ်ကိုအဖိုးပြတ်၍။ လေးစုတစုမိထွေးရ ရစေ။အိမ်ကိုသို့းရစေ။ မိထွေးမရသာချေ။ အဘယ်ကြောင့်နည်းဟူမူကား။ မိထွေးမှာလင်သေမယားမျှသာဖြစ်သည်။သို့းမှာနှစ်ပါးစုံအမိဥစ္စာရင်းဖြစ်

In the same case of the mother dying, I will relate another manner of partition. If after the death of the mother, the father marries again, let him take his riding elephant, riding horse, clothes and ornaments, his sword, betel apparatus, and goblet, with the slave who carries his water goglet and betel; and let him give to the eldest son what has been laid down above, according to his means. Let the eldest son also have all that personally belonged to his mother, her clothes, and ornaments; and having divided the remaining goods into four parts, let the father have three parts, and the house. If the son be too young to separate from his parents, but remains with his father and step-mother, let the property be divided before witnesses, and taken care of separately; and if the father dies without issue by the second wife, let the son have all that was first divided, animate and inanimate, viz., elephant, horse, slaves, clothes, and ornaments. The remainder shall be divided into four parts, and let the step-mother have one; let her retain the property she brought with her originally at her marriage; it shall not be divided. Let the house be valued, and the step-mother have one fourth of the value, and the son have the house; let the father's debts also be divided, and the step-mother pay one fourth of them. This is when the property is that of father and mother originally.

*3d. The partition between the father and daughter, on the death of the mother.*

Oh excellent king! the two laws for the partition of the inheritance between the father and daughter on the death of the mother, are these; Let the father have his riding elephant and horse, his goblet, the slave who carries his water and betel, his sword, betel apparatus, clothes, and ornaments. Let the daughter have all her mother's ornaments, clothes, and the slave who cooked her rice; and having divided the residue into four shares, let the daughter have one and the father three; this is when the father does not marry again. If from necessity he use the property for subsistence, let him have a right to do so. If the partition be made after the father has married a second time, let the property as laid down above be divided into four shares; let the daughter have one and the father three; let the daughter have her mother's clothes, ornaments, and female slave; let the father have the house, and let witnesses be called to the daughter's portion; and if she be too young to separate from her father and mother-in-law, and the father dies while she is living with them, let the partition as established be confirmed, and let the father's portion be divided into four shares, and of these let the daughter have three, and the step-mother one; and having valued the house, let the step-mother have one fourth of the price, and let the house go to the daughter; the step-mother ought not to have it, because she is only wife of the deceased; but the daughter ought to have it, inasmuch as the property

သော့ကြောင့်တည်း။အဖအဝတ်အစားမှာ။ထက်ဝက်မိထွေးရစေ။အဘယ်ကြောင့်နည်းဟူမူကား။လင်ဥစ္စာမယားပိုင်ရာသော့ကြောင့်တည်း။ ဤကား မိထွေး၌သားသို့်းမရှိ။ဝေရာသောတရားတည်း။ ။အထက်မြို့ရှိလည်းနည်းတူဆပ်စေ။ မိထွေးဥစ္စာနှင့်။တင်မြီမှာမဝေသာ။ အဖသွိးဝေရာသောတရားနှစ်ပါးတည်း။

၄။ အဖသေ၍အမိနှင့်သွီး။ဝေရာသောတရားတပါး။

မြတ်သောမင်းကြီး။အဖသေ၍အမိနှင့်သွိး။ ဝေရာသောတရားနှစ်ပါးဟူသည်ကား။ ကျွန်မတစ်။ နို့ညှစ်နွားမတစ်။ နို့ညှစ်ဆိတ်မနှစ်။ ကျွဲပေါက်မတရှည်း။ လယ်တပါယ်။ ပြောင်း။လူး။ဆပ်။ မုယော။နှမ်း။ အစုစုရှိသောမျိုးကိုငင်။သွီးကြီးအားရစေ။ ကြွင်းသမျှဥစ္စာသက်ရှိသက်မဲ့ကို။ အမိနှင့်သွီးငယ်တို့ရစေ။ ကျွန်မိမ္မအဖိုးငွေခုနှစ်ကျပ်နှစ်မတ်။ နွားမသားငယ်ပါ။အဖိုးငွေသုံးကျပ်စီ။ ဆိပ်မသားငယ်အဖိုးငွေနှစ်ကျပ်နှစ်မတ်စီ။ ကျွဲပေါက်အဖိုးငွေငါးကျပ်။ ကျွဲမအဖိုးငွေနှစ်ကျပ်နှစ်မတ်။ လယ်တပါယ်အဖိုးငွေနှစ်ဆယ်။ အစုစုမျိုးတို့မှာငွေနှစ်ကျပ် နှစ်မတ် အဖိုးထားခဲ့ပြီးသမျှမရှိ၍။ ရွှေငွေဥစ္စာသာရှိချေလျှင်။ငင်အဖိုးပြတ်ခဲ့သမျှကို။သွီးအကြီးအားပေးစေ။ကျွဲ နွား ဆိပ်အကောင်တဆယ်စီအစေ့မရှိ။ကျွဲအကောင်တဆယ်ရှိမည်။ ရှိသည်တွင်သာဝေစေ။ငင်မရှိသမျှမှာ။ပငြိမ်စေ။ ကျွန်မိမ္မသုံးယောက်လေးယောက်။ ကျွဲနွားဆိပ်တဆယ်စီ။လယ်ပါယ်နှစ်ဆယ်ငါးမှိုသည်ကိုသာဝေစေရမည်။ ဤကားအမိလင်ငယ်မနေသည်ကိုဆိုသတဉ်း။မစားလောက်၍။ အမိရောင်းစားကုန်လျှင်ကုန်ပိုင်စေ။ အမိလင်ငယ်နေ၍ဝေလျှင်။ အဖဝတ်စားတန်ဆာမှန်သမျှကိုလေးစုစု၍။သုံးစုကို အမိနှင့်သွီးငယ်တို့ယူစေ။ တစုကိုသွီးအကြီးအားရစေ။အိမ်ကိုအမိရစေ။သွီးကြီးအားခွဲဝေပေးသောဥစ္စာသက်ရှိသက်မဲ့ကို။သူသိသူထင်မှတ်သား၍ထိန်းသိမ်ရမည်။အမိသေလျှင်။ သွီးကြီးအားခွဲဝေပေးရင်းကိုသွီးကြီးအားရစေ။ အမိပါရင်းမှာ။ လေးစုစု၍တစုကိုဘထွေးရစေ။ သုံးစုသွီးကြီး ပေါက်ဖော်တို့နှင့်ယူစေ။ ဘထွေးပါရင်း ဥစ္စာ တင်မြီကိုမဝေသာ။အိမ်ကိုအဖိုးပြတ်၍။လေးစုစုပြီးလျှင်။ တစုကိုဘထွေးရစေ။ သုံးစုကိုသွီးကြီးရစေ။သွီးသည်မိဘနှစ်ပါးအိမ်ဖြစ်သော့ကြောင့်ဆိုသတည်း။

belonged to both her father and mother. Of the father's clothes, let the step-mother have one half. Why is this?—because the wife owns the husband's property; this is the law when there is no issue by the second marriage. The debts are to be divided and paid as stated above. Neither the debts nor the property of the step-mother are to be divided. These are the two laws regarding the partition of property between a father and daughter.

*4th. The partition between the mother and daughter, on the death of the father.*

Oh excellent king! when a father dies, there are two laws for the partition of the property between the mother and daughter, which are these: Let the daughter have one female slave, two milch cows, two milch goats, one young male and female buffalo, one pay of grain land, and all the seed, vetches, paddy, corn, barley, sat, mayau, and sesamum. Let the mother and younger daughters take all the residue of the property, animate and inanimate. The price of a female slave is seven tickals of silver and a half; a cow and calf, three tickals each; the goat and kid, one and a half tickals each; the male buffalo, five tickals; the female, two and a half; the pay of land, twenty tickals; and all the seed grain, two and a half tickals of silver. If none of the things now mentioned, and of which the price has been fixed, are in possession, if only gold and silver and other property is left, let the price now laid down be paid to the eldest daughter instead. If there be not the full number of ten cows or goats, and there be ten buffaloes, the last only shall be divided; let the others that do not amount to this number be left out of the partition. A division shall only be made when there are three or four female slaves, ten buffaloes, cows, and goats, and twenty-five pays of land; this is when the mother shall not take a second husband. If the mother has consumed the whole for necessary subsistence, let her have the right to do so. If the partition be made after the mother has taken another husband, let all the father's clothes and ornaments be divided into four portions, three of which the mother and younger daughters shall take, and let the fourth be given to the eldest daughter; let the mother have the house. The property, animate and inanimate, given to the eldest daughter, shall be noted before witnesses, and (they) shall take care of it; and if the mother dies, let the eldest daughter have the property above allotted to her. Let the property brought by the mother be divided into four lots; let the step-father have one, and the eldest daughter and relations (brothers and sisters) three. The property brought by the step-father and his debts shall not be divided. The house shall be valued, and the price divided into four parts, of which let the step-father have one, and let the house go to the eldest daughter, because it is the property of her parents.

၅။ အဖသေ၍အမိနှင့်သား။ဝေရာသောတရားတပါး။

မြတ်သောမင်းကြီး။ အဖသေ၏အမိနှင့်သား။ဝေရာသောတရားနှစ်ပါး ဟူသည်ကား။ အဖစီးဆင်။ စီးမြင်း။ ဖလား။ ကြပ်။ဓါး။ ဝတ်စားတန်ဆာ။ ကျွန်။ရေကိုင်။ကွမ်ကိုင်တို့ကိုသားကြီးအားလုံးယူစေ။အမိမှာလည်း အမိအဝတ်အစား။ဖလား။ကြပ်။ဝတ်စားဆင်ယင်သမျှနှင့်။ ကျွန်မိမ္မကိုအမိယူစေပြီးမှ။ကြွင်းသောဥစ္စာကို။လေးစုတစုသားကြီးယူစေ။ သုံးစုကိုအမိနှင့်သွိမ္မငယ်တို့ရစေ။ဤကားအမိလင်ငယ်မနေ။ဝေသောတရားတပါးတည်း။ ။ အမိသုံးစား၍ကုန်လျှင်ကုန်ပိုင်စေ။ အမိလင်ငယ်နေလျှင်။သားအကြီးအားပေးဝေသောသက်ရှိသက်မဲ့ကိုသူသိပြု၍။သိမ်းထားရမည်။မကွဲလောက်၍။အတူနေရာအမိသေလျှင်။အထက်ပေးရင်းတိုင်းကို။သားကြီးအလုံးယူစေပြီးမှ။အမိရစုသုံးစုကို။လေးစုစု၍။ တစုဘထွေးစားစေ။ သုံးစုကိုအထက်သားကြီးစားစေ။ဘထွေးကပါဥစ္စာနှင့်တင်မြီမှာမဝေသာ။အထက်အမိတင်မြီကိုလေးစုတစုဘထွေးဆပ်စေ။ အိမ်ကိုအဖိုးပြတ်၍။လေးစုတစု ဘထွေးရစေ။အဘယ်ကြောင့်နည်းဟူမူကား။မိဘအိမ်ဖြစ်ချေသော့ကြောင့်တည်း။

၆။ အဖမယားငယ်နေ။နှစ်ပါးစုံသား။မိထွေးနှင့်အဖသေ။အဖသားနှင့်မိထွေး ပေါက်ဖော်တို့ဝေရာသောတရားတပါး။

အဖမယားနေ။နှစ်ပါးစုံသားမရှိ။ မိထွေးနှင့်အဖသေ။ အဖသားနှင့်။ မိထွေးပေါက်ဖော်ဝေရာသောတရားတပါးဟူသည်ကား။အဖသက်ရှိ သက်မဲ့။မိထွေးဥစ္စာသက်ရှိသက်မဲ့ကို။ သားအလုံးယူစေ။ မိထွေးအမိအဖတို့သေ၍။ဖင်တို့ဥစ္စာ။ မိထွေးလက်တွင်မခွဲမဝေရှိလျှင်။ မိထွေးလင်သားတဝက်။ ပေါက်ဖော်သို့တဝက်စားစေ။မိထွေးအမွေကိုမှီသော့ကြောင့်တည်း။ တနည်းကား။မိထွေးအလျှင်သေ၍။အဖနောက်သေသော်။ အထက်အမွေမှီ။ မိထွေးဥစ္စာကိုအဖအလုံးပိုင်သည်အတိုင်း။ လက်ရောက်ကစားစေ။ လက်မရောက်က။မိထွေးပေါက်ဖော်တို့မှာ။ဥစ္စာသုံးစုစု၍။နှစ်စုမိထွေးလင်သားရစေ။တစုကိုပေါက်ဖော်တို့ရစေ။ တင်မြီကိုလည်း နည်းတူဆပ်စေ။ ဤကားအမွေမှီသည်ကိုဆိုသတည်း။အမွေမမှီကမတောင်းရဟူ။မနုရှင်ရသော့ ဆိုတော်မူ၏။

*5th. The partition between the mother and sons on the death of the father.*

Oh excellent king! when the father has died, the two laws for the partition of the inheritance between the mother and the sons are these: Let the eldest son have the riding horse, elephant, goblet, betel apparatus, sword, clothes, and ornaments, and of the slaves, the betel carrier and two water carriers; and let the mother have her clothes and ornaments, goblet, betel apparatus, and all the female slaves. Let the residue be divided into four parts, of which let the eldest son have one, and the mother and younger children three. This is the law when the mother does not marry again. If the mother uses the property for necessary subsistence, let her have the right to do so. If the mother takes another husband, the portion of the eldest son, animate and inanimate, shall be noted before witnesses, and taken care of; and if he be too young to separate from his parents, and the mother dies, let him have all that has been apportioned to him above, and having divided the portion of the mother into four parts, let the step-father have one part, and the eldest son three. The original property and the debts of the step-father shall not be divided, but of the mother's original debts let the step-father pay one fourth; having valued the house, let the step-father have one fourth. Why is this? —because it was the house of the son's parents.

*6th. The partition, after the death of a person who has taken a second wife, between her, her children, relations, and the son of the deceased by his first wife.*

Oh excellent king! when a father has no issue by his second wife, and they both die, leaving a son of the father by a former marriage, these are the two laws of partition between this son and the relations of his step-mother: Let him have all the property, animate and inanimate, of his father and step-mother. If her parents have died, and their property undivided is in her hands, let the son of her husband have one half, and her relations the other, because it is the inheritance of his step-mother, and within his reach.* In another case; if the step-mother shall die first, and the father afterwards, let the son have all that portion of the step-mother's inheritance that had been divided, and come into his father's possession, as it belonged to his father. Let that portion which had not come into possession be divided into three shares, and let the son have two, and the relations of the step-mother one, and let them pay the debts in the same proportion; this is when the inheritance is within reach. If he does not obtain any of the property, he shall pay none of the debts. This the sage recluse, lord Menoo, has said.

* That is, he became her son before it was divided.

၇။ လင်ကြီးကပါသားနှင့်။မိထွေးတွင်မွေးသည်သား။ဝေရာသောတရားတပါး။

လင်ကြီးကပါသားနှင့်။ မိထွေးတွင်မွေးသည်သား။ ဝေရာသောတရားနှစ်ပါးဟူသည်ကား။အထက်အဖပါရင်းဥစ္စာကိုအထက်သားယူစေ။မိထွေးပါရင်းကိုလည်းနှစ်ပါးစုံယူစေ။ လက်ထက်ပွားကိုသုံးစုစု၍။နှစ်စုနှစ်ပါးစုံသားယူစေ။ တစုအထက်သားစားစေ။ တင်မြဲရှိလျှင်လည်းနည်းတူဆပ်စေဆိုသည်လည်းတပါးတည်း။ ။တနည်းဝေရန်ကား။အဖပါရင်းရှိ၍။မိထွေးပါရင်းမရှိ။နှစ်ပါးစုံလက်ထက်ပွားမရှိကလည်း။ လေးစုစု၍သုံးစုအဖသားစားစေ။တစုကိုနှစ်ပါးစုံသားစားစေ။အဖကမပါ။မိထွေးကပါလည်း။အထက်သားတစု။အောက်သားသုံးစုစားစေ။ ။တနည်းကား။အထက်ဥစ္စာကိုသုံးစုစု။ အောက်ကသားတစု။ အထက်သားနှစ်စု။ လက်ထက်ပွားမှာ။အောက်သားနှစ်ဆ။အထက်သားတဆစားစေ။ တင်မြဲရှိလည်းနည်းတူဆပ်စေ။

၈။ ဘထွေးနှင့်အထက်သား။ဝေရာသောတရားတပါး။

ဘထွေးနှင့်အထက်သားဝေရာသောတရားခဏ်းကိုဆိုပေတုံအံ့။မယားပါသားနှင့်။ဘထွေးမယားအတူနေရာတွင်။မယားသေသည်။ မယားတွင်ရှိသမျှဥစ္စာကိုလေးစုတစုလင်ရစေ။ နောက်လင်နှင့်နေရာတွင်မှ။မိဘဥစ္စာအမွေကိုရချေအံ့။ ၎င်ဥစ္စာရပ်မှာသားမရှိသော်လည်း။မယားဥစ္စာကိုလင်စားပိုင်သည်ဖြစ်သောကြောင့်။ ဘထွေးတဝက်။ အထက်သားတဝက်စားစေ။ မြေးစုကိုဘထွေးလက်ထက်တွင်မှ။ ရသော်လည်း။ ဘထွေး မစားသာချေ။ အထက်သားစားစေ။တင်မြဲရှိလျှင်လည်း။နည်းတူဆပ်စေ။ အမိဘထွေးအတူနေရာမှပွားများသောဥစ္စာရှိလျှင်။ခြောက်စုစု။တစုအထက်သားရစေဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၉။ သားသုံးဦး။ဝေရာသောတရားတပါး။

သားသုံးဦးဝေရာသောတရားနှစ်ပါးကွဲပြားသည်ကိုဆိုပေတုံအံ့။မယားကပါသား။ လင်ကပါသား။ နှစ်ပါးစုံတွင် မွေးသည်သား။ သုံးဦးတွင်။မိဘနှစ်ပါးသေ၍။ ဝေရာသည်ကား။ အမိပါသားလည်း။ အမိပါရင်းကိုယူစေ။ အဖပါသားလည်း။အဖပါရင်းကိုယူစေ။ နှစ်ပါးစုံတွင်သားလည်း။ နှစ်ပါးစုံတွင်ဖြစ်ပွားသည်ဥစ္စားကိုယူစေ။ တင်မြဲရှိလျှင်လည်း။နည်းတူဆပ်စေ။နှစ်

*7th. The law of partition between the sons of a first and second marriage.*

The two laws of inheritance as regards the sons of one father by a first and second wife are these: Let the son of the first marriage have all the father's original property, and let the son of the second have all that his mother brought with her; let the property acquired subsequently to the marriage with the second wife be divided into three shares; let her son have two, and the son of the first marriage one share, and let them pay the debts in the same proportion. In another case; if the father had property at the time of his marriage, and the second wife none, and if none has been acquired during their marriage, let the property be divided into four shares; let the son of the first marriage have three, and the son of the second one share. If the father had no property, and the second wife had, let the son of the first marriage have one share, and the son of the second three. In another manner; let the property originally possessed be divided into three shares; let the son of the first marriage have two, and the son of the second one share; and of the property acquired during the last marriage, let the son of the first have one, and the son of the second two shares, and let them pay the debts in the same proportion.

*8th. Between the step-father and his step-sons.*

I will now lay down the law as regards the partition of property between a step-father and his step-son. If the step-son be living with his step-father, at the time of his mother's death, let her property be divided into four shares, and let the husband have one. If during the time of her coverture with the second husband, she shall have inherited the property of her parents, let the husband have half of it, though she has no children by him, as the husband has a right to the wife's property; and let the step-son have the other half; and though the mother inherited her father's property during her coverture with the step-father, he has no right to the grandson's share; let his step-son have it. Let them bear the debts in the same proportions; and of the property acquired during the coverture of his mother, let the step-son have one sixth share. This Menoo, the lord hermit, hath said.

*9th. The partition between the three kinds of sons.*

I will now state the law of partition between the three kinds of sons; 1st, the son of the husband by a former marriage; 2nd, the son of the wife by a former marriage; 3rd, the child of this pair. On the death of the parents, let the son of the mother have the property she brought with her as her portion, the son of the father what he possessed at the time of marriage, and the son of both what had been acquired during their marriage, and let them pay the debts in the same way. Should they have had no property at the time of marriage,

ပါးစုံပါသောဥစ္စာမရှိကလည်း။လက်ထက်ပွားသာရှိလျှင်။ ငါးစုစုသုံးစုကို နှစ်ပါးစုံသားစားစေ။အထက်သားတို့မှာတစုစီစားစေ။ နှစ်ပါးစုံတွင်တင်မြီ ရှိလည်း။နည်းတူဆပ်စေ။ တတန်မှာလည်း။လက်ထက်ပွားမရှိ။လင်ပါ။ မ ယားပါဥစ္စာရှိလျှင်။လေးစုစီစု၍။တစုကိုနှစ်ပါးစုံသားသို့ပေးစေ။ မြီရှိလည်း နည်းတူဆပ်စေ။ လင်ပါဥစ္စာမရှိ။ မယားပါဥစ္စာရှိ။ လက်ထက်ပွားလည်း မရှိဖြစ်လျှင်။ထိုဥစ္စာရပ်ကိုငါးစုစု၍။ဥစ္စာရင်းသားသုံးစု။နှစ်ပါးစုံသားတစု။ ဥစ္စာရင်းမပါသူသားတစုစားစေ။တင်မြီရှိလည်းနည်းတူဆပ်စေ။

၁၀။ မယားသေသော်။ဘထွေးနှင့်သားသုံးဦး။ဝေရာသောတရားတပါး။

အကြင်လင်မယားတို့တွင်။သားကိုယ်စီပါကြ၍။နှစ်ပါးစုံမြင်သည်သား။ မယားသေသော်။ ဘထွေးနှင့်သားသုံးဦး ဝေရာသော တရားကား။ နှစ်ပါး အပြားရှိ၏။သေသူအမိပါရင်းကို။လေးစုစု၍။တစုဘထွေးစားစေ။ သုံးစုကို မယားကပါသားစားစေ။ လက်ထက်ပွားရှိလျှင်။ ရှစ်စုစု၍။ ငါးစုဘထွေး စားစေ။နှစ်စုကိုနှစ်ပါးစုံသားစားစေ။တစုကိုအထက်သားစားစေ။ ။ တနည်းလည်း။ဘထွေးအယင်သေအံ့။ အမိနောက်သေအံ့။ ဘထွေးဥစ္စာမရှိ သော်လည်း။ အမိပါဥစ္စာကို။ ငါးစုစု၍။ သုံးစုကိုအမိပါရင်းသားစားစေ။ နှစ်စုကိုသုံးစုစုပြန်၍။တစုမှာဘထွေးသားစားစေ။နှစ်စုကိုနှစ်ပါးစုံသားစား စေ။မိထွေးအယင်သေ၍။ အဖနောက်မှသေလည်းနည်းတူဆိုခဲ့ပြီးသည်အ တိုင်းဝေစေ။

၁၁။ အဖသေ။အမိကိုသားတောင်း၍။လေးစုတစုတွင်ပေါက်ဖော်တို့ကိုဝေရာသော တရားတပါး။

အဖသေ။သားအမိကိုအမွေတောင်း၍။လေးစုတစုတွင်ပေါက်ဖော်တို့ကို ဝေရာသောတရားနှစ်ပါး။အဖစီးဆင်။စီးမြင်း။ဝတ်စားတန်ဆာ။ကြုပ်။ဓါး။ ဖလားတို့ကို။ သားအကြီးစီးနင်းဆောင်ရွက်စေ။ ထိုမှကြွင်းသည်ဥစ္စာကို။ အမိသေမှပေါက်ဖော်တို့ကိုဝေစေ။အမိမသေသမျှကိုမဝေသာ။

၁၂။ အမိသေ။အဖကိုသွီးတောင်း၍။လေးစုတစုတွင်ပေါက်ဖော်တို့နှင့်ဝေရာ။မဝေ ရာသောတရားတပါး။

အမိသေ၍။အဖကိုသွီးတောင်းရာ၌လည်း။အထက်နည်းတူ။ခွဲဝေပေးယူ စားကြစေ။

only what has been acquired afterwards, let it be divided into five shares, and let the son of the last marriage have three, and the others one share each; let them pay the debts incurred during the last marriage in the same proportions. In case there should be no property acquired during the last marriage, only what was brought by both at the time of marriage, let the son of the last marriage have one fourth share, and let him pay one fourth of the debts. If the father had no property at the time of his second marriage, but the mother had, and there be none acquired during this marriage, let it be divided into five shares, and let the son of the party who brought the property (the mother,) have three shares, and the other two one share each, and let them pay the debts in the same proportions. Thus the recluse said.

10*th. The partition, on the death of the wife, between the step-father and the three kinds of sons.*

If a man and woman, having each children, shall marry and have a common family, the two laws for the partition of the property between the man and the children, on the death of the woman, are these: let the original property of the deceased mother be divided into four shares; let the step-father have one and the son of the deceased three shares. If there have been any property acquired during the second marriage, let it be divided into eight shares; let the father have five, the son of the last marriage two, and the sons by the former marriages one share. If the father dies first and the mother afterwards, though the father may have had no property, let the mother's property be divided into five shares, of which let her son have three; let the remaining two shares be divided into three; of these let the son of the father have one, and the son of the last marriage the other two. Should the mother die first and the father afterwards, let the same relative proportions be observed.

11*th. The law that one-fourth is to be divided amongst the children, on the son's demanding his inheritance from his mother, on the father's death.*

In case of the father's death and the sons demanding their inheritance from the mother, the two laws for the partition of one-fourth share amongst the relations; let the eldest son have the father's elephant, horse, clothes, ornaments, betel aparatus, sword and goglet, and let the residue of the property at the mother's death be divided amongst the relations, (to brothers and sisters of the eldest son?) it must not be divided till her death.*

12*th. The law prescribing when one fourth is or is not to be divided amongst the children, on the daughter's demanding her inheritance, on the dcath of the mother.*

In case of the mother's death and the daughters' demanding their inheritance of their father, the same rule holds as above laid down.

* This and the following section are quite at variance with sections 5 and 2 of this vol., which treat of the same case.

### ၁၃။ ၎င်မိဘနှစ်ပါးသေ၍။ သားယောကျ်ားမရှိ။ သားမိမ္ဘသာရှိ၍။ ဝေရာသောတရားတပါး။

၎င်မိဘနှစ်ပါးသေ၍။သားမိမ္ဘသာရှိ၍။ဝေရာသောတရားတပါး။ အမိဝတ်သောတန်ဆာဆင်ယင်သမျှကို သမီးကြီးယူစေ။အဖဝတ်စားတန်ဆာမှစ၍။ရှိရှိသမျှသက်ရှိသက်မဲ့ကို။အစုနှစ်ဆယ်စု၍။ တစုကိုသမီးကြီးယူစေ။၎င်အကြွင်းကို အစုနှစ်ဆယ်စုပြန်၍။ သမီးလပ်တစု ယူစေ။ ၎င်နည်းတူ။အစုနှစ်ဆယ်စု၍။တစုကိုသမီးရှိသမျှယူစေ။ သုံးကြိမ်သုံးဖန်စုပြီးမှ။ ကြွင်းသမျှဥစ္စာကို။ အညီအမျှဝေယူစားကြစေ။ ခုနှစ်ကြိမ်ခုနှစ်ဖန်စု၍ အမျှပေးစေဟုလည်း။ရှင်ရသော့ဆိုတော်မူ၏။ဤသို့ဝေမည်တွင်။ မိဘအလှူဘို့ရည်၍ထားပေဦး။ထားပြီးနောက်မှဝေရာသည်။

### ၁၄။ မိဘနှစ်ပါးသေ။သားယောကျ်ားချည်းရှိ။ဝေရာသောတရားတပါး။

မိဘနှစ်ပါးသေ၍။သားယောကျ်ားချည်းရှိ၍။ဝေရာသောတရားဟူသည်ကား။ အဖဆင်ယင်သောဝတ်စားတန်ဆာတို့ကိုသားကြီးယူစေပြီးမှ။ အမိဆင်ယင်သောဝတ်စားတန်ဆာနှင့်။မိဘနှစ်ပါးပိုင်ထိုက်သမျှဥစ္စာ။ သက်ရှိသက်မဲ့ကို။ဆယ်စုစု၍။ တစုကိုသားကြီးယူစေဦး။ ကျန်ကိုးစုကို။ ဆယ်စုစုပြန်၍။တစုကိုသားလပ်ယူစေ။ ၎င်နည်းတူ။ဆယ်စုစု၍။သားတစုယူစေပြီးမှအညီယူစေ။ခုနှစ်ကြိမ်ခုနှစ်ဖန်စုမှ။အညီယူစေလည်းဟူတော်မူ၏။၎င်တွင်လည်းအလှူဘို့ထား၍ပေးရမည်။

။မိဘနှစ်ပါးသေ၍။သားယောကျ်ား။သားမိမ္ဘတို့ရှိလျှင်။သားကြီးလည်းအဖအဝတ်တန်ဆာကိုယူစေ။ သမီးကြီးလည်းအမိအဝတ်တန်ဆာကိုယူစေ။ ကြွင်းသမျှဥစ္စာရပ်သက်ရှိ။ သက်မဲ့ကို။တဆယ်ငါးစုစု၍။ အစည်အတိုင်းကောက်စေ။သုံးကြိမ်သုံးဖန်စု၍ကြွင်းသဉ်ကိုအမျှဝေစေ။ ခုနှစ်ကြိမ်ခုနှစ်ဖန်စု၍ ကြွင်းသည်ကိုအမျှဝေစေ။ ၎င်တွင်လည်းအလှူပေးဘို့မဝေမှီထားစေဟုဆိုတော်မူ၏။

### ၁၅။ မိဘနှစ်ပါးမသေမှီ။သားကြီးသေ၍။ သားကြီးသားနှင့်။ဘထွေးအရီးတို့ဝေရာသောတရားတပါး။

မိဘနှစ်ပါးမသေမှီသားကြီးသေ၍။သေသူသားနှင့်။ဘထွေးအရီးတို့ဝေရာသောတရားတပါးဟူသည်ကား။သားကြီးသြောရသာသည်။မိဘအယင်

*13th. Both father and mother having died, leaving only daughters; the law of partition amongst them.*

In case of the death of both father and mother, and there be only female children, let the eldest daughter have all the mother's clothes and ornaments, and let the father's clothes and all other property, animate and inanimate, be divided into twenty shares, of which let the eldest daughter take one; then let the residue be again divided into twenty, and let the second daughter have one share; let the residue be for the third time divided into twenty, and each of the other children have one share; and let the residue after this be equally divided amongst all. It has also been said by my lord hermit, that the division (into twenty) should be repeated seven times, and then the equal division made; but a portion of the property must be first set aside for religious purposes on the parents' account.

*14th. Both father and mother dying and leaving only sons, the law of partition amongst them.*

In case of the death of both father and mother, and their leaving only sons: After the eldest son has taken the clothes and ornaments of the father, let all the residue of the property, animate and inanimate, with the mother's clothes and ornaments, be divided into ten parts, and let the eldest son have one; let the residue be again divided into ten, and let the second son have one share; let the remainder be again divided into ten, and let the other children each have a share; and let the rest be divided equally amongst all. In this case also, it has been laid down that the division into ten shall be repeated seven times, and here also some must be set apart for religious offerings.

If the father and mother both die, leaving male and female children, let the eldest son have the clothes and ornaments of the father, and the eldest daughter the clothes and ornaments of the mother; the residue of the property, animate and inanimate, shall be divided into fifteen shares, and let each take one according to age; having added them together and divided them three times, let the residue then be divided equally. In this case also, seven divisions have been ordered prior to the equal distribution of the residue. Here also a portion must be set aside for religious offerings.

*15th. The eldest child having died before the parents, the law of partition between his child, and the uncles and aunts by the father or mother's side.*

If the eldest son dies before his father and mother, the law of inheritance between his son and his son's uncles and aunts, is this. Because in case of the death of father and mother, the eldest son* is

* Auratha, the eldest son of a marriage properly celebrated, that is, with the consent of parents.

သေစေကာမူ။ အစ်ကိုကြီးသော်အဖဆိုချေသည်ဖြစ်သော့ကြောင့်။ ညီထွေး နှင့်အစ်ကိုကြီးသားအမျှစားစေဟုဆိုတော်မူ၏။

မိဘနှစ်ပါးမသေမှီ။ သို့်းကြီးသေ၍။ သို့်းကြီးသို့်းနှင့်။ မိထွေးဦး ရီးဝေရာ သောတရားတပါးဟူသည်ကား။ အစ်မကြီးသို့်းသည်။ ညီမမိထွေးနှင့်အမျှ စားစေ။ အဘယ်ကြောင့်နည်းဟူမူကား။ အစ်မကြီးသာလျှင်အမိဆိုချေသော့ ကြောင့်တည်း။

မိဘနှစ်ပါးမသေမှီ။ သားလပ်။ သို့်းလပ်တို့သေ၍။ ၎င်သားလပ်။ သို့်းလပ် သားသို့်းနှင့်။ အမိအဖပေါက်ဖော်ဝေရာသောတရားတပါးဟူသည်ကား။ မိ ဘတို့အမွေကို။ ချင့်မိချင့်ဘတို့ရစုတွင်။ လေးစုတစု။ သို့်းလပ်။ သားလပ်သား သို့်းတို့စားစေဟုဆို၏။

၁၆။ ၎င်မိဘနှစ်ပါးသေသောနောက်။ အမွေမဝေမှီ။ အမွေခံသားသို့်းသေ၍။ ခြွေးမ။ သမက်တို့ကိုဝေရာသောတရားတပါး။

မိဘနှစ်ပါးသေသောနောက်။ အမွေမဝေမှီ။ အမွေခံသားသေ၍။ ခြွေးမ သားသို့်းတို့ကို။ ဝေရာသောတရားတပါးဟူသည်ကား။ မိဘသေပြီးနောက်။ အမွေမှီသည်ဖြစ်သော့ကြောင့်။ သားကြီး။ သားလပ်စားထိုက်သည်အတိုင်း။ သေသူအမွေကို။ မယားဖြစ်လည်းအစုမှန်။ သားဖြစ်လည်းအစုမှန်စားစေ။ အမွေ၍င်မိဘနှစ်ပါးသေနောက်မှ။ အမွေခံသားသေ၍စားထိုက်သတည်း။

၁၇။ မိဘနှစ်ပါးသေပြီးနောက်။ သို့်းသားသေလျှင်။ သေသူသားသို့်းတို့ဝေစားရာ သောတရားတပါး။

မိဘနှစ်ပါးသေပြီးနောက်။ သို့်းသေလျှင်သေသူလင်သားသို့်းတို့ကိုဝေရာ သောတရားတပါးဟူသည်ကား။ သေသူတို့မိဘနောက်မှသေ၍။ အမွေကိုမှီ ချေသည်ဖြစ်သော့ကြောင့်။ သေသူလင်သားသို့်းတို့သည်။ သေသူအစုခံထိုက် သည်အတိုင်းစားစေ။ တင်မြို့ရှိလည်းနည်းတူဆပ်စေ။ ။ မိဘနှစ်ပါးသေ ပြီးနောက်။ အမွေမဝေခင်။ အိမ်ထောင်မကျသေးသောသားသေလျှင်။ သေ သောသား၌စွာကို။ ပေါက်ဖော်တို့ ဝေရာသောတရားတပါးဟူသည်ကား။ သေသူအစုကို။ ပေါက်ဖော်ကြီးငယ်အညီအမျှဝေစားစေဟုမနူဆိုတော်မူ၏။

၁၈။ မိဘနှစ်ပါးသေပြီးနောက်။ သားသို့်းအသီးနေရာတွင်။ အမွေမဆက်ဆံရာသော တရားတပါး။

အမိအဖသေပြီးနောက်။ သားသို့်းအသီးအသီးနေရာတွင်။ အမွေမဆက် ဆံရာတရားတပါးဟူသည်ကား။ ထိုပေါက်ဖော်တို့သည်။ အသီးအခြားနေရာ

called father, let his son, and his (the eldest son's) younger brothers, share alike.

Should the eldest daughter die before the father and mother, this is the law for the partition of the inheritance between her daughter and her daughter's uncles and aunts: That the daughter of the eldest daughter, and her (the eldest daughter's) younger sisters, shall share alike, because the eldest daughter, when grown up, stands in the place of a mother.

In case of the death of the younger children occurring before the parents, the law for the partition of the inheritance between their children and the (co-heirs) relations of their parents is this: The children of the deceased have one fourth of the share which would have come to their parents.

16*th. After the death of the parents, and before the partition of the property, the sons and daughters entitled to a portion having also died, the law of partition between the sons and daughters-in-law.*

If after the death of the parents, and before the partition of the property, a son, entitled to a share in the inheritance, shall die, the law for partition between the daughter-in-law and her children is this: Because she was in reach of a portion, (that is, was alive at the death of his parents,) let them have the full share of the deceased's property; be he eldest or younger, be it his wife or his child, they are entitled to his full share; as their father died after the death of his parents who left the estate, his children are entitled to inherit. If after the death of her parents, the daughter shall die, the law of partition that applies to her husband and children is this: The deceased daughter having died after her parents, is within reach of a share; her husband and children are entitled to that share; let them have what she had a right to, and let them pay a proportionate share of the debts.

17*th. After the death of the parents, if the sons or daughters die, the law for the partition of their property between their relations.*

If after the death of the parents, and before the division of the property left, an unmarried child shall die, the law for the partition of the deceased child's effects amongst the relations (brothers and sisters) is, that they shall share in equal proportions.

18*th. After the death of the parents, when the property is divided amongst the children, and they are living separately, the law that it shall not ascend.*

When after the death of the parents each of the children is established in his own house, the law that the property shall not ascend is

သေ၍။ အမွေခံသားသမီး လင်မယား မရှိလျှင်။ အစ်ကိုအစ်မတို့သို့။ အမွေ မဆက်ဆံစေနှင့်။ သေသူအောက်ညီ။ ညီမတို့သာခံစားစေ။ သည်ကိုရည်၍။ အမွေကိုမဆက်ဆံစေနှင့်ဆိုသတည်း။

၁၉။ အမွေမဆက်ဆံစေနှင့်ဆိုပြီးလျက်။ သေလူဥစ္စာကို မိဘသို့ဆက်ဆံစေခြင်း တရားတပါး။

အမွေကိုမဆက်ဆံစေနှင့်ဆိုပြီးလျက်။ သေသူမိဘတို့သဉ်။ သေသူဥစ္စာ ကိုစားပိုင်စေဆိုသည်ကား။ အဘယ်ကြောင့်နည်း။ သေသူတို့တွင်။ မယား။ သားသမီးပေါက်ဖော်မရှိ၍။ မိဘရှိလျှင်။ အမိအဖပင်ခံစားစေ။ မှာသည်ဥပမာ ဆိုကုံအံ့။ သဃ်ာတော်ကို ရည်သောအလှူကို။ ဘုရားရှင် ခံထိုက် သကဲ့သို့ တည်း။ ။အမိအဖသားသမီးပေါက်ဖော်မရှိသောသူ ဥစ္စာကို။ ဘိုးဘွား တို့စားရာသောတရားဟူသည်ကား။ အလုံးစုံအမွေခံတို့သည်မရှိသော်။ လင် ၏အမျိုးခြောက်ယောက်။ မယား၏အမျိုးခြောက်ယောက်။ စားစေရှိသည်။ သေသူတို့ဘိုးရင်းဘွားရင်းရှိက။ ခြောက်ယောက်တို့ မစားသင့်သေး။ ဘိုး ဘွားတို့ပိုင်လေသည်။ ဥပမာဆိုတုံပေအံ့။ မြစ်ကြီးငါးသွယ်။ မြစ်ငယ်ငါးရာ က။ စီးဝင်သောရေသည်။ မဟာသမုဒ္ဒရာခံစားလေသကဲ့သို့။ ဘိုးဘွားတို့ပိုင် ရာလေသတည်း။

၂၀။ အမိုးသေပြီးနောက်။ အဖွားလင်ငယ်နေရာတွင်။ အဖွားသေ။ သားသမီးမရှိ။ အမိုးထွေးနှင့်အဖွားပါရင်းမြေး။ ဝေရာသောတရားတပါး။

အမိုးသေ၍။ အဖွားလင်ငယ်နေရာတွင်။ အဖွားသေ။ သားသမီးမရှိ။ အမိုး ထွေးနှင့်အဖွားရင်းမြေးဝေရာသောတရားကား။ အဖွား အမိုးမြေးအတူနေ ရာတွင်။ အဖွားသေသော်။ အဖွားပါရင်းဥစ္စာရှိလျှင်။ သားမြစ်က။ လေးစုစု၍ သုံးစုသားစားရ၏။ မြေးနှင့်အဖွားဖြစ်လေသည်။ တဝက်ကိုမြေးရစေ။ တ ဝက်ကိုအမိုးထွေးစားစေ။ အဘယ်ကြောင့်နည်းဟူမူကား။ မြေးကားအဖွား။ သားကားအရင်း ဆိုသောကြောင့်တည်း။ တင်မြီပါရင်းကိုလည်း နည်းတူ ဆပ်စေ။ လက်ထက်ပွားဥစ္စာရှိလျှင်။ ရှစ်စုစု၍။ တစုမြေးကရစေ။

၂၁။ အမိုးပါမြေးနှင့်။ အဖွားထွေးတွင်မွေးသည့်သား။ ဝေရာသောတရားတပါး။

အမိုးသေ။ အဖွားလင်ငယ်နေရာသားမွေး၏။ အဖွားသေရာတွင်။ အမိုး

this: If after the heirs have received their shares, and established themselves separately, one shall die without leaving direct heirs, i. e. wife or husband, son or daughter, let the property not ascend to the elder brothers or sisters; let the younger brothers and sisters only of the deceased share it. This is what is meant by not allowing the property to ascend.

19*th. Though it is said the property shall not ascend, the law when it shall do so.*

Though this is the law, why is it also said, "the father and mother of the deceased have a right to his property"?—because if the parents be alive, and the deceased has no other relations, they shall inherit his property, as, by way of illustration, the offerings intended to be made to the priests may be offered to God. If the deceased has no father, mother, sons, daughters, or relations, (brothers and sisters,) the law by which the grandfather and mother inherit is this: If there be none of the above-named heirs, six (degrees of) relatives of the husband and six of the wife are laid down as heirs; but if the own grandfather and grandmother are alive, they shall inherit before these six relatives. I will make a comparison: as the water of the main ocean receives the waters of the five hundred smaller rivers which have flowed into the five large ones, the grandfather and grandmother have a right to the property.*

20*th. The grandfather having died, the grandmother takes another husband and dies without issue, the law for partition of the original property of the grandmother between her grandchildren and the step-grandfather.*

If the grandfather be dead, and the grandmother has taken a second husband, and died without issue, the law of partition as regards the step-grandfather and the grandchildren of the deceased is this: If the grandmother dies whilst she, her grandchildren, and husband are living together, if she has any property which was originally her own, let her children, if she has any, inherit three fourths of it, (and the step grand-father one fourth ;) if she has only grand-children, let them have one half and the step grand-father the other. Why is this?—because the grand-son is the point, and the son the root; let the debts be paid in the same proportion. If there be any property acquired since the marriage, let it be divided into eight shares, of which let the grandsons have one.

21*st. Partition between the children of a step-grandfather, and the children of a marriage as above.*

If the grandfather dies, and the grandmother, marrying again, has

* Rather an inverted comparison.

ထွေးသား။အဖွားပါရင်းမြေးသုံးယောက်ဝေရာသောတရားကား။အဖွားက ပါရင်းဥစ္စာကို။မြေးအတူနေရာအလုံးပါလေသည်။ချင့်က။ချင့်မိဘအစုမဝေ သေး။ အဖွားနှင့်မြေးအဖိုးထံရောက်လျှင်။ အဖအမိအစုကိုမြေးခံရကောင်း သည်မဆိုသာချေ။ ချင့်ဘွားတွင်ပါသမျှဥစ္စာကို။ လေးစုစု၍။ တစုကိုအဖိုး ထွေးယူစေ။သုံးစုကျန်ကိုအဖွားနှင့်မွေးသည်သား။ပါရင်းမြေးစားစေ။နှစ်စု ကိုအဖိုးထွေးမွေးသည်သားစားစေ။တင်မြီရှိလဉ်းနည်းတူဆပ်စေ။အဘယ် ကြောင့်နည်းဟူမူကား။ အမွေမခွဲမဝေ။ အဖွား၌တလုံးတည်း ပါချေသော့ ကြောင့်တည်း။ လက်ထက်ပွားရှိလျှင်။ ရှစ်စုစု၍။တစုမြေးရစေ။ တင်မြီရှိ လည်းနည်းတူဆပ်စေ။မြေးတွင်မိဘဥစ္စာသီးခြားပါသမျှမှာ။အဖိုးထွေးနှင့် အဖွားရင်းသား မစားသာချေ။ မြေးသည်အတူလိုက်၍မနေ။ ဥစ္စာလည်း။ အဖွားသို့မပါလျှင်။မြေးကမရသာချေ။အဖိုးထွေးတွင်မွေးသည်သားတို့သာ ခံစားစေ။မြေးအတူအဖွားနှင့်လိုက်၍နေက။အထက်အဖိုးဥစ္စာပါသည်တွင် သား။အဖွားမရှိလျှင်။လေးစုစု၍။သုံးစုစားရမည်။ တစုကိုအဖိုးထွေးစားစေ။ အဖွား ဥစ္စာယိုးဖြစ်ချေက။ အဖွား သေက။ လေးစု တစု မျှသာ မြေးစားစေ။ အဖွားနှင့်အတူမနေလျှင်မရသာချေ။အဘယ်ကြောင့်နဉ်းဟူမူကား။အဖွား ကိုမခင်မယင်သော့ကြောင့်တဉ်း။အဖိုးပါမြေးနှင့်။အဖွားထွေးတွင်မွေးသဉ် သား။၎င်ဥစ္စာရပ်များကိုလည်း။နည်းတူဖြစ်စေဟုရှင်ရသော့ဆိုတော်မူ၏။

၂၂။ မိဘနှစ်ပါးရှိစည်။သားကြီး။သမီးကြီးအသီးစား၍အခြားနေရာ၌။ မိုဃ်းမြေ။ လယ်ယာ။ဥယည်။ကျေးကျွန်။သက်ရှိ။သက်မဲ့ကိုမိဘမပေးဘဲ။သီးခြားယူ၍လုပ် ဆောင်သုံးစားသောဥစ္စာကိုမိဘနှစ်ပါးမရှိနောက်။ပေါက်ဖော်တို့နှင့်ဝေရာ။မဝေ ရာသောတရားတပါး။

မိဘနှစ်ပါးရှိစည်။သားကြီး။သမီးကြီးအသီးစား၍အခြားနေရာ၌။ မြေ။ လယ်ယာ။ကျေးကျွန်။သက်ရှိ။သက်မဲ့ကိုမိဘမပေးဘဲ။ သီးခြားယူ၍။ဥစ္စာ ရပ်ကိုမိဘနှစ်ပါးမရှိလျှင်။ပေါက်ဖော်တို့နှင့်ဝေရာ။ မဝေရာသောတရားနှစ် ပါးဟူသော်ကား။ မိဘပိုင်ထိုက်သမျှတွင်။ သားကြီး သမီးကြီးတို့ထက်ဝက် ဖြစ်စေ။သုံးစုတစုဖြစ်စေသိမ်ယူသည်။ထိုဥစ္စာကို။သားကြီးသမီးကြီးတို့သင်း သီးဥစ္စာဖြစ်သတည်း။အဘယ်ကြောင့်နဉ်းဟူမူကား။အစ်ကိုကြီးသော်အဖ။ အစ်မကြီးသော်အမိဖြစ်ချေသော့ကြောင့်။သင်းသီးသာဟူသတည်း။သို့သော် လည်း။ထိုသားကြီးသမီးကြီးမရှိသေအံ့။ သေသူမယားလင်တို့တွင်မှဆိုလျှင်။

children, the law for the partition of the inheritance, on her death, between the step-grandfather, the children of that marriage, and the grandchildren of the deceased, is this: If the original property of the grandmother has been kept undivided, and she had it all with her, and her grandson living with her, and if his father and mother have received no share after the marriage of his grandmother with his step-grandfather, he shall not demand the share of his parents. One fourth of all the grandmother's property shall go to the step-grandfather; let the remainder be divided into five shares, and let the grandchild that was with her have three, and the children by the step-grandfather two shares; and if there be debts, let them pay them in the same proportion. Why is this?—because the property has not been divided, but comes down to them entire, as it was with the grandmother. If there be any property acquired during the marriage, let it be divided into eight shares, and let the grandchild have one share, and pay his proportionate share of the debts incurred in the same time. If the grandson brought any property of his parents, direct and separately, the step-grandfather and his children shall have no share in that. If the grandson does not live with his grandmother, and she had no property of her own, he shall not inherit; only the children born to the step-grandfather shall inherit. If the grandson comes and lives with the grandmother, after her death he shall have three fourths of the property of his own grandfather, and the step-grandfather one fourth; but of the grandmother's own original property, let him (the grandson) have only one fourth. If he does not live with his grandmother, he shall not share. Why is this?—because he did not agree with her. Let the law be the same with the grandchildren living with a grandfather, and the children and grandchildren of a step-grandfather. This the lord hermit said.

22nd. *When, during the lifetime of the parents, the eldest children, without their having been given to them by the parents, shall have taken fields, plantations, gardens, silver, slaves, animate or inanimate property, and established themselves separately, the law as to what portion of such property then in use by them shall, on the death of the parents, be divided amongst the relations (brothers and sisters.)*

If, during the lifetime of the parents, the grown-up children, having had a share, and living separately from the parents, shall take, without special gift of the parents, lands, money, slaves, animate or inanimate property, the laws whether this property shall or shall not be divided amongst the heirs at the death of the parents, are two. If the eldest son or daughter has taken one half of the whole property of their parents, or one third, this is their own proper share. Why is this?—because the eldest son is in the place of the father, and the eldest daughter in the place of the mother; for this reason, they are

ထက်ဝက်ဥစ္စာကို ပေါက်ဖော်စုတို့သို့ ဝေစားစေ။ ၎င်တို့တွင်သားရှိလည်း။ နည်းတူဝေစားစေ။

၂၃။ သားလပ်။သွှီးလပ်။သားငယ်။သွှီးငယ်တို့။ မိဘဥစ္စာကိုသီးခြားယူ၍လုပ်ရာ၌ ဝေရာ။မဝေရာသောတရားတပါး။

မိဘနှစ်ပါးရှိစည်။သားလပ်။သွှီးလပ်။သားငယ်။သွှီးငယ်တို့ မိဘဥစ္စာ မြေ။လယ်ယာ။ကြေးကျွန်။ သက်ရှိ။ သက်မဲ့ကိုမိဘမပေးဘဲ။ လက်ရောက် လက်ပါထက်ဝက်။ သွှီးစုလုပ်စား၍။ မိဘသေလျှင်။ထက်ဝက်ဥစ္စာကိုသင်း သီးဖြစ်စေ။ထက်ဝက်ဥစ္စာကိုပေါက်ဖော်စုဝေစေဟုရှင်မနူဆိုတော်မူ၏။ ။ တနည်းကား။မိဘဥစ္စာသက်ရှိ။သက်မဲ့ကိုဆယ်စုတစုသားလပ်။သားငယ်။ သွှီးလပ်။သွှီးငယ်တို့။မိဘရှိစည်ယူလိုက်၍။မိဘမပေးသော်လည်း။ မိဘနှစ် ပါးသေလျှင်။သင်းသီးဖြစ်စေ။မိဘဥစ္စာကြွင်းသမျှမှာ။အထက်ဆိုခဲ့ပြီးသော ယောကျ်ားမိမ္မအမွေခံတို့ကို။တရားစုခွဲဝေပေးသည်အတိုင်း။ဝေယူခံစားစေ ဟုမှာထားတော်မူ၏။

၂၄။ မိဘဥစ္စာကိုသားကြီး။ သွှီးကြီး။ သားလပ်။ သွှီးလပ်တို့တလုံးဘည်းရှိစည်။ အသီးစား။အခြားနေစည်ယူလုပ်သည်ကိုဝေရာသောတရားတပါး။

မိဘတို့ရှိစည်။ မိဘဥစ္စာကိုသားကြီး။ သွှီးကြီး။သားလပ်။သွှီးလပ်တို့ အသီးစားအခြားနေရာ။လယ်။မြေ။ယာ။ကျွန်။ကျွဲ။နွားအကုန်လက်ရောက် ဖြစ်လေသော်လည်း။ မိဘမရှိလျှင်။ သင်းသီးမဆိုသာ။ ပေါက်ဖော်တို့ခွဲဝေ စားစေ။အနည်းငယ်ဖြစ်မှ။သင်းသီးဖြစ်စေ။ရှင်ရသေ့ဆိုတော်မူ၏။

၂၅။ ကောက်မွေးသောသားနှင့်။အမိအဖ။ ပေါက်ဖော်သားချင်းတို့ဝေရာသော တရားတပါး။

ကောက်၍မွေးသောသားသွှီးနှင့်။သားရင်း။သွှီးရင်းဝေရာသောတရား နှစ်ပါးဟူသည်ကား။သားရင်းအခြားနေ၍။ ကောက်၍မွေးသော သားသွှီး သည်မိဘနှင့်အတူနေ၍။ မိဘနှစ်ပါးသေလျှင်။ သက်ရှိ။သက်မဲ့ဥစ္စာရပ်ကို ခြောက်စုစု၍။တစုကိုကောက်၍မွေးသောသားစားစေ။ ငါးစုကိုသားရင်း။ သွှီးရင်းတို့စားစေ။ ။ကောက်မွေးသောသားတခြားနေအံ့။သားရင်း။ သွှီးရင်းအတူမိဘနှင့်နေသော်။ကောက်မွေးသောသားသည်။ မိဘအမွေကို မစားသာချေ။ လက်ရောက်ပေးသမျှကိုသာရစေ။ အဘယ်ကြောင့် နည်းဟူ မူကား။ကျေးဇူးမှန်းမသိသော့ကြောင့်တည်းဟုဆိုတော်မူ၏။ ။ကောက်

their separate property. But if the eldest son or daughter shall die, the wife or husband of the deceased shall divide one half the property (so separated) with the relations (brothers and sisters of the deceased,) if they demand it. If they leave only children, they shall be entitled to the same share.

23*d*. *The younger children under the same circumstances.*

If the second son or daughter, or younger children, during the life of the parents, shall have taken, without any formal gift from the parents, land, fields, money, slaves, or any property, animate or inanimate, property to the extent of one third or one half, one half of this, on the death of the parents, shall be their theng-thee; the other half they must restore to be divided amongst the brothers and sisters. It is also directed in another manner; if the younger children shall have taken one tenth of the property of their parents, this, at their death, shall become theng-thee, and the residue shall be divided amongst the heirs, male and female, as above laid down.

24*th*. *The elder and younger children, having taken the property of their parents, live together apart, the law for the partition of this property.*

If the whole of the property shall have been taken during the life of the parents by the eldest or second son or daughter, it shall not be theng-thee; at the death of the parents let the brothers and sisters have a share; only a small portion shall be theng-thee. Thus the royal hermit said.

25*th*. *The law for partition of the property between an adopted son, and the relations of the adopting father and mother.*

The two laws for the partition of the property between an adopted child and the own children of the adopting father and mother are: If their own children are living separately, and the adopted child with the parents, and they shall both die, one sixth of all their property, animate and inanimate, shall be given to the adopted child, and five sixths to the true children. If the adopted child be not living with the parents, and their own children are, he shall have no right to share; let him have only what he has received in gift. Why is this? —because he was ungrateful. The law for partition between the

၍မွေးသောသားနှင့်။ အမိအဖ ပေါက်ဖော် သားချင်းတို့ ဝေရသော တရား တပါးတည်းဟူသည်ကား။ကောက်၍မွေးသောသားသည်။မိဘနှင့်အတူနေ၍။၎င် တို့နှစ်ပါးသေအံ့။ ကောက်၍မွေးသောသားနှင့်။ သေသူနှစ်ပါးပေါက်ဖော်တို့ အမျှစားစေ။ကောက်၍မွေးသောသားသည်။ အသီးစားအခြားနေဖြစ်ချေက။ ကောက်၍မွေးသည်သားမစားသာပြီ။ သေသူနှစ်ယောက်ပေါက်ဖော်တို့က။ အမွေသက်ရာစားစေ။အမွေသက်ရာဟူသည်ကား။ထိုလင်မယားနှစ်ယောက် တွင်။ပါရင်းလက်ထက်ပွားမျှိအံ့။နောက်သေသောသူသည်။ အမွေခံမည်ချေ သည်။နောက်သေသောသူ၏အမျိုးပေါက်ဖော်စားစေ။ တင်မြီရှိလည်း။နည်း တူဆပ်စေ။ သေသူနှစ်ယောက်၏အလောင်းကို။နှစ်ဦးသားပေါက်ဖော်သား ချင်းတို့။ဖုတ်ကြည်သင်းပြိုဟ်လျှင်အညီစားစေ။ ။တနည်းလည်း။ ကောက် ၍ မွေးသောသားသည်သူစိမ်း မဟုတ်။ အမွေခံခြောက်ယောက်အ ဝင်ဖြစ်က။အသီးစားအခြားနေသည်မှန်စေကာမူ။သားရင်း။သမီးရင်းမရှိက။ ပေါက်ဖော်တို့နှင့်။သေသူဥစ္စာကိုခွဲဝေစားစေဟု။၎င်ရသော့ဆိုတော်မူ၏။

၂၆။ အကြင်လင်မယားတို့တွင်။သားသမီးရှိလျက်။သူတပါး၏သားသမီးကိုသားသမီး ပြုမည်။သူသိ။သူထင်ယူ၍မွေးကျွေး၏။ မိဘနှစ်ပါးသေလျက်။ဝေရ။မဝေရ သောတရားတပါး။

အကြင်မယားတို့တွင်။သားသမီးရင်းရှိလျက်။ သူတပါး၏သားသမီးကို။ သားသမီးပြုမည်။သူသိသူထင်ယူ၍ကျွေးမွေး၏။မိဘနှစ်ပါး သေလျှင်။ ဝေရ သောတရားနှစ်ပါး ဟူသော်ကား။ အကျော် အစော ကိတ္တိမ သားဖြစ်လျက်။ အမိအဖပြုသူနှင့်အတူမနေ။အရွယ်ရောက်၍။မိဘရင်းသို့ပြန်နေအံ့။ မယား လင်နေ၍။ သီးခြားနေအံ့။ ထိုကောက်ယူသိမ်းပိုက်၍။ အမိပြုသောသူဥစ္စာ ကို။မစားမဝေသာ။လက်ရောက်ကိုသာရစေ။ ။တနည်းကား။ မိဘပြုသူ တို့နှင့်။ကိတ္တိမသားအတူနေ၍။ မိဘပြုသူသေအံ့။ ထိုကိတ္တိမအကျော်အစော ပြုသောသားသမီး။ မိဘ၌အကြီးဖြစ်လျှင်။ အကြီးအလိုက်။ အလပ်ဖြစ်လျှင်။ အလပ်အလိုက်။အထွေးအနှောင်းဖြစ်လျှင်။ အထွေးအနှောင်းအလိုက်ခံစား စေ။ဆိုခြင်းကား။သားရင်း။သမီးရင်း။အကြီးကိုအကြီးချင်း။ သား လပ်။သမီး လပ်အရင်းနှင့်။ သားထွေး။ သားနှောင်း အရင်းနှင့် အမျှစားစေ။ အဘယ် ကြောင့်နည်းဟူမူကား။ထိုအကျော်အစောပြုသူတို့၏မိဘအရင်းအမွေကိုပြန် ၍မစားရ။လွှတ်ချေသော့ကြောင့်တည်း။

adopted child and the relatives of the adopting parents is this: If the adopted child shall be living with the adopting parents at the time of their death, let him share equally with the relations (brothers and sisters) of the deceased. If the adopted son shall have received a portion, and shall be living separate, he shall have no share; the property shall descend to the relatives of the deceased. Though it is said, let the relatives inherit, yet if the deceased man and his wife had separate property at the time of marriage, and property conjointly acquired during marriage, the survivor is the heir, and the relatives of such survivor shall not inherit until his or her death; they shall pay the debts according to their share. If the relations of both shall combine at the funeral obsequies, let them share alike. In another case; when the adopted child is not a stranger, but within the six degrees (of kindred) which entitle him to a share, if there be no children of the adopting parents, let him have an equal share with the relations, even although he lived apart. This the lord hermit said.

26*th. If a husband and wife, having children of their own, shall publicly and notoriously adopt and bring up the child of another, the law by which such children shall or shall not inherit on the death of the parents.*

If a man has children by his wife, and shall publicly state his intention of adopting the child of another person, and shall take and support the child openly, the two laws for the partition of the property are these: If the child, being a notoriously adopted child, shall not live with the parents who adopted him, but shall publicly return at the age of puberty and live with his own parents, or shall marry and live separately, he shall have no share in the property of the parents who adopted him; let him only have what may already have come into his possession. In case the adopted child shall live with his adopting parents, and they shall die, let him share as eldest, second, or younger, according to the true children of the deceased. If it be of the same age as the eldest child of the adopting parents, or as the second, or younger, it shall share equally with them. Why is this?—because a child so publicly and notoriously adopted shall not return and share in the inheritance left by his own parents.

၂၇။ အကျော်အစောပြု၍။ သူသိ။ သူထင်ဖြစ်သောသားသွီးပြုသူနှင့်။ မိဘ။ ပေါက်ဖော်မဝေရာ။ ဝေရာသောတရားတပါး။

အကျော်အစောပြု၍။ သူသိ။ သူထင်ဖြစ်သောသားသွီးပြုသူနှင့်။ မိဘ။ ပေါက်ဖော်ဝေရာသောတရားနှစ်ပါးဟူသည်ကား။ မိဘနှစ်ပါးတို့တွင်။ သားရင်း။ မြေးရင်း။ မြစ်ရင်း။ တီရင်းအမွေခံလေးပါးမရှိ။ အကျော်အစောပြုသောသားရှိ၍။ ကျွေးမွေး၍။ မိဘပြုသူသေလျှင်။ ၎င်သားတို့သာ။ သေသူဥစ္စာကိုအလုံးစားစေ။ သေသူပေါက်ဖော်သားချင်းတို့မစားသာချေ။ အဘယ်ကြောင့်နည်းဟူမူကား။ ကိတ္တိမသားပြုသောသူတို့၏ မိဘအရင်း၌။ ဥစ္စာကိုပြန်၍မစားရချေပြီဖြစ်သော့ကြောင့်တည်း။ ။ဝေစားရာသည်ကား။ ထိုသေသူတို့၏။ အမိအဖဥစ္စာရပ်ကို။ အမွေမှီဖြစ်လျှင်။ ထိုသေသူပေါက်ဖော်တို့နှင့်။ ကိတ္တိမပြုသူ။ သေသူအစုတွင်ထက်ဝက်စားစေ။ တင်မြီရှိလည်း။ နည်းတူဆပ်စေဟု။ ရှင်ရသေ့ဆိုတော်မူ၏။

၂၈။ မိဘတို့နှင့်သားသွီး။ ခြွေးမ။ သမက်အတူနေရာ။ လင်ဖြစ်စေ။ မယားဖြစ်စေ။ သေလျှင်။ သမက်။ ခြွေးမတို့နှင့်။ ယောက္ခမ။ ဝေရာသောတရားတပါး။

မိဘတို့၏သား။ သွီး။ ခြွေးမ။ သမက်။ အတူနေရာသားဖြစ်စေ။ သွီးဖြစ်စေ သေလျှင် သမက်။ ခြွေးမတို့ နှင့်။ ယောက္ခမအမွေဝေရာသောတရားနှစ်ပါးဟူသည်ကား။ သွီးနှင့်သမက်တို့သားသွီးမမွေးမှီသွီးသေခဲ့။ ပေးစားထိမ်းမြားလက်ထပ်စည်ပေး ဖွဲ့မှန် သမျှ သက်ရှိသက်မဲ့ကိုစားစေ။ ခမ်ဝင်မှန် သမျှနှင့်လက်ရောက်ကိုလည်းလင်ရစေ။ သေသူအမိအဖမရသာ။ ၎င်သေသူအမွေအစုကိုရလို၏။ ယောက္ခမကိုတောင်းလည်းမရသာချေ။ သေသူသွီးဥစ္စာမိဘ၌လက်ရောက်သိမ်းထားသည် ကိုလည်းသမက်မရသာ ချေ။ ယောက္ခမရစေ။ သွီးနှင့်သမက်သင့်နေပြီးမှ။ မိဘထံတွင်အပ် ၍ ရှိလျှင်။ သမက်ထက်ဝက်။ ယောက္ခမ ထက်ဝက်ရစေ။ ဤကားသားသွီး မမွေး မမြင်မရှိ သည် ကိုဆိုသတည်း။ သားသွီး မွေးမြင်လျှင်။ ဘိုးဘွားအမွေကို စားစေဟု။ ရှင်ရသေ့ ဆိုတော်မူ၏။ တနည်းကား။ ယောက္ခမနှစ်ပါးထံလင်ရှိရာသို့။ မယားလိုက်၍။ လင်သေလျှင်။ နည်းတူဝေစားကြစေ။ ဤကား။ သားသွီးမမွေး။ မမြင်သည်ကိုဆိုသတည်း။ ၎င်တို့၌သားသွီးရှိလျှင်။ နောင်ဘိုးဘွားအမွေကိုခံစားစေဟု။ ရှင်ရသေ့ဆိုတော်မူ၏။

*27th. The law of partition between such publicly adopted children, and the relations of the father and mother, what shall, and what shall not be divided.*

The two laws regarding the partition of the property between a child so publicly adopted, and the relations of the parents: If there be no descendants from either, sons, grandsons, great grandsons, or great great grandsons, none of the four heirs, the adopted child shall at the death of the parents inherit all their property; the relations of the deceased shall have no share. Why is this?—because the adopted child has no share in the property of his own parents. If the deceased parents had any property of their parents which had not come into their possession, let the adopted child and the relations share this equally, and pay the debts in the same proportion. This the lord hermit said.

*28th. The parents, sons, daughters, sons and daughters-in-law, living together, a husband or wife dies, the law for the partition between the son or daughter, son or daughter-in-law, and the father and mother, or father and mother-in-law, what shall, and what shall not be divided.*

In case the parents and their children, sons and daughters-in-law, are living together, if a son or daughter dies, the two laws by which their property is shared by the son or daughter-in-law, (relict of deceased,) and the father and mother-in-law, are these: If the daughter dies before she has any family, let the son-in-law have all the property, animate and inanimate, which was given to him at the time of marriage; let him also have all her personal chattels, and all property actually in possession; the parents of the deceased shall have no share in these; nor shall the son-in-law, though he demand the wife's inheritance of her parents, have any right to obtain it. Besides this, he shall not recover any of his wife's property actually in the possession or keeping of her parents; they shall retain it. But if it has been placed in their charge after the marriage, the parents and son-in-law shall share it equally between them; this is said when the (young couple) have no family. If there be any children, they shall inherit the property left by their grand parents. Thus the lord recluse said.

In another case; if the woman shall live with her husband in his parents' house, and the husband shall die, let the law be the same as above, that is to say, if there be no children born to them. If there be any children, let them inherit the grand parents' property.

၂၉။ မိဘတို့သည်သားသမီးတို့ကိုအသီးအသီး။ခိုင်လုံစေပြီးမှ။ တယောက်သားနှင့် မိဘအတူ။နေစားရာတွင်။သားသေ၍ခြွေးမတွင်သားမရှိ။ယောက္ခမ။ခြွေးမ။ဝေရာသောတရားတပါး။

မိဘတို့သည်။သားသမီးတို့ကိုအသီးအသီးခွဲဝေလုပ်စေပြီးမှ။တယောက်သားနှင့်မိဘအတူစားနေရာတွင်။သားသေ၍။ခြွေးမတွင်သားမရှိ။ယောက္ခမနှင့်။ ခြွေးမ ဝေရာသောတရားတပါးဟူသည်ကား။ အကြင်သားသမီးတို့။အသီးအသီးလုပ်ယူထိန်းသိမ်းစေ၍။တဦးသောသားသမီး၌။မိဘတို့သည်နေအံ့။သားသမီးသေ၍။၎င်သေသူတွင်သားသမီးမရှိလျှင်။သေသူလင်မယားလက်ထက်။ပိုင်ထိုက်သမျှကိုလေးစုစု၍။တစုသေသူမိဘစားစေ။သုံးစုကိုခြွေးမ။သမက်စားစေ။ ။တနည်းကား။သားသမီးမွေးမြင်ရှိချေက။သုံးစုစု၍။ယောက္ခမတစု။ခြွေးမတစု။သားတစုစားစေဟု။ မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၃၀။ သမီးသမက်တို့သည်။အိုးသီးစား၍အိမ်ခြားနေရာက။သမီးသည်မိဘအိမ်ထက်ကက်၍သေသော်။သူ၏ဥစ္စာကိုဝေရာသောတရားတပါး။

သမီးသမက်သည်အိုးသီးစား၍။ အိမ်ခြားနေရာက။ သမီးသည် မိဘအိမ်ထက်တက်၍သေလျှင်။ သေသူဥစ္စာကို။ သမက်နှင့်။ ယောက္ခမဝေရာသောတရားတပါးဟူသည်ကား။အကြင်လင်မယားတို့သည်။အသီးစား၍အခြားနေရာ၌။ လင်မိဘကပါသောဥစ္စာ။ မယားမိဘကပါသောဥစ္စာ။ လက်ထက်ပွားဥစ္စာသုံးရပ်ရှိသည်နှင့်။ မယားသည်။ မိဘအိမ်သို့ ပြန်လည်နေရာသေသော်။သေသူကပါရင်းနှင့်။လက်ထက်ပွားကို။သေသူမိဘတဝက်။ သမက်တဝက်စားစေ။ သမက်မှာလက်ထက်ပွားတဝက်နှင့်။သမက်မိဘကပါရင်းကိုသီးသန့်ယူစေ။ခန်းဝင်ပေးဖွဲ့လက်ရောက်မှာ။ သမက်အလုံးရစေ။သေသူဥစ္စာမပါ။သမက်ဥစ္စာရင်းဖြစ်လျှင်။ သမက်။ယောက္ခမအိမ်ထက်သို့ပါသမျှဥစ္စာရပ်ကိုသာ တဝက်ယောက္ခမ စားစေ။ သေရာမပါ သမျှမှာ။ ယောက္ခမမစားသာ။၎င်တွင်သားသမီးရှိ၍သေလျှင်။ မိဘ ယူသည်ဥစ္စာရပ်ကို။ မိဘနှစ်ပါးသုံး၍ကုန်လျှင်ကုန်စေ။မသုံးမကုန်ရှိလျှင်။သေသူပေါက်ဖော်တို့ မခွဲမဝေမယူသာ။ ဘိုးဘွားသေလျှင်။ အထက်သေသူ သားသမီးတို့စားစေ။ သေသူ၌သားသမီး မရှိက။ သမက်သည်ငမယား ဥစ္စာ ဖြစ်သည် မဆိုသာချေ။ သေသူပေါက်ဖော်တို့သာစားစေ။တင်မြဲရှိလည်း။နည်းတူဆပ်စေဟု။ရှင်ရသေ့ဆိုတော်မူ၏။ ။သားခြွေးမတို့သည်။အိုးသီးစား၍အခြားနေရာက။သားသည်အမိအဖ အိမ်ထက် တက်နေ၍။ သေသောသူ၏ ဥစ္စာကို။ ဝေရာ သော

29th. *Parents having given their children a sufficiency, one son with whom the parents are living, dies without issue, the law of partition between the parents and widow of the deceased.*

If after the parents have set their children up separately, one of the sons with whom the parents are living, shall die, leaving no children by his wife, the law by which the property is divided between the daughter-in-law and her father and mother-in-law, is this: If after the children have been set up separately, the parents shall live with one of them, and the son or daughter with whom they are residing dies, leaving no issue, let all the property of the wife or husband of the deceased be divided into four parts, and let the parents of the deceased have one part, and the son or daughter-in-law three. In case there be children, let the property be divided into three shares, of which let the mother or father-in-law have one, the daughter or son-in-law one, and the children one. Thus Menoo the lord hermit said.

30th. *A daughter and son-in-law living separately in a house of their own, the daughter returns to the house of her parents, and there dies, the law for the partition of her property.*

A daughter and son-in-law have gone to live away from their parents in a separate house, but the daughter returns to her parents' house, and there dies, the law for the partition of her property between the son-in-law and his father and mother-in-law in such a case is this: If any man and wife, whilst dwelling in a separate house (from their parents,) shall have property that came from the husband's parents, from the wife's parents, and property acquired during their marriage, and the wife, returning to the house of her parents, shall there die, let her parents have half of the property that came with the deceased, and that acquired during the time that she lived with her husband, and let the son-in-law have the other half, as well as all the property he brought with him, and his wife's personal chattels and wedding presents. If the deceased had no property at marriage, but all the property was that of the son-in-law, let his father and mother-in-law have only one half of the property their daughter brought with her to their house; they shall have no share of property so brought. Should she have children, if what she took with her to her parents' house be expended, let it be so, but if not, her relations shall have no share in it; on the death of their grandfather and grandmother, let it go to her children. If she has no children, the son-in-law shall not claim this property as his wife's; her relations only shall share it, and let them pay a proportionate share of the debts. Thus the sage recluse said.

In case the son and daughter-in-law, having separated from their parents, live in a house of their own, and the son shall return and die in the house of his parents, the law for the partition of his property

တရားတပါးဟူသည်ကား။ လင်မယားတို့သည်။ အသီးစား၍အခြားနေရာ၌။ လင်မိဘကပါသောဥစ္စာ။ မယားမိဘကပါသောဥစ္စာ။ လက်ထက်ပွားသုံးရပ်ရှိသည်နှင့်။ သားသည်မိဘအိမ်သို့ပြန်လည်နေရာသေသော်။ သေသူကပါရင်းဥစ္စာနှင့်။ လက်ထက်ပွားတဝက်ကို။ သေသူမိဘဖြစ်သူစားစေ။ ၎င်ခြွေးမလက်ထက်ပွားတဝက်နှင့်။ ခြွေးမမိဘကပါရင်းကိုသီးသန့်ရစေ။ ခမ်ဝင်ပေးဖွဲ့လက်ရောက်မှာ။ ခြွေးမအကုန်ရစေ။ သေသူဥစ္စာမပါ။ ခြွေးမကဥစ္စာရင်းဖြစ်လျှင်။ ယောက္ခမအိမ်ထက်သို့ပါသမျှဥစ္စာကိုသာ။ တဝက်ယောက္ခမစားစေ။ သေရာမပါသမျှယောက္ခမမစားသာ။ ၎င်တွင်သားသ္မီးရှိ၍သေလျှင်။ မိဘယူသည့်ဥစ္စာရပ်ကို။ မိဘနှစ်ပါးသုံး၍ကုန်လျှင်ကုန်စေ။ မကုန်ရှိလျှင်။ သေသူပေါက်ဖော်တို့မခွဲမဝေမယူသာ။ ဘိုးဘွားသေလျှင်။ အထက်သေသူမိသားတို့စားစေ။ သေသူ၌သားသ္မီးမရှိက။ ခြွေးမသည်ငလင်ဥစ္စာမဆိုသာချေ။ သေသူပေါက်ဖော်တို့သာစားစေ။ တင်မြဲရှိလည်း။ နည်းတူဆပ်စေဟု။ ရှင်ရသေ့ဆိုတော်မူ၏။

### ၃၁။ မိဘအိမ်၌သ္မီးသေ၍။ သမက်မယားငယ်နေရာ။ လိုက်၍ယောက္ခမနှင့်ဝေခြင်းတရားတပါး။

မိဘအိမ်၌ သ္မီးသေ၍။ သမက်သည် တပါး မယားငယ် နေရာလိုက်၍။ ယောက္ခမနှင့်။ ဝေခြင်းတရားတပါးဟူသည်ကား။ အကြင်သ္မီးနှင့်။ ပေးစား၍ယောက္ခမနှင့် အတူနေရာတွင်။ သားသ္မီး မရှိ။ သ္မီးသေ၍ ယောက္ခမ အိမ်ကသမက်မယားသစ်မိဘအိမ်သို့လိုက်၍ နေသော်လည်းကောင်း။ သီးခြားနေသော် လည်း ကောင်း။ ယောက္ခမကို မယားအမွေစု ရကောင်းသည် သမက်တောင်းသော်မရရာ။ ယောက္ခမတို့သေလည်း။ အမွေတောင်း၍မရရာ။ ရရာသည်ကား။ ထိုသ္မီးတို့ဥစ္စာကို။ သမက်အသိအမြင်။ သ္မီးမိဘမှတ်သား၍သုံးသည်ဖြစ်လျှင်။ သမက်ကရစေ။ သ္မီးနှင့်နေစဉ်ကဥစ္စာကို။ ယောက္ခမတို့ကမခွဲမဝေသာပြီ။ အဘယ်ကြောင့်နည်းဟူမူကား။ ခွဲဝေပေးပြီးသည်ဥစ္စာရပ်ဖြစ်သောကြောင့်တည်းဟုဆိုတော်မူ၏။

### ၃၂ သားသ္မီးတို့ကိုမိဘပေးထိမ်းမြား၍အခြားနေရာတွင်။ နှစ်ပါးစုံသေ။ သားသ္မီးတို့၏မိဘနှစ်ပါး။ ဝေရာသောတရားတပါး။

သားသ္မီးတို့ကိုမိဘနှစ်ပါးပေးထိမ်းမြား၍ အခြားနေရာတွင်။ နှစ်ပါးစုံသားသ္မီးတို့၏ မိဘ နှစ်ပါးတို့ ဝေရာသော တရား နှစ်ပါး ဟူသည်ကား။ အကြင်လင်မယား နှစ်ပါးစုံ အိမ်ခြား နေရာတွင်။ သားသ္မီးမရှိ။ နှစ်ပါးစုံသေ

is this: If the party living separately has both brought property at marriage, and has acquired property since, and the son returns and dies in the house of his parents, let them have all his original property, and one half of that acquired after marriage; let the daughter-in-law have the other half, and all her own original property and personal chattels that have come into her possession. If the deceased had no original property, and the daughter-in-law had, let her father and mother-in-law only have one half the property their son may have brought into the house with him, but of other property they shall have no share. Should he have children, if the property he took with him to his parents' house be expended, let it be so; but if not, his relatives shall have no share at the death of their grandfather and grandmother; his children shall have the whole. If he had no children, the daughter-in-law shall have no right to claim it as her husband's property; only his relations shall inherit, and pay a proportionate share of the debts. Thus the lord hermit said.

31*st. A daughter dies in the house of her parents; the son-in-law having taken a second wife, goes to her place of residence,—the law for the partition of the property between him and his father-in-law.*

The law for the partition of the property between a son-in-law and his father and mother-in-law, when their daughter dies in the house of her parents, and the son-in-law removes to the place of abode of a second wife, is this: Parents having given a daughter in marriage to a son-in-law who resides in the house with them, if their daughter dies without issue, and the son-in-law takes a second wife, and goes to her house to dwell, or dwells separately, the late father-in-law shall retain the undelivered part of his daughter's inheritance; the son-in-law shall have no claim on it. At the death of the father-in-law, because (his wife) was not in reach of the inheritance, he shall still have no claim. He has a right to any property that the parents, with his knowledge, in the presence of witnesses, may have borrowed for a time from their daughter, and the parents shall not share with him the property possessed at marriage by the daughter. Why is this?—because it has already been divided and disposed of. This he said.

32*nd. Parents having given their children in marriage, and in a separate residence, they both shall die, the law for the partition of their property between the parents of both.*

When the parents on both sides have given their son and daughter in marriage, and they dwelling apart from their parents shall both die the law by which the partition of their property is made between the parents of both, is this: If any husband and wife, living in a separate dwelling, shall both die without issue, let the parents of the wife have

သော်။မယားကပါရင်းကို။မယားမိဘကယူစေ။ လင်ကပါရင်းကို။လင်မိဘ
ကယူစေ။နှစ်ပါးစုံလက်ထက်ပွားကိုလည်းအညီခွဲဝေယူကြစေ။ ၎င်တို့တွင်
မယားကပါ။လင်ကပါဥစ္စာမရှိ။နှစ်ပါးစုံတွင်ဖြစ်ပွားသည့်ဥစ္စာရှိသော်ရှိက
လည်း။အညီယူကြစေ။ မယားကဥစ္စာမပါ။လင်ကဥစ္စာပါလျှင်။ဥစ္စာကိုသုံး
စုစု၍ နှစ်စုပါရင်းသူမိဘကစားစေ။တစုကိုမယားမိဘကစားစေ။လင်ကမပါ
မယားကပါလည်း။သုံးစုစု၍ နှစ်စုကိုမယားမိဘကစားစေ။တစုကိုလင်မိဘ
တို့စားစေ။မယားအယင်သေ၍။လင်နောက်မှသေသည်ဖြစ်လျှင်။ အယင်သေ
သူမိဘတစု။နောက်သေသူမိဘနှစ်စုစားစေ။ တင်မြီရှိလည်း နည်းတူဆပ်စေ။

၃၃ သားကိုသားချင်း။မြေးကိုမြေးချင်း။မြစ်ကိုမြစ်ချင်း။ဝေရသောတရားတပါး။

သားကိုသားချင်း။မြေးကိုမြေးချင်း။မြစ်ကိုမြစ်ချင်း။ဝေရသောတရား
တပါးဟူသည်ကား။အမေးဥစ္စာရပ်ကို။အဖိုးတို့တွင်မဝေဖြစ်လျှင်။ တရားစု
ရှိသည်အတိုင်း။အဖချင်းဝေရာ၏။၎င်တို့တွင်မဝေဖြစ်လျှင်။ သားချင်းဝေရာ
၏။၎င်တို့မဝေဖြစ်လျှင်။မြေးချင်းဝေရာ၏။ ၎င်တို့တွင်မဝေဖြစ်လျှင်။မြစ်ချင်း
ဝေရာ၏။တဦးသောသူကဘိုးဘွားမိဘရှိက။တဦးသောသူမှာမြေးမြစ်ရှိလျှင်
လည်း။ အထက်အဖိုးအဖွားတို့အမွေမှီသည်။ မမှီသည်အတိုင်းခွဲဝေယူကြ
စေ။ သည်ကိုရည်၍အဖေးဆုံသော်။ အလျှော်စရိတ်မစားသာ။ အမွေဘက်။
အမွေခံဖြစ်၍ဆိုသတည်း။၎င်တို့တွင်တဦးသောသူက။ တီသို့ရောက်မည်ဖြစ်
လျှင်။တီကိုပင်ဝေစားစေ။တီကိုတီချင်းရောက်မှုမှုကား။မဝေသာပြီ။

၃၄ မိဘနှစ်ပါးတို့မိမွှငါးယောက်မွေးရာ၌။သားတယောက် ဝေခြင်းတရားတပါး။

မိဘနှစ်ပါးတို့မိမွှငါးယောက်မွေးပြီးမှ။ ယောက်ျားတယောက်မွေးရာ
၌။ ဝေရသောတရားတပါးဟူသည်ကား။ အကြင်မိဘတို့သည်။ သမီးငါး
ယောက်မွေးမြင်မှ။ ဆုတောင်းပဌနာကြောင့်။ သားယောက်ျားတယောက်
မွေးလျှင်။အဖတန်ဆာဝတ်စားစေပါ ကျေးကျွန်မြင်း ဓါးဇလားရေကိုင်ကွမ်း
ကိုင်။မိမိတို့၏အမျိုးအလျောက်ရှိလျှင်။ သားယောက်ျားယူစေဦး။ အမိဝတ်
စားတန်ဆာကိုသမီးကြီးယူစေဦး။ကြွင်းသောဥစ္စာသက်ရှိသက်မဲ့မှာ။နှစ်မအ
ကြီးနှင့်။မောင်အငယ်အမျှစားစေ။၎င်မှကြွင်းသောနှစ်မတို့မှာ။နှစ်မအကြီး
ကသက်သည်အမွေစုအတိုင်းဝေစားကြစေ။တင်မြီရှိလည်းနည်းတူဆပ်စေ။
အဘယ်ကြောင့်နည်းဟူမူကား။ မိမွှနှင့် ယောက်ျားတွင်။ ဘုရားရှင်ဟော

what she brought with her at marriage; let the parents of the husband have what he brought with him originally, and let the property acquired during the marriage be divided equally between both. If they had no property originally, let the parents divide equally what they have acquired. If the wife had no original property, and the husband had, let it be divided into three shares, and let his parents have two, and the wife's parents one. If the husband had no original property, and the wife had, let it be divided into three shares, and let the parents of the wife have two, and of the husband one. If the wife dies first, and the husband after her, let the parents of the one who died first have one, and of the person who died last two shares, and pay the debts in the same proportion.

33*rd. The law for the partition of the property between sons separately and only, grandsons separately and only, and great grandsons separately and only.*

The law for the partition of inheritance by sons between themselves, grandsons between themselves, and great grandsons between themselves, is this: If the inheritance of the great grandfather has not been divided by the grandfather, according to the legal shares, the fathers may divide it; if it be not divided amongst them, the sons may divide it among themselves; if it be not divided amongst them, the grandsons may divide it amongst themselves; if it be not divided amongst them, the great grandchildren may divide it amongst themselves. If one (descended from a common great grandfather) shall have father and grandfather alive, and another, grandsons and great grandsons, let them divide the inheritance of the great grandfather, as they may be in reach of it, (that is, born before it was divided;) and on this account it is that descendants of a common great grandfather shall not receive from each other damages in compensation, as they are co-heirs. If there be a great great grandson of one descendant, let him have his share; when there comes to be only great great grandsons, the property shall not be shared, (that is, when the property has been undivided in the hands of one branch.)

34*th. The law of partition between five daughters and one son.*

A father and mother, after having five daughters, shall have one son: If any parents, after having had five daughters, shall by the means of their prayers have a son, let him inherit his father's clothes, ornaments, personal slaves, house, sword, goblet, water and betel bearer, according to his class in society, in the first instance; then let the eldest daughter have her mother's clothes and ornaments, and of all the remaining property, animate and inanimate, let the eldest sister and the youngest (son) have equal shares, and let the other sisters share according to their ages in the share which falls to the sister, and pay the debts in the same proportions. Why is this ?—be-

တော်မူသောတရားတော်၌ရှိသဉ်ကား။မိမ္မရဟာန်းတာဖြစ်စေ။ယနေ့ပြုသော
သာမနေယောကျ်ားကိုမတူရာဟု။ တရားတော်မြတ်ရှိသည်ကို ထောက်၍။
ယောကျ်ားအမြတ်ဖြစ်သောကြောင့်တည်းဟု။ရှင်ရသေ့ဆိုတော်မူ၏။

၃၅ မိဘနှစ်ပါးပေးထိမ်းမြား၍။ထိုရသောသားမှန်သမျှတွင်ဝတ်ရုံ။စားရုံပေးသော
တရားတပါး။

မိဘနှစ်ပါးပေးထိမ်းမြား၍ရသောသားကြီးသြောရသဆိုသဉ်။ ထိုသား
၏ပေါက်ဖော်အများရှိသည်တွင်။ တစုံတယောက်သောသားသွီးသည်။ ပူရိ
သာဗော။ကုတ္တိဗော၏။ ဆန့်ကျင်ဘက်ဖြစ်ခြင်း၌။မွေးဖွားရင်းယောကျ်ားဖြစ်
သည်။နောင်လဆန်းယောကျ်ား။လဆုတ်မိမ္မဖြစ်သဉ်ကို။ဝတ်ရုံ စားရုံမျှသာ
ပေးစေ။နဗုံမိမ္မလျှာအင်္ဂါပျက်သည်ကိုဆိုသတည်း။

၃၆ မိဘနှစ်ပါးသားသွီးတို့။ရူး သွပ်ဆွံ့အ။နားပင်း။ မျက်မမြင်ဖြစ် သော်လည်း။ အစု
မှန်ရာ။ဝေရာသောတရားတပါး။

အကြင်မိဘတို့သည်ပေးထိမ်းမြား၍။ရသောသားသွီးတို့၌။ တယောက်
သောသူအနာကြီးစွဲရှိ၍။ချဉ်ွ။နဲ့။ဆွံ့။အ။ရှိလျှင်။အစုဆိုင်အတိုင်းထား၍။
ပေါက်ဖော်တို့ကျွေးမွေးစေ။ထိုသူသေလျှင်ကျွေးမွေးသူတို့ယူစေ။ မျက်စိကန်း
နားပင်းဖြစ်သော်လည်း။အရေးအရာရက။အစုအတိုင်းစားစေ။သားအကြီး
မျက်စိကန်းနားပင်းဖြစ်လျှင်။ သားငယ်အင်္ဂါညီညီအဖအရာ စီးဆင်စီးမြင်း
အမှုထမ်မှာတည်စေ၍။ အကြီးအရာသို့ရောက်စေ။ အရူး။ အအ။ အဆွံ့။
မျက်စိကွယ်သူတို့သည်။ ဆေးဖြင့်ကုလျှင်။ ချမ်းသာခြင်းရှိရာသောကြောင့်။
အစုအပုံမှာအညီထားစေဟု။ရှင်ရသေ့ဆိုတော်မူ၏။

၃၇ လင်ပုဏ္ဏား။ မယား အမျိုးလေးပါးတို့နေရာ၌။ လင်သေ၍ ဝေရာ သောတရား
တပါး။

လင်ပုဏ္ဏားသည်။မယားလေးယောက်ကို နေရာ၌။ လင်သေ၍။ ဝေရာ
သောတရားနှစ်ပါးဟူသည်ကား။အကြင်ယောကျ်ားသည်။ တအိမ်စီမယား
အများအသီးအသီး ဆောက်ထား၍ လက်ဆုံစားအံ့။ အိမ်သီး အခြားနေ၍
လက်ရောက်ပေးသည်။ တယောက်အိမ်မှာ တယောက်မလိုက်မစား။ တမ
ယားဥစ္စာတမယားသို့မရောက်သာ။ကိုယ်စီခံစားကြစေ။ငှင်မယားတို့နေရာ
တွင်။လင်မိဘဥစ္စာငါ၏အိမ်၌ထားသော ဥစ္စာဖြစ်သည်မဆိုသာချေ။ ငှင်တို့
တွင်။ နေဦး။ နေနှောင်းသည်။ မယားကြီး မယားငယ်မည်၏။ မယားကြီး

cause the most excellent gods have said, let a woman be a Rahandah; she is not equal to a priest in the first day of his entering the lowest grade of the priesthood; on the strength of this sacred law, a male is the most excellent. Thus the lord hermit said.

35*th. The law for providing all children born in marriage with necessary support, food and clothing, and no more.*

The eldest son of a couple given in marriage by their parents is called auratha; if amongst his many brothers and sisters, there shall be one who has both the male and female organs of generation, which are enemies, who is a male when first born, but who afterwards becomes a male in the waxing and a female in the waning of the moon, such a child shall only have his necessary clothes and food; his organs are irregular; he is called an hermaphrodite.

36*th. The law of partition by which children who are mad, imbecile, stutterers, dumb, deaf, or blind, shall have their full share.*

If amongst the children of a couple so given in marriage by their parents, one shall have severe disease, shall be unable to walk, shall stutter, or be dumb, let the share such child is entitled to be set aside, and let its relations support it, and at its death let the person who so supports take his share; if he be blind, or deaf, but perfect in his intellect, let him have his proper share. If the eldest son be blind, or deaf, let the younger, whose organs are perfect, take the father's place, and have his riding horse and elephant, and do his duty (to the state,) and take the place of the elder. But as mad, dumb, and lame people, and those who have disease of the eyes, may be relieved by medicine, let their portion be regularly set aside for them. Thus the lord hermit said.

37*th. A bramin husband having a wife of the four other classes, the law of partition at his death.*

A (bramin) husband having four wives of the four classes, the two laws for the partition of his property at his death are these: When a man has built separate houses for his wives, eats out of the same dish with them, and makes presents to them separately, if they do not come and eat at each others' houses, the property of one shall not go to the others; let each keep what she has, but no one shall claim the property of the husband's parents because it was in her house (at his death.) They are called great, or lesser wives, according to the priority of their marriage, but it is only a name; let her restore the pro-

မယားငယ်ဆိုရသည်။ သားလင်မိဘဥစ္စာကိုပြန်ပေးစေ။ ၎င်တို့တွင်သားသွီးရှိလည်း။ အဖအရာကိုဆောင်စွမ်းနိုင်လျက်။ မင်းသိစိုးထင်ဖြစ်ပေကလည်း။ အဖအရာကိုထိုသားခံစေ။ တင်မြီရှိလည်းနည်းတူဆပ်စေဟု။ ၍င်ရသော့ဆိုတော်မူ၏။

၃၈ လင်သည်တအိမ်တည်း၌လက်ဆုံစားမယားအများနေ၍။ လင်သေသော်ဝေရာသောတရားတပါး။

လင်သည်တအိမ်တည်းလက်ဆုံစားမယားအများနေ၍။ လင်သေဝေရာသောတရားနှစ်ပါးဟူသည်ကား။ အကြင်ယောကျ်ားသည်။ နေဦး။ နေလယ်။ နေနှောင်းရှိ၏။ တဦးဦးသောမယားကပါရင်းဖြစ်စေ။ လင်နေမှရသောမိဘအမွေဖြစ်စေ။ အသီးအသီးရသည်အတိုင်းယူကြစေ။ လက်ရောက်ခမ်ဝင်ပေးသည်အတိုင်းလည်းယူကြစေ။ ထိုမယားတို့တွင်သားယောကျ်ားအညီရှိကြလျှင်။ မယားဦးမယားကြီးဖြစ်စေဆိုတုံ၏။ တယောက်ယောက်သောမယားသား။ မင်းသိစိုးထင်ဖြစ်က။ အဖအရာဖြစ်စေ။ လင်မိဘဥစ္စာမျိုးကို။ ၎င်မယားတို့ကိုနေမှရလျှင်။ အမျိုးအလျောက်ခွဲဝေယူစေ။ တယောက်ယောက်ကိုသာလင်ပေးသည်ဟူ၍။ မခွဲမဝေမပေးမနေသာ။ လင်ဥစ္စာဖြစ်သည်ဝေယူစားကြစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ။ ၎င်တို့သားချင်းဝေကြလည်း။ ဘမိတို့ဝေခြင်းအတိုင်းပေယူစားစေဟု။ ၍င်ရသော့ဆိုတော်မူ၏။ ။၎င်မယားတို့ကိုနေရာ၌။ တဦးမယားသားသွီးမမွေး။ မယားသေလျှင်။ လင်ပိုင်သည်။ မယားသေသည်နောက်။ လင်သုံးစား၍ကုန်လျှင်ကုန်စေ။ မကုန်ကျန်၍ လင်သေလျှင်။ ကြွင်းသောမယားသားတို့အမျိုးအလိုက်ဝေယူစားကြစေ။ တင်မြီရှိလည်း။ နည်းတူဆပ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ မယားအမွေကိုလင်။ လင်အမွေကိုမယား။ ခံစားပိုင်ချေသောကြောင့်တည်း။

၃၉ သားသွီးတမိ တဖတည်းတွင်ဝေသင့်ရာ။ သက်သေဆောင်ခြင်း။ အမွေခမ်းတရားတပါး။

မိဘနှစ်ပါးပေးထိမ်းမြား၍။ ရသောသားသွီးတို့တွင်။ တစုံတယောက်။ နဖူမ်ပနိုး တုပ်ပနိုးနူ။ အင်္ဂါကြီးငယ်ချို့တဲ့သူတို့ကို။ ဝတ်စားရုံလည်းဆို၏။ တနည်းလည်း။ သွီးသားမှန်က။ အမျှအစုအတိုင်းစားစေဆိုသတည်း။ ၌အရာကိုသက်သေဆိုတုံပေအံ့။ ဒိပင်္ဂရာ မြတ်စွာဘုရား ရှေးလက်ထက်တော်။ ဗါရာဏသီပြည်၌။ သူဌေးလင်မယားနှစ်ယောက်တို့သည်။ သားယောကျ်ားငါးယောက်ဖွားပြီးနောက်။ သွီးတယောက်ဖွား၏။ ထိုနောက် မြေကိုဖွား၍။

perty of the husband's parents. If they have sons, let him who is best qualified, and known to the chiefs and nobles, take his father's place, and bear the relative proportion of his debts. Thus the lord hermit said.

38*th. The law of partition on the death of a husband who had many wives living in the same house, and eating out of the same dish.*

In case of a husband living in the same house with many wives, who eat out of the same dish, the two laws are these: If a man's first, second, or third wife had property at marriage, or had inherited any from her parents after marriage, let each keep what they have, with whatever presents they may have received (from the husband,) and their wedding presents. If they shall have the same number of male children, it is said the first married shall be the head wife; but if the son of one of the others is remarkable (above his brothers,) and known to the heads of the people, the chiefs, let him take the place of his father. If the husband shall have inherited his parents' property after the marriage of these wives, let them divide it, and share according to their class; if one shall claim a portion as a gift from her husband, she shall not retain it; it is the husband's property; let them share it, and pay the debts in relative proportions, and in this division let the children have their mother's share (when she is dead.) Thus the lord hermit said.

If one of the wives shall die without issue, the husband has a right to her property; if he shall expend the whole, he has a right to do so. If not expended at his death, let what remains be divided amongst the other wives and children according to their class, and let them pay debts in proportion. Why is this?—because the husband inherits from the wife, and the wife from the husband.

39*th. Children of the same father and mother, who by precedent have a right to inherit.*

If amongst the children of a couple regularly given in marriage by their parents, one be an hermaphrodite, or guilty of unnatural crime, or imperfect in his organs, it has been said he shall have no inheritance. It is also said, that all children who are legitimate shall have their proper share. In this matter I will give an instance. In the golden time of the most excellent Para Diepengara, in the country of Benares, a man of the wealthy class and his wife had five sons and one daughter, and after this the wife bore a snake. They were

သူဌေးလင်မယားရှက်ခြင်းကြောင့်။သူတကာမသိရအောင်။ တောင်ပို့ဝယ်ဖှက်ထား၍။မပြတ်မိဘအစားပေး၏။ကာလရှည်လျှား၍။သူဌေးလင်မယားသေရာတွင်။ပေါက်ဖော်တို့ ဥစ္စာပုံကိုခြောက်စုစု၍ အမျှဝေမည်ပြုသည်ကာလ။မြွေလာ၍ငအစုမထားဖြစ်သည်။ စိတ်ကသိသော့ကြောင့်။ ခြောက်စုစုသည် အမွေဝေပုံကို။ အမြီးနှင့် သိမ်းခပ်ဖျက်ဆီးပြီးလျှင်။ နေမြဲ တောင်ပို့ခေါင်းသို့ပြန်၍ဝင်နေလေ၏။ နောက်တကြိမ်ခြောက်စုခြောက်ပုံပြုပြန်သည်တွင်လည်း။ထိုမြွေသည်နည်းတူဖျက်ဆီးပြုပြန်ခဲ့၏။ထိုအကြောင်းကို။ဗါရာဏသီမင်းကြီးအား။ မြွေနှင့်ပေါက်ဖော်တို့။ တမိတဖတည်း။ဖြစ်ကြောင်းကိုလျှောက်ထား၍။မင်းကြီးက။တမိတဖတည်းဖြစ်ချေသည်။ မြွေအဖို့လည်းစုပုံပေဆိုတော်မူ၍။ ခုနှစ်စုစုထား၏။ ထိုအခါမြွေလာပြန်၍။ ခုနှစ်စုအနက်။တစုကိုအမြီးနှင့်သိမ်းခပ်ပြီးလျှင်။ နှစ်မငယ်အစုမှာနှောရောထားခဲ့၍။ မြွေသည်နေမြဲတောင်ပို့တွင်းသို့ဝင်နေလေ၏။နှစ်မငယ်လည်း။ထိုမြွေကိုအသက်ရှိသ၍။အစားမပြတ်ကျွေးမွေး၏။ ထိုကိုရည်၍တမိတဖတည်း။ မိဘနှစ်ပါးပေးထိမ်းမြား၍။ရသောသားသမီးဖြစ်က။ တိရိစ္ဆာန်မြွေပင်စားရထိုက်ရှိသော့ကြောင့်။အမျှဝေယူစားကြစေဟု။ ရှင်ရသေ့ဆိုတော်မူ၏။ ။တနည်းလည်း။သားတို့၏အရည်အခံမှာရှိချေသည်။ပညာဖြင့်ဆင်ခြင်၍ရှင်ရသေ့ဆိုတော်မူ၏။

၄၀ မယားကြီးတစ်။အပြောင်တစ်။ကျွန်မယားတစ်။ဝေရေသောတရားတပါး။

အကြွင်လင်သည်မယားကြီးတစ်။အပြောင်တစ်။ကျွန်မတစ်ကိုသိမ်း၍။သေခဲ့တုံအခွံ။ ဆိုခဲ့ပြီးသောမယားအပြောင်။ ကျွန်မတွင်သားသမီးမရှိဖြစ်ချေအခွံ။လင်ဥစ္စာကိုဝေရာသည်ကား။ခုနှစ်စုခွဲပြု၍။မယားကြီးလေးစု။ အပြောင်သုံးစု။ကျွန်မတစုခွဲဝေယူစားကြစေ။

၄၁ ဇင်မယားသား။အပြောင်သား။ကျွန်မသား။ဝေရာသောတရားတပါး။

သားမှိုလည်းနည်းတူဝေစေ၊ မြေးရှိလည်းနည်းတူဆပ်စေဟု။ ရှင်ရသေ့ဆိုတော်မူ၏။ ။ဤအရာ၌သမီးသားတယောက်စီကိုသာဆိုသည်။တဦးက။အများရှိလျှင်။ဆင်ခြင်၍ဝေစားစေ။

၄၂ အပြောင်ခြောက်ပါးတို့။ဝေရာသောတရားတပါး။

အပြောင်ခြောက်ပါးတို့ဝေရာသောတရားတပါးတည်း။ အပြောင်ခြောက်ပါးဟူသည်ကား။မယားကပါသောအပြောင်ကျွန်မတစ်။ လင်ကပါသောအ

ashamed to have the fact known, and concealed it in a hollow hillock, and fed it regularly. After a long time, at the death of the man and his wife, when the relations (children) had portioned the property into six lots, and were about to divide it, the snake came, and seeing no share for himself, upset the heaps with his tail, and returned to his former place of concealment; they parted them off a second time, and as before he came and upset them. When the king of Benares came to know this, and that the snake was the son of the same parents, he ordered a share to be set apart for him. They then divided it into seven shares; he came again, gathered a share with his tail, and having mixed it with that of his sister, returned to his old residence, and the sister continued to supply him with food as long as he lived. On the authority of this (decision,) all children of the same father and mother, regularly given in marriage by their parents, shall have an equal share, because in this example even a brute snake had a share. Thus the lord hermit said. It is also said, the wise man shall consider the character of the children.

40*th. The law of partition between a head wife, a concubine, and a slave wife.*

If a husband who has taken one head wife, one concubine, and one slave wife, shall die without issue by any of them, let the husband's property be divided into seven and a half shares, and let the head wife have four shares, the free concubine three, and the slave concubine the half share. If they have children, they shall have the same, and if there be debts, pay them in the same proportions. Thus the hermit called Menoo said.

41*st. The law of partition between the childran of the abave.*

This is said when they have only one child. If one have many children, let the inheritance be divided after mature consideration.

42*d. The law of partition between the six kinds of concubines.*

The law of partition between the six kinds of concubines is this: The six kinds of concubines are these; 1st, a female slave that came at marriage with the wife; 2nd, a female slave who came at marriage

ပြောင်ကျွန်မတစ်။ မယားမိဘကရသော အပြောင်ကျွန်မတစ်။ နှစ်ပါးစုံတွင်ဝယ်၍ရသောအပြောင်ကျွန်မတစ်။လင်မယားနှစ်ယောက်သင့်နေပြီးမှလင်မိဘကရသောကျွန်မအပြောင်တစ်။ကြေးငွေမအပ်။လက်ဆိုမစား အပြောင်ဖြစ်သောမိမ္ဘတစ်။ ထိုခြောက်ယောက်သော မယားအပြောင်တို့ဝေရာသည်ကား။ လင်ရှိစည် လက်ရောက်သမျှကို အသီးအသီးပိုင်ကြစေ။ ၎င်ခြောက်ယောက်ပြင်။မယားကြီးရှိလျှင်။မယားကြီးမှာလေးစုစားစေ၊ကျေးငွေမစပ်တော်အပြောင်မှာသုံးစုစားစေ။ ထိုနှစ်ယောက်မှကြွင်းသောကျွန်ပြောင်ငါးယောက်တို့မှာ သွီးမွေး တဝက်လွတ်စေ။ သားယောက်ျားမွေးလျှင်။ ကိုယ်လွတ်စေ။ အမွေမဝေ သာပြီ။ တော်ပြောင်နှင့်။ မယားကြီး ရှိသော့ကြောင့်တည်း။

တနည်းမှာလည်း။ငါးယောက်သားတို့ကျွန်ရိုးကျွန်စည်မဟုတ်။အမျိုးရှိအပြောင်ကျွန်မှန်က။ဆဲ့ခွဲတွင်ခွဲဝေစားစေ။ အစည်ကျွန်ရိုးမှာ။မစားမရသာချေ။အဘယ်ကြောင့်နဉ်းထူမူကား။အရှင်မလွှတ်က။ အစဉ်သန္တကဖြစ်သော့ကြောင့်တည်း။တင်မြဲရှိလည်းနည်းတူဆပ်စေ။

၄၃ ၎င်သားခြောက်ယောက်တို့။ဝေရာသောတရားတပါး။

အပြောင်ခြောက်ပါးသွီးသားရှိလျှင်။အထက်အမွေစုအတိုင်းဝေစားယူကြစေ။ ၎င်အပြောင် ခြောက်ပါးတို့တွင်။ အပြောင်ငါးပါး မယား၌။ သားယောက်ျားရှိလျှင်။ အဖဝတ်စားတန်ဆာကို အဖအရာစားစေဟု ရှင်ရသေ့ဆိုတော်မူ၏။

၄၄ မယားကြီးသေ။သားသွီးရှိ။ လင်သည်ကျွန်မကို လက်ဆိုစား၍နေရာတွင်။လင်သေရာ၌မယားကြီးသား။ကျွန်မသားတို့ဝေရာသောတရားတပါး။

မယားကြီးသေ။ သားသွီးရှိလင်သည်။ ကျွန်မကို လက်ဆိုစား၍နေရာတွင်လင်သေရာ၌။မယား။သား။ကျွန်မသားတို့ဝေရာသောတရား တပါးဟူသည်ကား။အမျိုးရည်တူကိုမယားပြု၍သွီးမွေးအံ့။မွေးပြီးမှ မယားသေ၍။လင်သည်ကျွန်မကိုလက်ဆိုစား၍ မယားပြုရာ၌။သားသွီးမွေး၏။ လင်သေ၍။ကျွန်မလည်းသေ၏။သားနှစ်ဦးဝေရာသည်ကား။ အထက်မယား လက်ထက်ကပါဥစ္စာ။ အထက်သား အလုံးယူစေ။ နောက်ကျွန်မတွင် မွေးသောသားသည်။ချင့်မိနှင့်သင့်နေရာတွင်ဖြစ်ပွားသမျှဥစ္စာကိုသုံးစုစု၍။နှစ်စုကျွန်မသားရစေ။ တစုအထက်မယားကြီးသားစားစေ။ တင်မြဲရှိလည်းနည်းတူဆပ်စေ။

with the husband; 3rd, a slave obtained from the parents of the wife; 4th, a slave obtained by purchase after marriage; 5th, a slave obtained from the parents of the husband after marriage; 6th, a concubine not bought, but who eats not from the same dish. On a division between these six concubines, let each keep what she has obtained by gift, and of which she had been put into possession during the life of the husband. If besides these six, there be a head wife, let her have four shares, the free concubine three, and the five slave concubines, if they have daughters, let them have one half of their price remitted; if they have sons, they shall be free; they shall have no share in the inheritance, because there is a free concubine and a head wife.

In another case; if they be not slaves by descent, but of a free family, and taken as concubines, let them have only half a share. If they are descended of slaves, they shall have none. Why is this?—because if their owner refuses to release them, they must continue slaves.* If there be debts, let them pay in proportion to their receipts.

43*rd. The law of partition between the six children of the above.*

If the six concubines have children, let them inherit as above laid down (for their mothers.) If one of the five (who had money paid for her) shall have a son, let him take the place of his father, and inherit his clothes and ornaments. This the sage recluse said.

44*th. The law of partition when the head wife dies leaving children, and the husband takes a slave to wife, and eats out of the same dish with her, between her children and the head wife's, on the death of the husband.*

If a head wife dies, leaving children, at the husband's death, he having eaten from the same dish with a female slave, the law for partition of the inheritance amongst the children of the wife and slave is this: A man takes a wife of his own class, and she dies after bearing a daughter; the husband takes the slave to wife, and eats from the same dish with her. She bears children; the husband dies, and the slave also dies; the law of partition of the inheritance is this: If there be any property possessed during the first wife's life time, let the child of the first marriage have the whole, and let the children of the slave have two thirds of all the property acquired during the time their father lived with their mother, and let the child of the first marriage have the remaining third, and pay the debts in the same proportions.

* Slaves by descent cannot buy their freedom without the consent of their master. Slaves, the children of free parents, by paying the money they are bound for, become free by right.

တနည်းလည်း။ အထက်မယားကြီးကဥစ္စာမရှိ။ နောက်ကျွန်မတွင်ဥစ္စာရှိလျှင်။ ထက်ဝက်ပြု၍တည်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ အထက်ဥစ္စာမပါ။ ဘမိဥစ္စာဖြစ်ချေသောကြောင့်တည်း။ အစည်သည်လ္ကကကျွန်မဖြစ်လျှင်။ ပွားဥစ္စာကိုသုံးစုစု၍။ နှစ်စုအထက်သားစားစေ။ တစုကိုကျွန်မသားစားစေ။ ချွင်မိလက်ဆုံစားဖြစ်၍။ ကျွန်ရ။ သခင်ရသားပြီသောကြောင့်တည်း။

၄၅ လင်သေ။ ကျွန်ကိုလင်ပြု၍၊ လက်ဆုံစားနေရာ။ သားမွေးသည်အထက်လင်သား ကျွန်လင်သား။ ဝေရာသောတရားတပါး၊

လင်သေကျွန်ကိုလင်ပြု၍။ လက်ဆုံစားသား။ မွေသည်အထက်ပါသားနှင့်။ ကျွန်လင်သား။ ဝေရာသောတရားတပါးဟူသည်ကား။ အထက်ဆိုခဲ့ပြီးသည်အတိုင်းစားစေ။

၄၆ ၎င်လင်ကသား။ မယားကသွီးပါရာတွင်။ မယားသေ၊ အမိပါသွီးကို ဘထွေးနေရာတွင်။ သားသုံးယောက်တို့။ ဝေရာသောတရားတပါး၊

လင်ကပါ။ မယားကပါကြ၍နေရာတွင်။ မယားသေ။ အမိကပါသွီးကို။ ဘထွေးနေရာတွင်။ သားသုံးယောက်ဝေရာသောတရားတပါး ဟူသည်ကား။ လင်ကပါသား။ မယားကပါသွီးရှိလျက်။ မိဘချင်းသင့်နေရာတွင်။ သားမွေးမြင်၍။ မယားသေသည်။ မယားကပါသွီးကို။ ဘထွေးမယားပြု၍။ မွေးသည်သားရှိရာတွင်။ အမိနှင့်လင်သေ၍။ သားသုံးယောက် ဝေခြင်း တရားတပါးဟူသည်ကား။ အထက်အဖပါသားသည်။ အထက်ဥစ္စာသုံးစားမကုန်ရှိအံ့။ ၎င်အဖပါဥစ္စာကို။ ငါးစုစု၍။ သုံးစုအဖပါသားစားစေ။ တစုကိုသွီးအမိတွင်မြင်သည်သားစားစေ။ တစုကိုဖိုသွီးမယားဖြစ်သူသေသော်လည်း။ ထိုသွီးမယားသားစားစေ။ အဘယ်ကြောင့်နည်းဟူမူကား။ အမိအရာခံသား ဖြစ်သောကြောင့်တည်း။ သွီးပါအမိ၏ဥစ္စာရပ်သုံးစားမကုန်ရှိကလည်း။ ငါးစုပြု။ သုံးစုကိုအမိသွီးသားစားစေ။ တစုကိုအမိသားစားစေ။ တစုကိုအဖသားစားစေ။ ဤအရာကား။ အဖတဖတည်း။ အမိကွဲသောကြောင့်တည်း။ အဖပါသားမှာ။ အမိကွဲမှန်ပြီ။ အမိပါသွီးတွင်မွေးသောသားမှာ။ သွီးအမိကိုအဖွား၎င်အဖွားသားကို ဦးရီးတော်သည်။ အဖတဖတည်း ဖြစ်သည် အကြောင်း။ အဖွားမယား။ အမိမယားဖြစ်သည်အကြောင်းဖြစ်၍ဥစ္စာပုံသန့်ခြားသည်တည်း။ မြို့ရှိလည်းနည်းတူဆပ်စေ။ အမိသွီးနှစ်ယောက်ကိုနေရာတွင်။ ပွားများသောဥစ္စာနှစ်ပါးရှိ၏။ ထိုနှစ်ပါးဟူသည်ကား။ သွီးကိုမယားမပြုမီ။ အမိလက်ထက်ပွားသောဥစ္စာရှိ၏။ မဝေဖြစ်။ ၎င်သွီးကိုမယားပြုရာတွင်မှ၊ ပွား

In another case; if there was no property at the time of marriage with the first wife, but the property left was acquired during the time of the slave wife, let it be divided equally between the children of each. Why is this?—because as there was no property at the first marriage, there was no property of the first mother. If the slave be one by descent, let the children have one third share, and the children of the head wife two, because the slave mother had eaten from the same dish; he is son of both mistress and slave.

45*th. The law of partition when the husband has died, and the widow raised a slave to be her husband, and eat out of the same dish, between the children of the former husband and the slave husband.*

The husband having died, the wife takes a slave to be her husband, and having eaten out of the same dish with him, she has a child; the law of partition of the inheritance between the son of the first husband and of the slave husband, is the same as laid down above.

46*th. The husband having a son, the wife a daughter at marriage, the wife dies, and the husband marries his step-daughter, the law of partition between the three children.*

The husband and wife each have children by a former marriage, the wife dies, her daughter is taken to wife by the step-father, and has children, the law of inheritance between the three children:—A man having a son, and a woman a daughter, shall marry; the wife having had a child shall die, and the husband take her daughter to marriage, and having had a child, the husband and wife die, the law for the partition of the inheritance between the three children is this; if there be any property of the first marriage, let it be divided into five shares, and let the son of that marriage have three, the child of the husband by the mother one, and the son of the step-daughter one share. Why is this?—because he has the share of his mother, and takes her place. If there be any of the property that came with the mother of the daughter remaining, let it be divided into five shares, and let theson of the daughter have three, the son of the father by his first marriage one, and the son by his second marriage one; this is because they are children of the same father, but different mothers. The son of the first marriage is by a distinctly separate mother. The son of the step-daughter is grandson of his mother's mother, and nephew of the said grandmother's son, though they are both sons of the same father; this is one reason; and his mother and grandmother were both wives of his father, is another reason, why his share of the property is different (from the others.) If there be any debts, let them pay in proportion to their receipts. If there be property still undivided, acquired both during the marriage with the mother and

သောဥစ္စာရှိ၏။ ဤသို့နှစ်ပါးရှိရာတွင်။ ငါးစုစီစုပြီးလျှင်။ ပွားသောမယားသားသုံးစု။ သားဦးမှာတစုစီဝေယူကြစေ။ တင်မြဲရှိလည်းနည်းတူဆပ်စေဟူ။ ရှင်ရသေ့ဆိုတော်မူ၏။

၄၇ ဧင်နည်းတူ။ မယားပါသို့်းကို ဘဇထွေးမယားပြု၍ သားမွေးမြင်အံ့။ ထိုလင်သေသော်။လင်ပါသား။အမိတွင်မွေးသည့်သား။သို့်းတွင်မွေးသည့်သား၊သုံးဦးတို့နှင့်၊ မိထွေး။နှစ်မ၊ အမိဖြစ်သူတယောက် ပေါင်းလေးယောက်တို့၊ ဝေရာသောတရားတပါး။

ဧင်နည်းတူလင်ကပါသား။မယားကပါသို့်းရှိ၍။အမိကိုမယားပြုရာတွင်။ အမိ၌သားရှိ၏။အမိသေအံ့။ မယားပါသို့်းကို။ဘထွေးမယားပြု၍သားမွေးအံ့။ ထိုလင်သေသော်။လင်ပါသား။ မယားတွင်မွေးသည့်သား။ သို့်းတွင်မွေးသည့်သား။ သုံးဦးတို့နှင့်။မိထွေး။နှစ်မ။အမိဖြစ်သူတယောက်။ ပေါင်းသုံးယောက်ဝေရာသောတရားကား။လင်ပါဥစ္စာရပ်မှာ။ငါးစုစု၍။သုံးစုလင်ပါသားယူစေ။တစုကိုအမိသားယူစေ။တစုကိုသို့်းနှင့်သားယူစေ။ ။အမိပါဥစ္စာမှာလည်း။ ငါးစုစု၍။သုံးစုကိုသို့်းနှင့်သားယူစေ။ တစုကိုအမိသားယူစေ။တစုကိုအဖပါသားယူစေ။သို့်းဧင်မနေမှီ။အမိနှင့်နေစဉ်ဖြစ်ပွားသည်ဥစ္စာမှာ။အမိတွင်မွေးသည့်သားသုံးစု။အဖသားတစု။သို့်းနှင့် ဧင်သားမှာ။တစုယူစေ။ မယားသို့်းကိုမယားပြုရာတွင်မှ။ဖြစ်ပွားသောဥစ္စာမှာ။ရှစ်စုစု၍။ငါးစုကိုမယားသို့်း။မယားဖြစ်သူစားစေ။ သုံးစုကျန်မှာ။သို့်းသားနှစ်စု။တစုကိုအဖသားတဝက်။သို့်းမယား။ အမိမယားတွင်မွေးသည်သားတဝက်။ တင်မြဲရှိလည့်းနည်းတူဆပ်စေဟူ။ရှင်ရသေ့ဆိုတော်မူ၏။

၄၈ ဧင်နည်းတူနေရာတွင်။သို့်းပါအမိ၌သားမရှိ။အမိပါသို့်းကိုနေရာတွင်လည်းသားမရှိ။အဖသေ။အဖပါသားနှင့်။သို့်းမိထွေးဝေရာသောတရားတပါး။

ဧင်နေရာတွင်။သို့်းပါအမိ၌သားမရှိ။အဖသေအံ့။အဖပါသားနှင့်။မိထွေးဝေရာသောတရားတပါးဟူသည်ကား။ အကြင်ယောကျ်ားသည်။ အထက်သားပါ၍။မယား၌လည်းသို့်းပါ၍။ သို့်းအမိကိုအိမ်ထောင်နေရာ၌။သားမမွေး။ထိုအမိသေအံ့။ အမိပါသို့်းကိုအိမ်ထောင်နေအံ့။သားမရှိ။ အဖသေအံ့။ဝေရာသောတရားကား။အထက်အဖပါဥစ္စာကိုအဖပါသားအလုံးယူစေ။ အမိပါဥစ္စာကိုလည်း။ သို့်းမယားအလုံးယူစေ။ လက်ထက်ပွားမှာသုံးစုစု၍။သို့်းမယားနှစ်စုယူစေ။ လင်ပါသားတစုယူစေ။ တင်မြဲရှိလည်းနည်းတူဆပ်စေ။တနည်းလည်း။လင်ကပါရင်းမရှိ။မယားကပါရင်းရှိမည်။ လေးစုစု၍။သုံး

with the daughter, let each be divided into five shares, and let the child of the wife in whose time it was acquired have three shares, and the other two children one share each, and let them pay the debts in the same proportion.

47*th. In the same case, the step-daughter has children by her step-father, the partition on his death between the son of the husband by his first marriage, the son by the mother, the son by the daughter, and she who is step-mother, mother and sister.*

In the same manner, the husband has a child by a former marriage, and the wife a daughter by a former marriage, the wife has a child by this husband, she dies, and he takes the daughter of his wife (his step-daughter) to wife and she has a child, when the husband dies, the law of inheritance between the son of the husband by his first marriage, his son by his second marriage, his son by his step-daughter and his widow, who is at once step-mother, sister, and mother to his children, is this; let property brought by the husband be divided into five shares, and let the son by the first marriage have three, let the son by the second marriage have one, and let the other share go to the step-daughter and the son. Of the property brought by her mother, let them have three-fifths, let the mother's son have one, and the son of the father by his first marriage have one share. Of the property acquired during his second marriage, and before the marriage with his step-daughter, let the son by the second marriage have three-fifths, the son by the first marriage one-fifth, and the step-daughter and her son the other. Of the property acquired during the marriage with the step-daughter, let it be divided into eight shares, of which let the step-daughter have five; of the three remaining shares let her son have two, the son of the father by his first marriage half a share, and the son by second marriage half a share, and let them pay the debts in the same proportions. Thus the lord hermit said.

48*th. Under the same circumstances, neither the mother or daughter having issue, the law of partition between the son of the father by his first marriage, and his step-mother on the death of the father.*

In the same case, if there be no children by the mother of the daughter, and the father shall die, the law of partition between the son of the father by the former marriage and the step-mother, is this; a man has a son by a former marriage, and his wife also has a daughter by a former marriage, and the mother dying without issue by this marriage, he marries the daughter and dies, leaving no issue by her; let his son by the first marriage have all the property the father brought with him at his second marriage, and let the widow, his step-daughter, have all the property her mother brought; let the property acquired during the last marriage be divided into three shares, of which let the step-daughter, who is his widow, have two, and the son of the husband by the first marriage one, and let them pay the debts

စုကိုသမီးရစေ။တစုကိုအဖပါသားရစေ။မယားကပါရင်းမရှိ။ လင်ကပါရင်း ရှိလည်း။ အထက်လင်သားသုံးစု။ မယားပါသမီး။ အဖမယားတစုစားစေ။ တင်ပြီရှိလည်းနည်းတူဆပ်စေ။

၄၉ ရင်အမိပါသမီး။ အဖပါသားတို့နှင့်။ အိမ်ထောင်ကြီးချင်း သင့်နေ၍ သားမွေး၏။ လင်သေသော်။ လင်ကပါသည့်သားကိုအဖမယားငယ်ဖြစ်သူ မိထွေးနှင့် အိမ်ထောင်သင့်နေ၍။ဝေရာသောတရားတပါး။

ရင်အမိပါသမီး။ အဖပါသားတို့နှင့်။အိမ်ထောင်ကြီးချင်းနေ၍ သားမွေး၏။ လင်သေသော်။ လင်ပါသားကိုအဖ မယားငယ်ဖြစ်သူမိထွေးနှင့်။ အိမ်ထောင်နေ၍။ဝေရာသည်ကား။အထက်အတိုင်းခွဲဝေစားယူကြစေဟု။ရှင်ရသေ့ဆိုတော်မူ၏။

၅၀ မိဘနှစ်ပါးမလို။တူပြေးသွားရာ။မွေးသောသားနှင့်။ နောက်မိဘသဘောတူပြန်၍နေတော့ခွင့်ပေး၍နေရာတွင်။မွေးသောသားတို့။ဝေရာသောတရားတပါး။

မိဘနှစ်ပါး အလိုမတူပြေးသွားရာမွေးသောသားနှင့်။ နောက်မိဘသဘောတူပြန်၍နေတော့ခွင့်ပေး၍နေရာတွင်မွေးသောသားတို့။ အမွေဝေခြင်းတရားတပါးဟူသည်ကား။ မိဘနှစ်ပါး မပေးစားဘဲ။ ပြေးသွားရာ ရသောသားသည်။ လင်မယားနှစ်ယောက်တွင်။ သားဦးမည်၏။ မိဘ မပေးစားဘဲ ပြေးသွားရာရသောသားဖြစ်သော့ကြောင့်။သြောရသမမည်။မိဘနှစ်ပါးပေးထိမ်းမြား၍ ရသောသားသည်။ သားကြီးအရာရောက်စေ၍။ အဖဝတ်စားတန်ဆာအဆောင်အစီးအနင်းတို့ကိုယူစေပြီးမှ။ အထက်မွေးသော သားကိုလည်း။သားငယ်ပြု၍။ နောက်သားကိုသားကြီးပြု၍။ ဘယ်စုတစုဝေရာ၌။ အဦးကောက်စေ။နောက်မွေးသောသားသမီးအများရှိလည်း။နည်းတူခံစေဟု ရှင်ရသေ့ဆိုတော်မူ၏

၅၁ ပျော်ပါး၍ကစားမြူးထူးရာတွင်။မြင်သောသားနှင့်။ သေသူမိဘ ပေါက်ဖော်ဝေရာ။မဝေရာသောတရားတပါး။

ပျော်ပါး၍ကစားမြူးခုံရာတွင်မြင်သောသားနှင့်။သေသူမိဘပေါက်ဖော်တို့ဝေရာ။ မဝေရာသောတရားဟူသည်ကား။ အကြင်လင်မယားတို့ကို။မိဘပေးသောဥစ္စာသီးခြားရှိနေ၍သေအံ့။ ထိုဥစ္စာသက်ရှိ။သက်မဲ့ကိုပျော်ပါးကစားမြူးခုံရာရသောသားရှိ၍။အခြားသားမရှိက။ သေသူလင်မယား ပေါက်ဖော်တို့သည်။ငါတို့မိဘပေးစား၍။ မွေးသောသားမဟုတ်။ အလျောက်မွေး

in the same proportions. In another case; if the husband had no property at his second marriage, and the wife had, let it be divided into four shares, of which let the step-daughter, who is his widow, have three, and his son by his first marriage one. If the second wife had no property at marriage, and the husband had, let his son by the first marriage have three shares, and the step-daughter, who is his widow, one, and let them pay the debts in the same proportions.

49*th. In the same way, the father of a son and mother of a daughter marrying, and having a family, the father dies, his son by the former marriage marries his step-mother, the law of partition between them.*

In the same way, when the father has a son, the mother a daughter by a former marriage, leaving a child by this second marriage, the husband dies, and his son marries his step-mother, the law of partition is the same as laid down above. Thus the lord hermit said.

50*th. A party marrying without the consent of their parents, elope and have a child, after which, obtaining their parents' consent, they return and have children, the law of partition between these children.*

The law of partition between the children of a couple run away, who have eloped together without the consent of their parents, and those born after the consent of the parents has been given, is this; a son born after the elopement, is called the first child; but because he is born before his father and mother have obtained the consent of their parents to their marriage, he is not called "Auratha," son and heir; let the child born after the consent of their parents has been obtained take the place of eldest son. In the partition of the inheritance, let him take the ornaments, clothes, elephant, horse, sword, goglet, &c. &c. as laid down, and having made the first born children the less, and the after born the greater, let the property be divided into ten shares, and let him, who has been made eldest, choose first, and if there are many children born after consent was obtained, in the same way let them choose before those born before, and let them pay the debts in the same proportions.

51*st. The law of partition between a child begotten without marriage, in youthful wantonness, and the relations of the parents, on the parents' death.*

The law by which property is divided, or not, between a child begotten in youthful wantonness, without marriage, and the relations of the deceased father and mother, is this; if a husband and wife have property, given to them by their parents, from whom they are living separate, and have a son, begotten in wantonness before marriage, and shall die, leaving no legitimate offspring, the relations of the de-

သောသား ဖြစ်သည်။ ငါတို့ ပေါက်ဖော် ဥစ္စာ ရပ်ကို။ ငါတို့ ယူမည် ဆိုသော်လည်း။မယူသာချေ။ထိုလင်မယားသားအမိတို့အလုံးစားစေ။

တနည်းကား။သေသူအဖအမိတို့။မိဘအမွေကိုမှီသည်။ခံစားရကောင်းသည်။ငှင်သားတို့ဆိုသော်လည်း။မခံမစားသာချေ။ချင်းတို့ မိဘသည်။ မိဘမပေးစားဘဲအလျောက်နေ၍။မိဘစကားကိုမတည်။ အမျိုးမစောင့်ကျင့်ချေသော့ကြောင့်။ချင့်မိချင့်ဖသည်။ချင့်ဘိုးဘွားနောက်မှသေသော်လည်း။အမွေမှီ၏ဟုမဆိုမတောင်းမစားသာချေ။ချင့်မိဘဆိုင်သည်အစုကို။ ချင့်မိဘပေါက်ဖော်တို့သာဝေယူစားစေဟု။ရှင်ရသေ့ဆိုတော်မူ၏။

၅၂ အကြင်ယောက်ျားမိန်မတို့သည်။ အမှတ်မထင် သွားလာ၍သန္ဓေစွဲ။ လျော်သောသားနှင့်။မိဘပေါက်ဖော်တို့ဝေရာသောတရားတပါး။

အကြင်ယောက်ျားမိမ္မတို့သည်။အမှတ်မထင်သွားလာ၍သန္ဓေပေး၏။လင်လည်းမချည်းမနေလျော်၏။သန္ဓေရှင်မွေးဖွား၍။သားနှင့်တကွ။မိဘတို့နှင့်အတူနေ၏။ငှင်အမိသည်။မိဘတို့တွင်သေအံ့။အမိဆင်ယင်သောဝတ်စားတန်ဆာသင့်သီးတို့ကိုအမိ၏အမိအဖတို့မယူက။ ပေါက်ဖော်တို့မရသာချေ။အမှတ်တမဲ့သန္ဓေပေး၍လျော်သောသားစားစေ။ အဘယ်ကြောင့်နည်းဟူမူကား။ဘိုးဘွားတို့သည်။အမိကိုပေးသည်။ထိုဥစ္စာရှင်မယူပြီဖြစ်သော့ကြောင့်။ထိုအမိ၏သားသည်။အမိသင့်သီးတို့ကိုစားစေဆိုသတည်း။

တနည်းကား။သွီးသည်မိဘနောက်မှသေသော်။မိဘအမွေကိုမှီလေသည်။အမွေမှီကသေသူသားသွီးစားစေမှာသော်လည်း။ချင့်မိလက်သို့မရောက်က။အမွေမှီသည်မဆိုသာ။ ပေါက်ဖော်တို့သာစားစေ။ တဘယ်ကြောင့်နည်းဟူမူကား။ အမွေကိုမခံထိုက်သောသွီး၏ သား ဖြစ်သော့ကြောင့် တည်းဟု ဆိုတော်မူ၏။

၅၃ အလျော်စားသောသားသွီးတို့။မိဘအမွေခံရာ။မခံရာသောဘရားတပါး

အလျော်ပေးရသောသားသည်။ထိုအဖတွင်။ အမွေခံမယားရင်း။သားရင်း။သွီးရင်း။မြေးရင်းမရှိလျှင်။အထက်သန္ဓေပေးသူအဖဥစ္စာရင်းမှန်သည်ကိုရစေ။ အဖဖြစ်သူအိမ်ယာမထောင်။အလျောက်နေရာ။ သင်းသွီးဥစ္စာကိုဆိုသတည်း။

ဟနည်းလည်းအဖသည်။မိဘပေါက်ဖော်တို့နှင့်အတူနေရာ။စီးပွားလည်းဖြစ်မည်။ သင်းသီးလည်းမှန်သည်။ထိုသေသူ၏အမိအဖတို့သည်သာလျှင်အလုံးစားစေ။ပေါက်ဖော်တို့နှင့်အတူနေ၍။ သီးခြားဖြစ်သော ဥစ္စာမှာ။တဝက်

ceased shall not say this is not the child of a marriage sanctioned of the parents, he is a child of their own desires, we will take the property; they shall not have it, let the child of the deceased have the whole.

In another case; if the deceased were in reach of their parents' inheritance, though the son claim it, he shall not have it; his parents not abiding by the commands of their parents, have in the gratification of their passions begotten him, being careless of the honor of their family. Though his parents die after his grand parents, he shall not share in the grand parents' property; let the relations of his parents only divide his parents' share. Thus the lord hermit said.

52nd. *A man and woman having secret intercourse, the woman is got with child, the law of inheritance as regards this child for whom a fine has been paid, and the relations of its parents.*

If a man and woman shall secretly get a child, and the man shall not marry the woman but pay forfeit, and the woman shall bring forth the child and live with her parents and there die; if her parents do not take her clothes and ornaments, her theng-thee, the relations shall not share them, let the illegitimate child take them. Why is this?—because they are a gift of her parents to his mother, and as the owners of them do not take them, the child of the daughter shall have her (theng-thee) personal property.

In another case; if the daughter die after her parents, and in reach of their inheritance, though it is laid down that children being in reach of their parents' inheritance shall share, yet as she had not the property in possession, her child shall not inherit, he shall not be said to be in reach; let the relations only share. Why is this?—because he is the child of a daughter not entitled to inherit.*

53d. *The law as to what portion of its parents' property such a child for whom a fine has been paid shall, or shall not, inherit.*

If the father of such a (illegitimate) child, for whom the compensation has been paid, leave no heirs, no wife, legitimate child, or grandchild, let him inherit all his father's actual property.

In another case; if the father shall live with his parents, and have property in common with them, and his own individual property also, let his parents alone inherit the whole. If he be living with his re-

* On account of the disgrace she has brought on her family.

ကိုအတူနေပေါက်ဖော်တို့ယူစေ။ ကျွန်တဝက်ကိုအထက် အလျှော်ပေးသော
သူစားစေ။ မြို့ရှိလည်း နည်းတူဆပ်စေ။ အဘယ်ကြောင့်နည်း ဟူမူကား။ သား
ချင်းအမျိုးဝင်လေသော့ကြောင့်တည်း။

၅၄ မိဘနှစ်ပါးပေးထိမ်းမြား၍သန္တေရှိလျက်ကွာ၍။ နောက်လင်သစ်နေ့မှမွေးသော
သား။ နှစ်ဦးသား်ဝေရာသောတရားတပါး။

မိဘတို့ထိမ်းမြား၍သန္တေရှိပြီးမှ။ ကွာပြန်သည်နောက်။ သန္တေနှင့်။ လင်
သစ်နေရာတွင်မှ။ မွေးသည်သားနှင့်။ ၎င်လင်သစ်တွင်မွေးသည်သားတို့အမွေ
ဝေရာသောတရားတပါးဟူသည်ကား။ အကြင်သားသွီးတို့ကို။ မိဘနှစ်ပါး
ပေးထိမ်းမြား၍သန္တေရှိပြီးမှ။ ကံအားလျော်စွာ။ ဝိပါကဝတ်ကြောင့်ကွာကြ
၍။ တပါးလင်သစ်နှင့်နေမှမွေးသောသား။ လင်သစ်တွင်ရသောသားနှစ်ပါး
ရှိ၏။ သားနှစ်ပါးဝေရာသောဥစ္စာရပ်ကား။ နောက်လင်သစ်တွင်။ ဝတ်စား
တန်ဆာအစီးအနင်းမျိုးရိုးစဉ်ဆက်ကိုနောက်လင်သစ်သားအလုံးခံစားစေ။
လင်သစ်မိဘက။ မယားရှိနောက်ရသောသက်ရှိ။ သက်မဲ့ဥစ္စာကို။ သုံးစုစု၍။
တစုကို အထက်သား ရစေ။ နှစ်စုကို လင်သစ်သားရစေ။ မိဘ နှစ်ပါး၌ ဖြစ်
ထွန်းသောဥစ္စာပွားမှာ။ ငါးစုစု၍။ သုံးစုကိုလင်သစ်သားရစေ။ နှစ်စုသန္တေပါ
သားရစေ။ အမိ၏ဘမိကအမွေရိုးဥစ္စာမှာ။ လင်သစ်သားနှင့်။ သန္တေပါသား
အမျှစားစေ။ တင်မြို့ရှိလည်းနည်းတူဆပ်စေဟုဆိုတော်မူ၏။

၅၅ အထက်သန္တေပေးရင်းအဖဖြစ်ဘူးသူတွင်အမွေခံမရှိ၍။ အဖသားချင်းတို့နှင့်ဝေ
ရာသောတရားတပါး။

အထက်သန္တေပေးရင်းဖြစ်သောအဖတွင်။ အမွေခံမရှိ။ အဖသားချင်းတို့
နှင့်။ ဝေရာသောတရားတပါးဟူသည်ကား။ အကြင်သားသွီးတို့ကိုမိဘပေး
စား၍သန္တေရှိပြီးမှ။ ကွာသည်မယားလည်း။ သန္တေနှင့်လင်နေသည်ကိုဝေရာ
သောအကြောင်း။ အထက်ကဆိုခဲ့ပြီ။ ယခုမှာ ချင့်ဖအရင်းဖြစ်သူ၏ လျှော်
သားဖြစ်သည်။ လျှော်ရာအမွေပါသည်မဆိုသာချေ။ မိဘနှစ်ပါးပေးထိမ်းမြား
ရာတွင်။ ရသောသန္တေသည်။ သားမြတ်အမွေခံသင့်သည်။ အဖအရာပင်ဖြစ်
ချေသည်။ လျှော်သူအဖဥ္ဆသင်းသီးခြားနေ၍။ ၎င်အဖတွင်။ မယား သားသွီး
မြေးအရင်းမရှိချေက။ ထိုအဖသန္တေ ရှင်ဥစ္စာ မှန်သမျှသက်ရှိ။ သက်မဲ့ကိုအ
လုံးသန္တေပေးလျှော်သောသားစားစေ။ တင်မြို့ရှိလည်း နည်းတူ။ ကျွခံစေ။ ၎င်
အဖသည်။ မိဘအမွေကိုမှီခံ့။ ၎င်သားမှီသောအမွေစုကိုစားစေ။ အဖအစီး

lations, let his relation with whom he is living have one-half, and his son one-half of his own personal property, and let them pay the debts in the same proportion. Why is this?—because this son has become one of the family.

*54th. A woman having been given in marriage by her parents, separates from her husband whilst with child by him and takes another, the law of partition between the children of both fathers.*

If a couple given in marriage by their parents shall separate, and the woman, being with child, shall take another husband before the child is born, the law of partition between this child and those of the second husband, is this; a son and daughter having been given in marriage by their parents, if after the woman is with child they shall separate by the influence of former bad deeds,* and she shall take another husband, the law of partition between this child and one born to the new husband, is this; let all the clothes, ornaments, the elephant, horse, carriages, boats, &c. hereditary property and station of the second husband go to his son; let the property he got from his parents after marriage, animate and inanimate, be divided into three shares; let his son have two, and his wife's son by her former marriage one share; let the property acquired by himself and wife after marriage be divided into five shares; let his son have three and his wife's son by her former marriage have two shares; let the two children share equally the hereditary property of the mother, and pay the debts in the same proportion.

*55th. In case the father of the first child shall have no direct heirs, the law by which he shall share with his brothers and sisters.*

If there be no heirs to the property of the father of the first child, the law for the partition of his property between this child and the father's brothers and sisters, is this; if a man and woman who have been regularly given in marriage by their parents shall separate after a child is begotten, and the wife with the child unborn shall take another husband, the law in this case is as laid down above. The father of the first begotten child shall not say it is a child for which compensation has been paid, and that this compensation is its only inheritance; he is a son begotten after a regular marriage by the consent of parents, an excellent (legitimate?) child and entitled to inherit; he takes his father's place. If the father who paid the fine has lived in an establishment of his own, having his own separate property (theng-thee,) and no wife, child or grandchild, let this son have all his property, animate and inanimate, and bear his debts in the same proportion. Should the father be in reach of the inheritance of his parents, let the son have his share; let him have his father's clothes, ornaments, elephant, horse, carriage, boats, &c. and let

* Having caused the separation of a husband and wife in a former state of existence.

အနှင်းအဆောင်အရွက်ကိုရစေ။တင်မြီရှိလည်းနည်းတူဆပ်စေ။ထိုအလျော်ပေးသောအဖခိုရလောက်သောသူသည်။ အမိအဖတို့နှင့်။ မကွဲမပြားနေ၍။ မိဘတွင်သေလေအံ့။ အလျော်ပေးသန္တေရသားသည်။ မြေးခုကိုခံစားစေ။ အဘယ်ကြောင့်နည်း ဟူမူကား။ ပေးထိမ်းမြားရာ သန္တေမှန်ချေ သော့ကြောင့်တည်း။ဒင်အလျော်ပေးအဖသည်၊ ပေါက်ဖော်တို့နှင့်အတူ နေရာသေချေအံ့။ ပြုစုသောဥစ္စာရှိအံ့။ပေါက်ဖော်တဝက်။သန္တေပေးသောသားတဝက်စားစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ၊အမှတ်မဲ့ပေးသောသန္တေမဟုတ်။မိဘနှစ်ပါးပေးတိမ်းမြား၍ရသောသန္တေမှန်ချေသော့ကြောင့်တည်း။ ။ထုံးသက်သေဆိုပေအံ့။ သန္တေယူယောကျ်ားအများမပေး။ အကြောင်းသုံးပါး၌။ကြွန်သောသူ၏ သန္တေစစ်ဖြစ်သည်။ သို့ကြွန်ရာ၌လည်း။ မိဘမပေးစားဘဲစွဲသောသန္တေ။ မိဘပေးစားမှသန္တေရှိသည်တွင်။ မိဘနှစ်ပါးပေးထိမ်းမြား၍ ရသောသန္တေသည်။သားအမြွတ်ဖြစ်သည်၊ကာလလရေကြည်အစပေးသူသားအဖဖြစ်ချေသည်၊ မြွတ်ရာလိုက်သည်ဟု။တရားတော်၌ပါသော့ကြောင့်။ ထုံးသက်သေကိုဆိုသတည်း။

၇၆ လင်ဆွေခြောက်ယောက်။ မယားဆွေခြောက်ယောက်တို့။ ဝေရာသောတရားတပါး။

သေသူလင် မယား၌အမွေခံသားမြေးမြစ်မရှိ။ အမိအဖမရှိ။ လင်ဆွေခြောက်ယောက်။မယားဆွေခြောက်ယောက်တွင်။မည်သူစားရသနည်းဟူမူကား။လင်၏မိထွေး။မိကြီး။ဦးရီး။ဘထွေး။ဘကြီး။အရီး။ဤကား လင်ဆွေခြောက်ယောက်တည်း။ မယား၏။ မိထွေး။မိကြီး။ဦးရီး။ ဘထွေး။ဘကြီး။အရီး။ဤကား။မယားဆွေခြောက်ယောက်တည်း။ ။ဤတဆယ်နှစ်ယောက်တို့သည်။ အမွေကိုစားရာ၏ဟူတုံရကား။ဥစ္စာရပ်ကိုခွဲဝေ၍။မယားမိဘကပါသောဥစ္စာရိုးကို။ မယားဆွေခြောက်ယောက်တို့က။ နှီးစပ်ရာစားစေ။ လင်မိဘကပါသောဥစ္စာရပ်ကိုလည်း။ လင်ဆွေခြောက်ယောက်က။နှီးစပ်ရာစားစေ။နှစ်ဦးသားတို့တွင်။သေဦးသေနှောင်းရှိအံ့။သေနှောင်း၏ဥစ္စာရပ်မည်ချေသည်။သေနှောင်းက။နှီးစပ်သောသူသာစားစေ။ သေဦးသားက။မစားသာချေ။သေနှောင်းသူတို့က။ဥစ္စာရိုးကိုရောင်းချသော်မူကား။ သေဦးတို့၏အမျိုးနီးရာသို့ပေးချရောင်းဝယ်စေ။ နှစ်ဦးသား တို့၏ သေခြင်းအရာ၌။ ရှေးနှောင်းမထင်မရှား။ထင်ရှားသော်လည်း။ လနှစ်မပိုင်းမခြားမိဖြစ်က။ နီးရာဝေယူကြစေ။ နှစ်ပါးတွင်ပွားသည့်ဥစ္စာဖြစ်ကလည်း။ နည်းတူဝေကြစေ။ တင်မြီရှိလည်း နည်းတူဆပ်စေ။ ဒင်သည် ဆွေမျိုးညာတိ တယောက်

them pay the debts in the same proportion. If the father who thus paid the fine be a man of some note, and shall die whilst living with his parents, let the son for whom he paid compensation have a great grandson's share in his parents' property. Why is this?—because he is a proper son of a regular marriage. Should the same father who has thus paid compensation die whilst living with his relations, leaving property acquired by himself, let the relations have one-half, and the son for whom compensation has been paid the other, and pay the debts in the same proportion; he is not a chance child, but the son of a marriage sanctioned by parents. I will adduce the following precedent: "Pregnancy cannot be caused by many men; the child is his at the time of whose intercourse the three causes* combined; but though the causes do combine, it may be the child of a couple not given in marriage, or of a couple who have been given in marriage by their parents; it is only the child of marriage that is excellent, (legitimate,) and only the man who communicated the vivifying principle who is the father." This quotation of a text from the holy book is made as a proof that inheritance descends only to a legitimate child.

### *56th. The law of inheritance as regards the six relations of the husband, and the six of the wife.*

If the deceased husband and wife had no children, grandchildren, or great grandchildren, and if their parents be dead, the six relations of the husband, out of the direct line, and the six of the wife who shall inherit, are these; the husband's mother's elder and younger sisters, his mother's elder and younger brothers, his uncles by the father's side, and aunts by the father's side, these are the six relations out of the direct line of the husband; the wife's mother's elder and younger sisters, her mother's elder and younger brothers, uncles by the father's side, and aunts by the father's side;—these are the six relations of the wife out of the direct line; and these twelve relations, it is said, shall inherit. Having divided the property that came by descent to the wife, let her six relations inherit as nearest of kin, and let the six nearest of kin of the husband inherit his hereditary property. If one shall die before the other, the property belongs to the survivor; let only his or her kin inherit. Should the survivor sell any of the hereditary property, let it be offered to the next akin of the deceased. If they both die about the same time, so that it is not clear who was the survivor, or if it be known, but the months or years not ascertained, let the relations of both inherit according to consanguinity, and also the property acquired by the deceased couple during marriage, and let them pay the debts in the same proportion.

* The three causes are, the proper season with the woman; copulation with a man; and the release of a fate by the death of some animal; the fate is not a life, not vivifying principle, not a soul, but the ground of good or bad deeds that is to influence the new being through life, the balance of good or bad, for, or against, the animal dying.

ယောက်၌ပေါက်ဖော်နေစည်။သေလျှင်။ ဖုတ်ကြည်သင်းပြိုဟ်ဖြစ်ကလည်း။ အလုံးခံယူစားစေဟူ။ရှင်မနူဆိုတော်မူ၏။

### ၅၇ ညီနှင့်အစ်ကိုဝေရာသောတရားတပါး။

ညီနှင့်။အစ်ကိုဝေရာသောတရားတပါးဟူသည်ကား။ ညီနှင့်အစ်ကိုတို့သည်။အတူနေ။ အတူစားဥစ္စာပြုစု၍။ အစ်ကိုသေသော်။ ညီအလုံးရစေ။ညီသေသော်။အစ်ကိုအလုံးရစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ။ ဤကား။ညီအစ်ကိုနှစ်ယောက်။ သားမယားအမွေခံမရှိသည်ကိုဆိုသောတရားတည်း။

ဇင်နည်း။အတူနေကြရာတွင်။နှစ်ယောက်အညီအညွတ်ပြုစုရောင်းဝယ်ကြလျှင်။အညီဝေယူကြစေ။ တယောက်ယောက်က။ အရင်းထုတ်၍။ရောင်းဝယ်ဖြစ်ပွားလျှင်။အရင်းကို။အရင်းတိုင်းယူစေ။ ပွားသောအမြတ်ဥစ္စာကို။တယာက်တဝက်ယူကြစေ။ ညီနှင့်အစ်ကိုအတူနေ။ အတူစားမှန်တုံ၏။အစ်ကိုကို။ညီမစ၍။ အထုံးအမိန့်ဖြစ်ပေကလည်း။ ပွားသမျှဥစ္စာကို။ ညီနှစ်စု။ အစ်ကိုတစုဝေယူကြစေ။ ညီကို။အစ်ကိုမစ၍။အစ်ကိုဆောင်စွမ်ရကလည်း။ နည်းတူနှစ်စုတစုဖြစ်စေ။ မြီရှိလည်းနည်းတူဆပ်စေ။ တစုံတယောက်။ဝေဒနာကြီး၍။အတူနေကြရာ၌။တယောက်ပြုစုရပေကလည်း။ဝတ်စားရုံမျှသာဖြစ်စေဟူ။ရှင်မနူဆိုတော်မူ၏။

### ၅၈ အစ်ကိုသေ၍။ညီနှင့်အစ်ကိုမယားသားဝေရာသောတရားကပါး။

ညီနှင့်အစ်ကို။မယားသားဝေရာသောတရားတပါးဟူသည်ကား။ အစ်ကိုသေ။အစ်ကိုမယားနှင့် မတ်။ အစ်ကိုသားတို့သည်။ အတူတကွနေရာ၌။ အစ်ကိုမိဘကရသောဥစ္စာ။အစ်ကိုမယားမိဘကရသောဥစ္စာလည်း ရှိပေအံ့။ အစ်ကိုဥစ္စာရိုး။မယားဥစ္စာရိုးကို။အစ်ကိုမယားနှင့်သားအလုံးယူစေ။ မတ်မှာလည်း။မိဘဥစ္စာရိုးကိုအလုံးယူစေ။အစ်ကို။ညီ။မရီး။သား။ လေးဦးအတူနေရာတွင်။ ဇင်ဥစ္စာကို။ ကုန်သွယ်လုပ်ဆောင်ကြံစည်ပွားများ၍။ ဖြစ်သမျှသက်ရှိသက်မဲ့ကို။ဥစ္စာစုအတိုင်းခံယူစားကြစေ။ အထက်တင်မြီမှာလည်း။ နည်းတူခံဆပ်ကြစေ။ အစ်ကိုက။ဥစ္စာရင်းမပါ။ ညီကဥစ္စာရင်းပါလျှင်။ ဇင်ဥစ္စာရင်းကိုအလုံးယူစေ။ဇင်ဥစ္စာကပွားများလျှင်။သုံးစုစု၍။နှစ်စုကိုယူစေ။ တစုကို။အစ်ကိုမယားမရီးဖြစ်သူနှင့်။သားစားစေ။ တင်မြီရှိလည်း နည်းတူဆပ်စေ။ မတ်ကဥစ္စာရင်းမပါ။အစ်ကိုကလည်းမပါ။မရီးကပါလျှင်။အရင်းကိုအလုံးမရီးသားတို့ရစေ။ဇင်ပွားသောဥစ္စာမှာ။သုံးစုစု၍။တစုမတ်ရစေ။ နှစ်စုမရီးနှင့်သားရစေ။တင်မြီရှိလည်းနည်းတူဆပ်စေ။ ညီနှင့်အစ်ကိုမယား

If they die whilst living with one of their relations, and he (or she) bear the funeral expenses, let him (or her) take all the property. Thus the lord hermit hath said.

*57th. The law of inheritance as regards a younger and elder brother.*

The law of inheritance between a younger and elder brother; if a younger and elder brother living together shall acquire property, and the elder shall die, let the younger take the whole, and if the younger die, let the elder have the whole, and let them pay the debts in the same proportion; this is when neither has a wife or family.

If the same living together shall equally contribute to the acquisition of property,* let them divide it equally. If the original capital shall have been the property of one only, and there shall have been a profit, let the principal be paid to him to whom it belongs, and the profits divided equally. If the two live together, and the youngest assist the elder, and be the most influential person of the two, let him have two-thirds of the profit, and the elder one. If the elder be the principal person, in the same way let him have two, and (the younger) one share. If whilst so living together, one shall have bad health, and the other shall take care of him, let him have only his food and clothes.

*58th. The elder brother dying, the law of inheritance as regards his wife and children, and the younger brother.*

If the elder brother die, the law of inheritance between his wife and children, and his younger brother, is this; if after the death of the elder brother, his wife and children remain with the brother-in-law, and if there be property which the deceased got from his parents, and also property which his widow inherited from her parents, let the widow and children have all the hereditary property, and let the brother-in-law have all he inherited from his parents, and let all the property, animate and inanimate, acquired by the mutual industry of the brothers, be divided and shared according to the capital of each, and let them pay the out-standing debts in the same proportion. If the elder brother had no capital, and the younger had, let him take his capital, and if there have been any profit, let it be divided into three shares, let him have two, and his sister-in-law and her children one; and if there be out-standing debts, let them pay them in the same proportion. If neither of the brothers had any capital, and the sister-in-law had, let her and her children take the capital; let them divide the profits into three shares, and let the brother-in-law have one, and the sister-in-law and her children two shares; and if there be debts let them pay them in the same proportion. If whilst living

* This does not seem to be a matter of inheritance.

သား နှစ်ဦးအတူနေရာတွင်။ ဘိုးလက်ထက်က။ စီရင်ရိုးဘကြီးအရာကို။ ၎င်
ညီဆောင်စွမ်ရာတွင်မှ။ အစ်ကိုရလျှင်။ ၎င်အရိုးအရာကိုညီဆောင်စွမ်သူကြီး
စိုးဆက်ခံစေ။ ၎င်ကြောင့်တင်မြဲရှိလျှင်လည်း။ ညီခံဆပ်စေ။ ထိုညီမရှိမဆောင်
မရွက်နိုင်လျှင်။ အစ်ကိုကြီးသားသို့ အမွေဆက်ခံစေ။ ၎င်အရိုးအရာကြောင့်
တင်မြဲရှိလျှင်။ မရိုးနှင့်။ သားမတ်တို့ခံစုအတိုင်းဆပ်စေ။ အရေးအရာအမှု၌။
ညီမဆောင်။ အစ်ကိုဆောင်စွမ်ပေကလည်း။ အစ်ကိုမယားသားအလုံးခံစံစေ။
တင်မြဲရှိသည်ဖြစ်ကလည်း။ သိမ်းခံစေ။ အစ်ကိုမယားညီသုံးယောက်နေကြ
ရာတွင်။ မိဘဥစ္စာရိုးရကြသည်များမှာ။ အတူနေမှရသည်။ လက်ထက်ပွား
မဆိုသာ။ ရသူဥစ္စာရင်းမှန်ချေသည်။ ဥစ္စာရှင်ရင်းသာယူစေ။ တင်မြဲရှိလည်း
နည်းတူခံဆပ်စေ။ မရိုးအမှုကို မတ်ဆောင်သည်။ မတ်အမှုကို မရိုးဆောင်
သည်မှာ။ ဥစ္စာခန်းမလိုက်။ ဆိုင်ရာသွားစေ။ ကျေးဇူးမစားသာဟု။ ဗြဟ္မာ
မင်း၏သားရင်းဖြစ်သော။ မနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၉ ညီအစ်ကိုအတူနေရာတွင်။ ညီသေ၍။ ညီမယားသားနှင့်။ အစ်ကိုဝေရာသော
တရားတပါး။

ညီအစ်ကိုအတူနေရာတွင်။ အစ်ကို၌မယားမရှိ။ ညီ၌မယားသားရှိ၏။ ညီ
သေသော်။ အစ်ကိုနှင့်ညီမယားညီသားဝေရာသောတရားမှာလည်း။ အထက်
က။ အစ်ကိုမယားသားတို့နှင့်။ ညီဝေကြရာ။ ဆိုခဲ့ပြီးသောနည်း အတိုင်း။
ကောင်းမွေ။ ဆိုးမြဲခွဲဝေစံစေဟု။ မနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

၆၀ မောင်နှစ်မနှစ်ယောက်။ ဝေရာသောတရားတပါး။

မောင်နှင့်နှစ်မ။ ဝေရာသောတရားတပါးဟူသည်ကား။ မောင်နှင့်နှစ်မ။
အမိအဖထံ။ အတူနေရာတွင်။ မိဘနှစ်ပါးသေ၍။ မောင်အကြီး။ နှစ်မအငယ်
ဖြစ်လျှင်။ အဖဝတ်စားတန်ဆာကို မောင်အကြီး အလုံးယူစေ။ အမိဝတ်စား
တန်ဆာကိုလည်း။ နှစ်မငယ်ဖြစ်သူအလုံးယူစေ။ ကျန်ဥစ္စာကိုသုံးစုစု၍။ နှစ်
စုမောင်အကြီးစားစေ။ တစုကိုနှစ်မစားစေ။ တင်မြဲရှိလည်းနည်းတူဆပ်စေ။
နှစ်မအကြီးမောင်အငယ်။ အမိတို့နှင့်အတူနေရာ၌။ ဝေရာသည်တရားကား။
အဖဝတ်စားတန်ဆာနှင့်ဆိုင်သမျှ။ ယောကျ်ားအသုံးအဆောင်ကိုမောင်အ
ငယ်ယူစေ။ ထိုမှကြွင်းသောဥစ္စာစုကိုတယောက်တဝက် အညီအမျှစားကြ
စေ။ အဘယ်ကြောင့်နည်းဟူမူကား။ ယောကျ်ားနှင့်မိမ္ဘတွင်။ ယောကျ်ားအ
မြတ်။ မိမ္ဘအယုတ်ဖြစ်ချေသောကြောင့်။ မောင်ငယ်သည်နှစ်မအကြီးနှင့်အတူ
စားစေဆိုသတည်း။ ။၎င်တွင်နှစ်ဦးသားမိဘထံမနေ။ မိဘသေလည်း

together with their wives and families, the elder brother shall obtain the rank and appointment of their paternal uncle, (elder than the father,) and inherited from their grandfather by the interest and merit of the younger, let the same come to the younger at the death of the elder brother, and if there be debts incurred on this account, let him pay them. If the younger brother be dead, or not competent to fill the appointment, let the son of the elder brother inherit, and let the widow of the elder brother, her son and brother-in-law, pay the debts that may have been incurred on this account in proportion to their share of the inheritance. If the younger brother has taken no active part in these affairs and the elder brother has done so, let the wife and family of the elder brother take all the property, and pay all the debts. When an elder brother, his wife, and younger brother, are living together, the property inherited from their forefathers, which they obtain whilst living together, shall not be reckoned property acquired by themselves or increase in their hands; they are original property; let the person who inherited keep them and pay the debts in the same proportion. If the brother-in-law conduct the business of the sister-in-law, or the sister-in-law that of the brother-in-law, let all the property go in the proper line of descent as before laid down; they shall have no claim for service rendered. Thus the lord hermit called Menoo said.

59*th. If during the residence together of an elder and younger brother, the younger shall die, the law of inheritance as regards his wife and children, and the elder brother.*

If the elder and younger brother live together, and the elder brother has no wife, and the younger has a wife and family, the law for the partition of the property on the death of the younger brother is the same as laid down in the last case.

60*th. The law of inheritance as regards one brother and sister.*

When a brother and sister are living together with their parents at the time of their death, if the brother be the elder, let him have all his father's clothes and ornaments, and let the sister have the clothes and ornaments of the mother; let the residue of the property be divided into three shares, and let the elder, the brother, have two and the sister one share, and let them pay the debts in the same proportion. When the sister is the elder, let the brother take the father's clothes and ornaments, and all that pertains solely to a man, and let each have an equal share of the remaining property. Why is this?—because the man is more excellent than the woman; therefore, it is said, let the younger brother and the eldest sister share alike. If they be not living with their parents at their death, let the partition

နည်းတူဝေစားကြစေ။နှစ်မအကြီးမိဘထံမနေ။သီးခြားနေအံ့။မောင်အငယ်မူကား။မိဘနှင့်အတူနေချေအံ့။ မိဘဝတ်စားတန်ဆာမှာမခြားသာပြီ။ အတူနေသားယောကျ်ား။နှစ်မအငယ်သော်လည်းစားစေ။ နှစ်မအကြီးမှာ။ ခွဲခြား၍နေသူဖြစ်သည်။တဆစားစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ။ မောင်ငယ်အခြားနေ၍။နှစ်မအကြီးမိဘနှင့်အတူနေဖြစ်ချေကလည်း။ကောင်းမွေ။ဆိုးမြီနှစ်ပါးလုံး၌ပင်။နှစ်ဆတဆခံစံဆပ်ကြစေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၆၁ မောင်နှစ်မသုံးယောက်။ဝေရာသောတရားတပါး။

မောင်နှစ်မသုံးယောက်ဝေရာသော်ကား။ မိဘသေ၍။ မောင်နှစ်မသုံးယောက်။အတူနေကြရာ။အဖဝတ်စားတန်ဆာတို့ကိုမောင်ယူစေ။ အမိဝတ်စားတန်ဆာတို့ကိုနှစ်မအကြီးယူစေ။ ကျန်သည်ဥစ္စာရပ်မှာ။ မောင်မှာနှစ်မအကြီးထက်တခုလပ်တက်ယူစေ။ ညီမအငယ်မှာ။ အစ်မကြီး အောက်တခုလပ်လျော့၍ယူစေ။ဤကားမောင်အကြီးဖြစ်သည်ကိုဆိုသတည်း။ ။

နှစ်မနှစ်ယောက်အကြီးမောင်အငယ်။အထက်နည်းနေ၍မိဘသေလျှင်။ဝတ်စားတန်ဆာမှာ။နည်းတူယူကြစေ။ကျန်ဥစ္စာရပ်ကိုခွဲဝေရမည်မှာ။ နှစ်မအကြီးနှင့်။မောင်အငယ်အမျှစားစေ။အစ်မရစုအောက်တခုလပ်လျော့၍။ညီမစားစေ။မြီရှိလည်းနည်းတူဖြစ်စေ။သီးခြားနေကလည်း။ဤင်ကဲ့သို့ဝေစားစေ။တစုံတယောက်သောသူအတူနေ၍။ မိဘသေသော်ရစုတွင်။ အတူနေနှစ်ဆစားစေ။နှစ်ဆဆိုသည်ဟုဥစ္စာပုံတွင်။ တယောက်အစုထက်နှစ်ဆမဆိုချင်။ရစုတွင်သာနှစ်ဆစားစေ။ မြီရှိလည်း နည်းတူဆပ်စေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၆၂ ပေါက်ဖော်တဦးသေ၍။တဦးကမသင်းဂြိုဟ်သည်။သေသူအမွေကိုမသင်းဂြိုဟ်သူပေါက်ဖော်တို့နှင့်ဝေရာ။မဝေရာသောတရားတပါး။

ပေါက်ဖော်တဦးသေ၍။တဦးကမသင်းဂြိုဟ်သည်။သေသူအမွေကိုကမသင်းဂြိုဟ်သူတို့နှင့်။ ပေါက်ဖော်တို့ဝေရာသောတရားတပါးဟူသည်ကား။ပေါက်ဖော်တယောက်သည်။ မိဘမရှိပြီဖြစ်၍။နာဖျားရာတွင်။တယောက်ပေါက်ဖော်ယူ၍။ကုမ၍သေရာသင်းဂြိုဟ်၏။ထိုသေသူ၌ရှိရှိသမျှဥစ္စာသက်ရှိသက်မဲ့ကိုအလုံးစားစေ။ပေါက်ဖော်တို့မစားမယူသာချေ။ဤင်သေသူသည်မိဘအမွေကိုမှီသူဖြစ်၍မဝေဖြစ်။တလုံးတည်းရှိသောဥစ္စာမှာ။ သေသောသူလက်ရောက်မဟုတ်။ အမွေဆိုင်သည်သာဖြစ်သော့ကြောင့်။ထိုရစုသင့်ကို။

be the same. Should the sister being the elder not live with the parents, and the brother do so, the clothes and ornaments shall not be separated from the other property; but let the brother living with his parents, though younger, have two shares, and the sister one, as she is living separate, and let them pay the debts in the same proportion. If the brother being the younger is living separately from the parents, and the sister with them, of all property and debts let (the brother have) two and (the sister) one share. Thus the lord hermit said.

61*st. The law of inheritance as regards three brothers and sisters.*

If the three be living together on the death of the parents, let the brother have the father's clothes and ornaments, and the elder sister the clothes and ornaments of the mother, and of the remaining property let the brother have one-third share more than the elder sister, and the younger sister one-third share less; this is when the brother is the eldest. Should the sisters be the eldest, and the brother the youngest, let them share the clothes and ornaments as above laid down; and of the remaining property let the eldest sister and the brothers share alike, and the younger have one-third share less, and if there be debts, let them pay them in the same proportion. If they be living separately, let the partition be the same. If one was living with the parents at the time of their death, let that one have twice the share he (or she) would otherwise have been entitled to. This double share is not laid down with reference to the others, but twice what the one so remaining with the parents would otherwise have had, and let them pay the debts in the same proportion. Thus the lord hermit ordered.

62*nd. A person having died, one relative buries him—the law of inheritance as regards this relation and the others.*

When a person dies, and a relative who has assisted him (during life) shall bury him, the law of inheritance between this relation and the others, is this; if a person takes and assists an orphan relation in his illness, and on his death buries him, let this relation have all the property, animate and inanimate, in the possession of deceased; the other relations shall have no share; and if he be in reach of the inheritance from his parents, all that is undivided and not come into his possession, shall be divided into two equal shares, and of these the person so assisting him shall have one and the other relations the other; because he was only entitled to inherit. If there be debts,

နာဖျားး၍ကုမသူတဝက်။ ပေါက်ဖော်တို့မှာ တဝက် မျှ၍ စားစေ။ တင်မြဲရှိလည်းနည်းတူဆပ်စေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

### ၆၃ သူမိမ်းနာဖျားသောအခါ။ကုမ၍သေလျှင်။ သင်းပြုပ်သည်မိဘပေါက်ဖော်တို့နှင့်။သင်းပြုပ်သူတို့ဝေရာသောတရားတပါး။

သူမိမ်းကိုနာဖျားသောအခါ။ကုမ၍သေလျှင်။သင်းပြုပ်သည်။သေသူမိဘပေါက်ဖော်တို့နှင့်။ သင်းပြုပ်သူဝေရာ။ မဝေရာသော တရားတပါးဟူသည်ကား။ အကြင်သူတယောက်သည်။ နာဖျား၍ရှိရာကုမ၍ ဆွေမျိုးမစပ်သောသူလက်တွင်သေ၏။ဖုတ်ကြဲ၍သင်းပြုပ်၏။ထိုသေသူတွင်။ပါသမျှဥစ္စာရပ်ကိုကုမသင်းပြုပ်သူအလုံးရစေ။ မိဘပေါက်ဖော်သားမြေးတို့က။ သေသူတွင်ပါလေသည်။ရကောင်း၏မဆိုသာချေဟု။ရှင်ရသေ့ဆိုတော်မူ၏။

အဘယ်သူတို့သေသူတွင်ပါလေသောဥစ္စာကိုမရယောက်၍ သိရသနည်းဟူမူကား။ရှေးသောအခါ။သူဌေးတယောက်သည်။ရဟန်းပြုလေ၏။သူဌေးလင်မယားပေးသောပတ္တမြားလက်စွပ်တသိန်းတံကို သက်နိုးအနားပတ်အတွင်း၌ချုပ်၍ ချုပ်ထားလေ၏။တရပ်တကျေးတတိုင်းသို့သွားရာ။ရဟန်းတဦးကျောင်းတွင်နေလေ၏။ဖျားနာ၍ကုမ၏။ကံမမှီ၍သေရာတွင်။သက်နိုးအထဲ၌ရှိသောတသိန်းတန်သောပတ္တမြားလက်စွပ်ကို ကုမသောကျောင်းနေရဟန်းရ၏။ ရသည်နှင့် သင်းပြုပ် ပြီးနောက်။ အဖသူဌေးလာ၍။ အကျွန်ုပ်သားရဟန်းတွင်ပါလာသည်။ အဖိုးတသိန်းတန်သော ပတ္တမြားလက်စွပ်ကိုရပါ၏လားမေးလျှင်။နာစည်ကုမ၍သေလျှင်။ အရိုးမြေကျဖုတ်ကြည်သင်းပြုပ်သူကျောင်းရဟန်းကလည်းရ၏။ပြောသည်ကိုသခင်မယူသင့်။ ကျွန်ုပ်သားတွင်ပါသည်ပတ္တမြားလက်စွပ်အဖိုးတသိန်းတန်သည်။ကျွန်ုပ်ဥစ္စာဖြစ်သည်ရကောင်းသည်ဆိုသည်။ ကျောင်းနေသခင် ရဟန်းကလည်း။ နာစည်ကုမ၍သေလျှင်။ အရိုးမြေကျဖုတ်ကြည်သင်းပြုပ်သူ ငါသာရကောင်း၏ ဆိုသည်တွင်။ဘုရားရှင်က။နာစည်ကုမ၍သေလျှင်။အရိုးမြေကျဖုတ်ကြည်သင်းပြုပ်သူရထိုက်ချေသည်ဟု။ ဟောတော်မူသော့ကြောင့်။ သူဌေး မရ လွှတ်ရချေသည်အကြောင်းသည်သက်သေပင်တည်း။

### ၆၄ နှစ်ဦးကျွန် နှစ်ယောက်သေဥစ္စာကို။ သခင်တယောက်တည်း ရရာသောတရားတပါး။

နှစ်ဦးကျွန် နှစ်ယောက်သေဥစ္စာကို သခင်တယောက်တည်း ရရာသောတရားတပါးဟူသည်ကား။သဉ္ဇကကျွန်တဦး။ အမျိုးရှိကြေးဝယ်ကျွန်တဦး။

let them pay them in the same proportion. Thus the lord hermit, called Menoo, said.

63*d*. *A person being sick, one not related to him takes care of him, and after his death buries him,—the law of inheritance as regards this person and the parents and relations of the deceased.*

If a person who is not related assist in life, and at death bury another, the law as to the partition of the property of deceased between this person and his parents and relations, is this; if any person being sick shall be assisted by another who is not related to him, and dying in the hands of this person, he shall bury him, let him take all the property in the possession of the deceased; his parents, children, or relations, shall have no claim. Thus the lord hermit said.

That no person having property with the deceased shall recover it, is shown by this precedent: In former times, the son of a man of the wealthy class having become a Rahan, concealed a ruby ring, which he had received from his parents, worth one hundred thousand tickals, in the hem of his priest's garment, and went to a far country, where he took up his abode in the convent of another Rahan, and there fell sick; this Rahan assisted and administered medicine to him, but the influence of former deeds extended no farther, and he died; the Rahan of the convent got his ruby ring. After the funeral, the rich man, his father, came and inquired of the Rahan, saying, "Did you get a ruby ring, worth one hundred thousand tickals, which was in the possession of my son?" The Rahan, who had assisted him in his illness, and at death put his bones in the earth, replied that he had got it. (Whereupon the rich man said,) "my lord ought not to keep the ruby, which is worth one hundred thousand tickals, which was in the possession of my son; it was my property, and ought to be restored to me." The Rahan, the master of the convent, said, the person who assisted and who buried him ought to have it; (thus) the lord of gods decided. The person who assists another in sickness and buries him at his death, has the right (to his property;) and thus the rich man did not obtain it, (the ring.) This is a precedent.

64*th*. *A husband and wife, who are slaves of different masters, dying while slaves of different masters, the law by which one of the masters only shall inherit.*

When two slaves of two masters die, the law by which the master of one inherits the property of both: If a hereditary and a purchased

ထိုနှစ်ယောက်တို့ သခင်မထိမ်းမြား မပေးစားဘဲ။ ပြေးသွား ကြရာမှာ၊ ကံအားလျော်စွာဥစ္စာရှိအံ့။ နှစ်ဦးသားသေအံ့။ သန္တကဖြစ်သောကျွန်သခင်အလုံးစားစေဆိုသတည်း။

၆၅ နှစ်ဦးကျွန်နှစ်ယောက်သေဥစ္စာကိုသခင်နှစ်ပါး။ဝေရာသောတရားတပါး။

နှစ်ဦးကျွန်သေဥစ္စာကိုသခင်နှစ်ပါး။ ဝေရာသောတရားတပါးဟူသည်ကား။ကျွန်တို့သည်။သန္တကချင်းသင့်နေအံ့။ တဦးသန္တက။တဦးအမျိုးရှိကျွန်ဖြစ်ကြအံ့။ ၎င်းတို့ကိုပေးစားသည်ဖြစ်စေ။ မပေးစားဘဲ သဘောတူ သင့်နေသည်ဖြစ်စေ၊သင့်နေကြရာတွင် ဥစ္စာရှိ၏။ ကျွန်တို့သေလျှင်။ထိုကျွန်တို့နှစ်ဦးတွင်ရှိသောဥစ္စာကို။ သန္တကနှင့်အမျိုးရှိဖြစ်လျှင်။ သုံးစုစု၍။နှစ်စုကိုသန္တကရှင်စားစေ။တစုကိုကြေးဝယ်ကျွန်ရှင်စားစေ။သန္တကချင်းဖြစ်လျှင်။ အညီအမျှဝေယူစားကြစေဟု။ဗြဟ္မာမင်း၏သားရင်းဖြစ်သော။ရှင်ရသေ့ဆိုတော်မူ၏။

၆၆ မယားတယောက်နေသေ။သားသွီးရှိ။ ၎င်တယောက်နေသေ။သားသွီးရှိ။ ၎င်တယောက်နေသေ။သားသွီးရှိ။အဖသေလျှင်။သားသုံးယောက်ဝေရာသောတရားတပါး။

မယားတယောက်နေသေ။ သားသွီးရှိ။ ၎င်နေသေ။ သားသွီးရှိ။၎င်တယောက်နေသေ။ သားသွီးရှိ၊အဖသေ။ သားသုံးယောက်ဝေရာသောတရားတပါးဟူသည်ကား။ အကြင်လူ တယောက်သည်။ မယားတယောက်သေ၍သားရှိ၏။၎င်တွင်အမွေမဝေဖြစ်။ တမယားနေ၍သားရှိ၏။ ချင်းမယားသေပြန်၍အမွေမဝေဖြစ်။ ၎င်တယောက်နေပြန်၏။ သားတယောက် မွေးရာတွင်သေ၏။အဖလည်းသေ၏။ သားသုံးယောက်တို့လည်းဝေရန်ဥစ္စာကိုစီစစ်၍။ တရားသူကြီးတို့သည်။စီရင်ရာသည်ကား။ မယားသုံးယောက်တို့၏ဥစ္စာရိုးသင်းသီးတို့ကို။အမိမွေးသောသားတို့။ကိုယ်စီယူကြစေ။ အဖဥစ္စာရိုးသင်းသီးမှာ။အထက်မယားကြီးလက်ထက်ကပါရင်းရှိ၏။နောက်မယားတို့တွင်။အပွားအစီးမရှိမရက။ ၎င်ဥစ္စာသည်။ အထက်ဥစ္စာမည်ရာသည်။ အထက်သားနှစ်စု။ အောက်သားတစုစားစေဟုဆိုခြင်း၌။ မယားနှစ်ဦး။ သားနှစ်ထွေတွင်သာဆိုသတည်း။ ။ယခုသားသုံးဦးမှာ။အမိသာကွဲသည်။ အဖဆုံဖြစ်ခြင်းကြောင့်။ အထက်အဖပါ မှန်သမျှကို လေးစုစု၍။ နှစ်စုကိုအထက်မယားသားစားစေ။ နှစ်ဦးသားမှာ တစုစီစားကြစေ။ တင်ပြိုရှိလည်းနည်းတူဆုပ်ကြစေ။ ။အလယ်မယားတွင်ဖြစ်လည်းနည်းတူ၊နောက်

slave run away together, without being given in marriage by their masters, and by the influence of former good deeds acquire property, and both die, let the master of the hereditary slave take all their property.

*65th. The slaves of two masters dying, the law when both masters shall inherit.*

The slaves of two masters dying, the law by which the masters of both shall inherit: If two hereditary slaves shall of their own accord cohabit, or if one be hereditary and the other bought of a free family, and they be given in marriage, or from their own inclinations shall cohabit, and during their cohabitation acquire property; at their death, if one be an hereditary slave and the other of a free family, let the property be divided into three shares; of which, let the master of the hereditary slave have two, and of the slave of free family one. If they are both hereditary slaves, let the masters share equally. Thus the son of the king of Bymahs, the lord hermit, hath laid down.

*66th. A man marrying three successive wives and having children by each, the law of partition between the children of each on the death of the father.*

A person takes a wife who dies leaving children; he takes another, she also dies leaving children; he takes a third, she also dies leaving children,—the law of inheritance between these three children at the death of the father, is this: if a person have a wife and she die leaving children, and before the property is divided amongst them the father takes another wife, having borne him children she dies, and whilst the property is still undivided, he takes a third and she dies in giving birth to her first child, and the father also dies;—the judge having collected the property to be divided between the three families shall thus decide: let the children of each wife take their own mother's separate hereditary property, (theng-thee.) The hereditary separate property of the father which he has had since the time of the first wife, which has not been increased or added to, during the time of the other two wives, shall be called "ahtet," former property. It is said, when there are two families, that the children of the elder shall have two and of the younger family one share. Now when there are three families, the mothers only differing because they centre all in one father, let it be divided into four shares, of which, let the children of the first wife have two, and the children of the others one each, and if there be debts, let them pay them in the same proportions. Should the property have come into his possession in the time of the second wife, or of the last, let the division be

မယားတွင်ဖြစ်လည်းနည်းတူဝေယူစားကြစေ။တင်မြီရှိလည်းနည်းတူဆပ်ကြစေ။ ။အဘယ်ကြောင့်နည်းဟူမူကား။မယားတယောက်သေမှ တယောက်နေ။ငင်သုံးယောက်သေမှ။အဖသေသည်။မယားဥစ္စာလင်ပိုင်ရာသောတရားရှိသောကြောင့်။ရရင်း အမိလက်ထက်ပွားဥစ္စာကို။ငင်သားနှစ်ဆစားစေသည်မှာ။မိဘနှစ်ပါးဆုံသောအရာ၌ဖြစ်ချေ၍ဆိုသတည်း။

၆၇ လင်တယောက်နေသေ၊သားသွီးရှိ၊ငင်တယောက်နေသေ။ သားသွီးရှိ။ ငင်တယောက်နေသေ။သားသွီးရှိ။အမိသေ။သားသုံးယောက်ဝေရာသောတရားတပါး။

လင်တယောက်နေသေ။သားသွီးရှိ။ငင်တယောက်နေသေ။သားသွီးရှိ။ငင်တယောက်နေသေ။ သားသွီးရှိ။ အမိသေ၍။ သားသုံးယောက်တို့ဝေရာသောတရားတပါးဟူသည်ကား။အကြင်မိန္မတယောက်သည်။လင်တယောက်သေ။ငင်သားရှိ၏။ ငင်အမွေမဝေဖြစ်၍။ လင်တယောက်နေ၍သားရှိ၏။သေပြန်ခဲ့၏။ အမွေမဝေဖြစ်။ ငင်တယောက်နေပြန်၍။ သားတယောက် မွေးရာတွင်သေ၏။အမိလည်းသေ၏။ သားသုံးယောက်တို့သည်ဝေရန်ဥစ္စာရပ်ကိုစီစစ်၍ တရားသူကြီးတို့ စီရင်ရာ သည်ကား။ လင်သုံးယောက်တို့၏ ဥစ္စာရိုးသင်းသီးကို။ ထိုအဖ၌မွေးသောသားတို့ ကိုယ်စီယူကြစေ။ တင်မြီရှိလည်းနည်းတူဆပ်ကြစေ။ အမိဥစ္စာရိုးသင်းသီးမှာ။ အထက်လင်ကြီးလက်ထက်သာပါရှိ၍။နောက်လင်တို့သို့ရောက်မည်။ နောက်လင်တို့တွင်။အပွားအစီးမရရှိက။ငင်ဥစ္စာသည်။အထက်ဥစ္စာမည်ရာသည်။အထက်ဥစ္စာကို။အထက်သားနှစ်စု။ အောက်သားတစုပေးစေဟုဆိုခြင်း၌။ လင်နှစ်ဦး။ သားနှစ်ထွေတွင်သာဆိုခြင်းတည်း။ ယခုသားသုံးဦးမှာ။အဖသာကွဲသည်။ အမိဆုံဖြစ်ခြင်းကြောင့်။ အထက်အဖပါဥစ္စာမှန်သမျှကို လေးစုစု၍။ နှစ်စုကို အထက်လင်သားစားစေ။ နောက်လင်နှစ်ဦးသားမှာ။ တစုစီစားစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ။ အလယ်လင်တွင် ဖြစ်လည်း နည်းတူ စားကြစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ၊အဘယ်ကြောင့်နည်းဟူမူကား။လင်တယောက်သေမှတယောက်နေ။ငင်လင်သုံးယောက်နေမှ။ အမိသေသည်။ လင်ဥစ္စာမယားပိုင်ရာတရားရှိသောကြောင့်။အမိဘမိတည်းတွင်။ရရင်းအဖလက်ထက်ပွားဥစ္စာကို။နှစ်ဆစားစေသည်မှာ။ မိဘနှစ်ပါးဆုံသောအရာ၌ဖြစ်ချေ၍ဆိုသတည်း။

၆၈ ဆရာသေ၍။တပည့်နှင့်ဆရာမယားသား။ဝေရာသောတရားတပါး၊

ဆရာသေသော်။တပည့်နှင့်ဆရာမယားသား။ဝေရာသောတရားတပါးဟူသည်ကား။ဝိဇ္ဇာတပါး။ သိပ္ပတပါးရှိသည်ကိုဆို၏။ ဝိဇ္ဇာဟူသည်ကား။

the same, of property and debts. Why is this?—because after the death of one wife the husband took another, and after her death a third, and the law has laid it down that the husband is the owner of the wife's property. Of the original property, let the children of the mother in whose time it was received have two shares; this is said when the parents were living together at the time the property came into possession.

*67th. A woman having three successive husbands, and children by each, the law of partition between these children on her death.*

A woman takes a husband who dies leaving children, she takes another who also dies leaving children, and a third, who also dies leaving children, and lastly the woman dies also, the law for the partition of the property between the three children is this; a woman takes a husband who dies leaving children, and before the property is divided takes a second, who, leaving children, also dies, and whilst the property is still undivided takes a third, and he dies, and lastly the mother, in giving birth to his child, also dies. In this case, the judge, having collected the property to be divided, shall thus decide; let the children of each husband take his own father's original and separate property, (theng-thee,) and pay the debts in the same proportion. If the mother's original separate property has come down from the time of the first husband to the time of the second, and there shall have been no increase during the time of the second marriage, it shall be called (ahtet,) former, and the children of the first husband shall have two shares, and of the second one; this is the law when there are only two husbands and two families. Now of the three families, the fathers only are different; they are all of one mother; let all the property that was in her possession during the time of the first husband be divided into four shares, and let the children of the first husband have two and of the last one share each; let them pay the debts in the same proportions; if the property came into possession in the time of the second husband, let there be the same division of property and debts. Why is this?—because one husband dying, the woman took another, and after his death a third, and she died, and the law lays down that the wife has a right to her husband's property,—there is only one mother. Of the property that was acquired during the time of any particular husband, his children shall have two shares, because it was obtained at the time when both their parents were living together.

*68th. The law of partition between the pupil and the wife and children of a teacher, at his death.*

On the death of a teacher, the law for the partition of the inheritance between his pupil and his wife and family is this: There are

ပညာညာဏ်တည်း။ သိပ္ပဟူသည်ကား။ လက်အတတ်တည်း။ ထိုနှစ်ပါးသော
အတတ်တို့တွင်။ တခုခုကိုသင်ကြားပါဆို၍။ ပန္နာလက်ဆောင်ဥစ္စာပေး၍
သင်ကြား၏။ ထိုသို့သင်ကြားရာတွင်။ မပေးမယူအတူတကွနေ၍။ ဆရာသည်
သူတပါးအားသင်ကြား၍။ ပညာပူဇော်ခြင်း။ အတတ်ပူဇော်ခြင်းငှါရသော
သက်ရှိ။ သက်မဲ့ကိုဆရာသော်လျှင်။ ဆရာမယားသားတို့ရစေ။ တပည့်မရသာ
ချေ။ အဘယ်ကြောင့်နည်းဟူမူကား။ ဆရာ၏အတတ်ပညာကြောင့်ရသော
ဥစ္စာဆရာကိုသာပေးချေသည်ဖြစ်သောကြောင့်တည်း။ ။ ၎င်ဆရာထံ
တပည့်သင်ကြား၍ နေရာ၌။ တပည့် အတတ် ပညာ ကြောင့် ရသော ဝတ္ထု
ပစ္စည်းဥစ္စာမှာ။ ဆရာသော်လျှင်။ ဆရာမယားသားတို့သို့ဆရာရှိစည်အပုံအစု
မယူသေးလျှင်။ ဆယ်စုတစုဆရာမယားသားတို့စားစေ။ ထိုဥစ္စာရပ်တို့ဖြင့်။
ဆရာမယားတပည့်အတူအတတ်ပညာသင်၍နေကြရာတွင်။ မစားလောက်
၍ သုမြီတင်က။ ခံတွင် စုဆဆပ်စေ။ ဆရာသေသူ ခံတွင်စုမှာ။ ဆယ်စု တစု
တပည့်ကဆပ်စေ။ အမြတ်မှာ။ ကုန်ဘက်ကဲ့သို့မယူသာ။ ဆရာတပည့်ဖြစ်ချေ
သည်။ ဆယ်စုတစုမျှသာတပည့်ကယူစေ။ ၎င်အကြောင်းကြောင့်။ မြီတင်
လည်းဆယ်စုတစုတပည့်ဆပ်စေ။ ဆရာမယားသားတို့မှာ။ မြီတွင်ကိုးစုခံ။
၎င်ဥစ္စာရပ်တွင်လည်းကိုးစုစားစေဟူသတည်း။

၆၉ တပည့်သေ။ တပည့်မယားသားတို့နှင့်။ ဆရာဝေရာ။ မဝေရာသောဘရားတပါး။

တပည့်သေ။ တပည့်မယားသားနှင့်။ ဆရာဝေရာသော တရားတပါးဟူ
သည်ကား။ ဆရာသည်။ တပည့်ထံလိုက်၍သင်ကြားအံ့။ တပည့်သေမည်။
ဆရာထံ။ တပည့်လိုက်၍သင်ကြားရာတွင်။ တပည့်သေမည်။ ထိုသို့အကြောင်း
နှစ်ပါးရှိသည်မှာ။ တပည့်ထံ။ ဆရာလိုက်၍သင်ကြားရာတွင်။ တပည့်မိဘ
မယားသားတို့ထံ။ တပည့်သေသည်ကို။ ဆရာသည် အထက်ပူဇော်မည်ဆို
သည်။ ရွှေငွေဥစ္စာဘဏ္ဍာကို။ ရကောင်း၏ဆိုလည်းမရရာ။ ဆရာလက်ရောက်
ပူဇော်သည်ကိုသာရစေ။ ဆရာထံ။ တပည့်သေအံ့။ ထိုတပည့်၌ပါသောဝတ္ထု
ကိုဆရာရစေ။ တပည့်မယားသားတို့မရရာ။ ဆရာသည်။ ၎င်တပည့်သေသူကို
ဝါသင်းဂြိုဟ်ရသည်။ ၎င်တပည့်ဥစ္စာ။ မယား သားသ္မီး ပေါက်ဖော်တို့မှာ။ ရှိ
သည်ဆိုသော်လည်းမရသာ။ ဆရာတပည့်ခရီးသွားရာ၌။ ဆရာသည်ရွှေငွေ
အမှတ်မဲ့ရအံ့။ ဆယ်စုစု၍ တစု တပည့်စားစေ။ ဆရာနည်းတပည့်တူရအံ့။
သုံးစုစု၍ နှစ်စုတပည့်။ တစုကိုဆရာစားစေ။ ဆရာတပည့်မဟုတ်ကြ။ အတူ
ရကြလျှင်။ အညီစားကြစေဟု။ မနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

two kinds of learning, Widza and Thippa. Widza is scientific, and Thippa mechanical. If a pupil request to be taught either of these, and having given presents to his teacher, is taught, during the time of their living together no farther presents are given, but the teacher having taught others obtains property, animate and inanimate, as offerings to his wisdom; when he dies, let his wife and family have all his effects, the pupil shall have no share. Why is this?—because it is property acquired by the teacher only on account of his wisdom and learning; it was given to him alone. In the same way, if whilst the pupil and teacher live together, property be acquired on account of the wisdom and learning of the pupil, on the death of the teacher, if he did not take his share during his life and family, he shall have one-tenth share. If the property was not enough for subsistence for the teacher, his wife and pupil when living together and studying science or mechanics, let each pay their proper share of the debts incurred; let the pupil pay one-tenth of the deceased teacher's debts. It shall not be as with partners in trade; they were master and pupil; the latter shall only have one-tenth of the property; and for this reason, let him pay one-tenth of the debts; let the teacher's wife and family bear nine-tenths of the debts and have nine-tenths of the profits.

### 69*th. The law of partition between the teacher and the wife and children of a pupil at his death.*

On the death of a pupil or apprentice, the law for the division of his property between his wife and teacher is this; if the teacher goes to the house of the pupil to instruct him, and the pupil shall there die, or the pupil going to the teacher's house for instruction shall there die; of these two cases, first, if the teacher go to the house of the pupil and the pupil dies with his wife and family, the teacher, though he demand it, shall have no right to silver, gold, or other property that may have been promised him; let him only keep what he has already got in possession. If the pupil die with the teacher, let him keep all the property in the pupil's possession at his death; his wife and family shall have no claim; but if the teacher sue for the property that is in the possession of the wife, children, or relations of the pupil, on the grounds that he performed his funeral rites, he shall not obtain it. If the teacher and pupil go on a journey, and the teacher by chance pick up a pot of gold or silver, let the pupil have one-tenth. If the pupil shall in the same way obtain gold or silver, he shall retain two-thirds, and give the teacher one-third. If the parties be not teacher and pupil, let them share alike under these circumstances.

၇၀ ဆရာတပည့်မယားသားမရှိသေ၍။မိဘပေါက်ဖော်တို့ဝေရာသောတရားတပါး။

ဆရာတပည့် မယား သားမရှိ။နှစ်ဦးဝေရာသောတရားတပါးဟူသည်ကား။ အကြင်ဆရာတပည့်တို့သည် တိုင်ပင်၍ လုပ်ဆောင်ကြံစည်၏။ ပညာအတတ်ကိုလည်း။တပည့်အားသင်ကြားခြင်းကိုဆရာပြု၍။ တပည့်ကျွေးမွေးသုတ်သင်ခြင်းပြုပေ၏။ရသောဝတ္ထုကိုဆယ်စုစု၍။တစုတပည့်ရစေ။ဆရာသေလျှင်။တပည့်အလုံးရစေ။ တပည့်သေလျှင်။ဆရာအလုံးယူစေ။ ဤသို့ဆိုခြင်းကား။နှစ်ယောက်အတူတကွနေ၍သေရာ၌။ဖုတ်ကြည်သင်းပြုဟ်သည်ကိုဆိုသတည်း။ ၎င်အတူနေ၍သေစေကာမူ။ တရပ်တရွာတည်းဖြစ်၍။မိဘပေါက်ဖော်။အမျိုးအနွယ်ပေါ်ရှိလျှင်။ ဆရာအစုကိုဆရာအမျိုးတို့တဝက်။တပည့်အမျိုးမိဘပေါက်ဖော်ရှိလျှင်လည်း။ တပည့်အစုတွင် တဝက်စားစေဟူသည်ကား။ တပည့်ဆရာမိဘပေါက်ဖော်တို့ အတူသင်းပြုဟ်သည်ကိုဆိုသတည်း။မိဘပေါက်ဖော်သားချင်းတို့သင်းပြုဟ်ရသည်မှာ။ဆရာသေလျှင်။တပည့်အလုံးယူစေ။တပည့်သေလျှင်။ဆရာအလုံးယူစေဟုဆိုသတည်း။

ဆရာတပည့်သားမယားမရှိ။ နှစ်ဦးသေသော်။ နောက်သေသူဥစ္စာကို။နောက်သေသူမိဘ ပေါက်ဖော် သားချင်းတို့နှင့်။ အယင်သေသူမိဘပေါက်ဖော်သားချင်းတို့ဝေရာသောတရားတပါးဟူသည်ကား။၎င်ဆရာတပည့်တို့သည်။တိုင်ပင်ကြံစည်သင်ကြားပြုစုရင်းနှီးကြရာတွင်။ဥစ္စာအများရှိ၍။ တဦးဦးအယင်သေသော်။ နောက်သေသူမိဘတို့သည်။ အကုန်စားစေ။ အယင်သေသူမိဘတို့မစားသာဆိုခြင်းသည်။လင်မယားကဲ့သို့တွင်သာဆိုသတည်း။နှစ်ဦးဆရာတပည့်ဥစ္စာရပ်မှာ။သိးသန့်ခြားနားသည်အတိုင်းယူကြစေ။မသိသာမခြားနားချေလျှင်။ဆရာနောက်သေဖြစ်က။ဆရာမိဘပေါက်ဖော်တို့နှစ်ဆစားစေ။တဆကိုတပည့်ပေါက်ဖော်တို့စားစေ။ တပည့်နောက်သေဖြစ်က။ရှိရှိသမျှဥစ္စာရပ်ကို။ဆရာမိဘပေါက်ဖော်တို့နှင့်။ အညီအမျှဝေစားကြစေ။၎င်တို့နှစ်ယောက်အတူနေရာတွင်။တင်မြီရှိလည်းနည်းတူအစုရှိသည်အတိုင်းဆပ်ကြစေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၇၁ အမွေခံထိုက်သောသူမစားရ။ အမွေမခံထိုက်သောသူ စားရရာ သောတရား တပါး။

အမွေဖြစ်ထိုက်သောဥစ္စာကို။အမွေအဖြစ်သဖြင့်။ မဝေရထိုက်သောသူစားရလေသည်ကိုဆိုသောတရားဟူသည်ကား။အမိအဖတို့သည်။ကြွယ်ဝကုံထံ၍။သားသမီးမြေးတို့ကိုအလုံးဝေ၏။ဥစ္စာရလျှင်။ သားသမီးမြေးတို့သည်။မိဘဘိုးဘွားတို့ကိုမကျွေးမမွေးနေလျှင်။ပေးသောဥစ္စာရပ်ကိုအစည်ယူစေ၍။

*70th. The law of partition at the death of a teacher and pupil having no wives or children, between the parents and relations.*

If neither teacher nor pupil have wife or family, the law of division between them is this; if a teacher and pupil have consulted, contrived, and worked together, the teacher instructs the pupil in his art, and he (in return) serves the teacher, let the pupil have one-tenth of the property acquired; and if the teacher die, let him succeed to the whole; should the pupil die, let the teacher have the whole. This is said when they live together, one dies and the survivor performs the funeral rites. If their parents or relations be discovered in the district, let the relations of the teacher have one-half his share, and if the parents of the pupil are found, let them have half of his (tenth) share; this is when the parents or relations assist at the funeral. If they do not, at the death of the teacher let the pupil have all, and at the death of the pupil let the teacher have all; this is said.

If both teacher and pupil die, and leave no wife or family, the law when the property of the last survivor shall, or shall not, be divided between his parents and relations and the parents and relations of the first deceased, is this; if the teacher and pupil live, consult, contrive, and trade together, in the course of which they acquire much property, and one die before the other, let the parents of the last deceased have all the property; those of the others shall have no right to share; this is only said when their property is as that of a husband and wife. If the property be distinct and separate, let the relations of each have his share. If the proper share of each be not known, and the teacher be the last survivor, let his parents and relations have two shares, and the parents and relations of the pupil one share. If the pupil be the last survivor, let the property be equally divided between his parents and relations, and those of the teacher; and if they have contracted debts whilst living together, let each pay according to their share of the property. Thus the lord hermit, called Menoo, said.

*71st. The law when a person entitled to inherit shall not, and those who are not, shall.*

The law when property which ought to be treated as an inheritance, but which has not been divided as such, shall be given to the person who deserves it, is this; if the parents who are rich give all their property to their children, or grandchildren, and these children do not support them after having obtained the property, let the property be taken back as it was given, and let the person, whether

နောက်ကျွေးမွေးသူသည်သူမိမ်း။သားချင်းမဆိုအလုံးရစေ၊ အဘယ်သူတို့ သူမိမ်းဖြစ်ရသည်ကိုထောက်၍။သိရသနည်းဟူမူကား။ သက်သေကိုဆိုပေ တုံအံ့။ခနည္ထရသူဌေးသည်။ဥစ္စာအများရှိသည်ကို။သားမြေးအားအလုံးပေး ၍မွေးကျွေးစေ၏။ နောင်သောအခါ။ သားမယားဖြစ်သောချွေးမတို့သည်။ ဝန်တိုသဖြင့်။ မကျွေးမမွေးနေ၍သူဌေးဆင်းရဲ၏။ မင်းကြီးပြည်လည်ရာ၌။ မင်းကြီးမြင်စိမ့်ငှါ။ထိုသူဌေးသည်။တောင်ဝေးလက်စွဲလျက်။ဖုံးစားခွက်ဖြင့် ကိုင်၍။မင်းကြီးမြင်လောက်ရုံ။ပရိယာယ်အားဖြင့်သွား၏။ မင်းကြီးလည်း။ ယခုတောင်ဝေးစွဲလျက်။ ခွက်လက်စွဲ၍။ ဖုံးစားသောသူသည်။ အဘယ်သူ နည်း။မင်းချင်းယောကျ်ားတို့ကိုမေးတော်မူသည်။မင်းချင်းယောကျ်ားတို့က။ ခနည္ထရသူဌေးဖြစ်ပါသည်ဟုနားတော်လျှောက်ပေ၏။ ထိုသို့လျှောက်သည် ကိုကြားသော်။ မင်းကြီးနန်းတော်သို့လှည့်၍ပြန်သည်။ ရောက်လျှင်သူဌေး ကြီးအားခေါ်၍မေး၏။သူဌေးကြီးလည်း။အထက်စကားအတိုင်းဟုတ်သည် ကိုလျှောက်ပေ၏။မင်းကြီးလည်း။သားချွေးမမြေးတို့ကိုခေါ်၍မေး၏။သူဌေး စကားအတိုင်းပြော၍ကြား၏။အော်သားသမီးတို့သည်။မိဘကိုမကြည်မလင် ဥစ္စာပုံကိုယူ၍။ မကျွေးမမွေးနေသည်တကားဟု။ သူဌေးဥစ္စာရပ်ကို။သား ချွေးမမြေးတို့၌။အကုန်ယူ၍။သူဌေးကိုမင်းကြီးကျွေးမွေး၏။သူဌေးသေလေ ၏။သားချွေးမမြေးတို့မစားရလေ။ ယူပြီးသောဥစ္စာရှိလျက်။ မကျွေးနေသူ သည်။ကျွေးမွေးပါအံ့။ဝန်ခံသော်လည်း။စားထိုက်သောအမွေကို မစားသာ ပြီ။ကျွေးမွေးသောမင်းသာစားပိုင်လေသကဲ့သို့။ကျွေးမွေးသူမှန်က။ မည်သူ မဆိုစားစေဟူသတည်း။

၇၂ တမိတဖတည်းတွင်။သမီးကြီးနှစ်ယောက်။သမီးလပ်နှစ်ယောက်။ သမီးထွေးနှစ် ယောက်။ဝေရာသောတရားတပါး။

တမိတဖတည်းတွင်။သမီးကြီးနှစ်ယောက်။သမီးလပ်နှစ်ယောက်။သမီးထွေး နှစ်ယောက်။ ဝေရာသောတရားတပါး ဟူသည်ကား။ အကြင်မိဘ တို့တွင်။ သမီးခြောက်ယောက် ရှိရာ၌။ အကြီးနှင့် အကြီး အောက်သည်။ သမီးကြီးနှစ် မည်၏။ နှစ်ယောက်ခြားအောက်။ကြီးငယ်နှစ်ယောက်သည်။ သမီးလပ်နှစ် ယောက်မည်၏။ဝှင်လေးယောက်အောက်။အကြီးနှင့်အငယ်သည်။သမီးထွေး မည်၏။ ဤအရာ၌။ဝေစားခြင်းကား။ သမီးကြီးနှစ်ယောက်တွင်။နှောင်းသမီး ကြီးနှစ်စု။ အထက်သမီးကြီးနှစ်စုခွဲယူစေ။ သမီးလပ်တွင်လည်း။ အငယ်သမီး လပ်တစု။သမီးလပ်တစုခွဲယူစေ။သမီးငယ်သမီးထွေးနှစ်ယောက်မှာ။ သမီးထွေး တစု။သမီးငယ်တစုခွဲယူစေ။ တနည်းကား။သမီးကြီးနှင့်သမီးကြီးအမျှ။သမီးလပ် နှင့်သမီးလပ်အမျှ။ညီမငယ်နှင့်ညီမထွေးအမျှဝေရာ၏ဟူ၍လည်းဆို၏။

relative or stranger, who supports the parents, have the whole. The following is the precedent on which a stranger receives the property in this way:—Danentsia, the wealthy, had much property, the whole of which he gave to his children and trusted to them for support; after a time his daughter-in-law, the wife of his son, from her parsimonious disposition, failed to support him, and he fell into a state of destitution. When the king was journeying through his dominions, he cunningly took a staff and begging pot, and pretending to beg, posted himself at a place where the king could see him; the king enquired of his servants who it was that was begging with the staff and begging pot; they reported to the royal ear that it was Danentsia the wealthy; when the king heard this he returned to the palace, and on his arrival sent for the wealthy man and questioned him, who stated truly what had occurred. The king then sent for his sons and daughters, and on questioning them they also told him the same story; on hearing which he said, "the children are neglectful of their parents, and having taken much property do not support them." Saying thus, he took all the property from the sons and daughters-in-law and supported the wealthy man himself, and at his death the sons and daughters-in-law did not inherit his property. People who have property taken under a pledge to support the donor, and who do not do so, shall not inherit the property they may (by consanguinity) be entitled to; as the king supported (the rich man) and inherited (his property,) so the person who actually supports another shall inherit the property without reference to who he may be.

*72nd. The law of partition when there are two elder, two middle, and two younger daughters, by the same father and mother.*

The law of partition between two elder, two middle, and two younger sisters, by the same father and mother, is this; when parents have six daughters, the two first are called "eldest," the two next are called "middle," and the two last "youngest;" the partition in this case is, let the younger of the two eldest have two shares, and the eldest two and a half; of the middle sisters, let the younger have one share, and the elder one and a half; of the youngest, let the elder have one share, and the youngest one-half share. It has also been laid down, that the two eldest shall have equal shares, the two middle equal, and the two youngest equal.

၅၃ မိဘနှစ်ပါးစိတ်မတူရာတွင် ရသောသားနှင့်။ ၎င်မိဘနှစ်ပါး ဝယ်ကျွန်နှင့်ပေး
စား၍မွေးသောသား။ဝေရာသောတရားတပါး။

ယောက်ျားနှင့်မိမ္မပြေးသွားကြရာတွင်။သားသွီးမွေးပြီးမှ။လင်သေ၍။
နှစ်ပါးစုံဝယ်သောကျွန်ယောက်ျားနှင့်။ မိဘထံရောက်၍။၎င်ကျွန်နှင့်။မိဘ
ပေးစား၍နေရာတွင်။မွေးသောသားနှင့်။အထက်သားဝေရာသောတရားနှစ်
ပါးဟူသည်ကား။ အကြင် ယောက်ျား မိမ္မတို့သည်။ မိဘနှစ်ပါးကို မတိုင်
မကြားပြေးသွား၍သားသွီးမွေး၏။ လင်မယားနှစ်ယောက်ဝယ်သော ကျွန်
ယောက်ျားရှိ၏။ လင်သေရာတွင်။ မိဘထံပြန်ခဲ့၍။ ကျွန်နှင့် မိဘပေးစားရာ
တွင်သားသွီးမွေး၏။၎င်လင်မယားနှစ်ယောက်သေခံ့။ ပြေးသွားသောဥစ္စာ
ရှိးကို။ ပြေးသွားရာမွေးသောသားသွီးအလုံးစားစေ။ ပြေးသွားရာ မိဘနှစ်
ပါးလုပ်ဆောင်ကြီးစည်၍ရသောသက်ရှိ။သက်မဲ့ဥစ္စာကိုနှစ်စုပြု၍။ တစုကို
အဖစုပြေးသွားရာမွေးသည်သားသွီးစားစေ။ အမိအစုတစုမှာ။ နှစ်စုပြု၍။
တစုကိုလည်း။ အထက်သားသွီးတို့စားစေ။ တစုဘိုးဘွား ပေးစားသူကျွန်။
သွီးသားစားစေ။ အဘယ်ကြောင့်နည်းဟူမူကား။ မိဘပေးစားသောသူသွီး
သားဖြစ်ချေသောကြောင့်တည်း။ ။မိဘမပေးစားဘဲ။ကျွန်ကိုအမိလက်
ဆိုစား၍လင်မယားမြောက်နေကြသော်လည်း။ အမိအဖကျွန်ဖြစ်ချေသည်။
အထက်ဥစ္စာရပ်ကိုနောက်ကျွန်တွင်မွေးသောသားသွီးတို့မစားသာချေ။ ချင့်
တို့ကျွန်အရာကလွတ်စေ။သည်တွင်အမွေတည်း။မိဘနှစ်ပါးကျွန်နှင့်ပေးစား
ရာတွင်။မယားမိဘကရသောဥစ္စာရပ်မှာ။မိဘပေးထိမ်းမြား၍ရသောသား
လျှင်။သားမြတ်မည်ချေသည်။ မိဘအာဏာကိုမဆန်။ နေရာတွင်မွေးသော
သားသွီးတို့သာ။ဘိုးဘွားဥစ္စာကိုအကုန်စားစေ။ ဖြိဖြစ်လည်း ၎င်အတိုင်းခံ
ဆပ်စေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၎င်ယောက်ျားမိမ္မပြေးသွားရာတွင်။ မယားသေ၍။ နှစ်ပါးစုံဝယ်သော
ကျွန်မနှင့်။ မိဘထံရောက်ရာတွင် မိဘ ပေးစား၍။ နေသော ကျွန်မတွင် မွေး
သောသားနှင့်။အထက်သားဝေရာသောတရားတပါးဟူသည်ကား။အကြင်
ယောက်ျားမိမ္မတို့သည်။ မိဘနှစ်ပါးကိုမတိုင် မကြားပြေးသွား၍ သားသွီး
မွေး၏။လင်မယားဝယ်သောကျွန်မိမ္မရှိ၏။မယားသေရာတွင်။မိဘထံရောက်
ပြန် ခဲ့၍။ ကျွန်မ နှင့် မိဘ ပေးစား ရာ တွင် သား သွီး မွေး၏။ ၎င်မယား နှစ်
ယောက်သေခံ့။ ပြေးသွား သော အမိ၏ ဥစ္စာရှိးကို။ ပြေးသွားရာတွင် မွေး
သောသားသွီးအလုံးစားစေ။ပြေးသွားရာမိဘနှစ်ပါးကြိစဉ်၍ ရသောသက်
ရှိ။သက်မဲ့ကိုနှစ်စုပြု၍။တစုကိုလည်း အမိစုပြေးသွားရာမွေးသည်သားသွီး
စားစေ။ အဖစုမှာလည်း။နှစ်စုပြု၍။အထက်သားသွီးတစုစားစေ။ တစုကို

*73d. The law of partition between children born to a couple married without the consent of their parents, and children born to a bought slave of the parents given in marriage by them.*

If a man and woman elope together and have children, and they have a slave bought by themselves, and if on the death of the husband the woman returns to her parents and they give her in marriage to the slave, and after having children they both die; let children born during the time of their elopement have all the property the parents took away with them; let all the property they acquired during the same time be divided into three shares, and let the children born then take the father's share; and having divided the mother's share into two, let the children of the first marriage have one and the children of the slave given in marriage by the parents the other. Why is this?—because they are children of parents given in marriage. If the woman, without having been given in marriage by her parents, shall live with the slave as his wife, and eat out of the same dish, he is the slave of the parents of the first children, his children shall have no share of property already acquired, their portion of the inheritance is their release from the condition of slaves. Only when the parents have given their daughter in marriage to the slave, in which case the marriage is contracted with the consent of parents, shall the children be legitimate; those only who are born whilst their father and mother are not living in contempt of parental authority, shall inherit the property which comes by descent from the mother's parents, and if there be debts, let them bear them in the same proportions. Thus the lord hermit, called Menoo, said.

Under the same circumstances a couple run away, the wife dies, and the husband returns to his parents with a female slave, whom he and his wife have bought, and she is given to him in marriage by his parents, the law for the partition of the property between the children of the slave given in marriage, and the children of the first marriage, is this; a man and woman, without informing their parents, elope together, have children, and there is with them a female slave whom they have bought; on the death of his wife the husband returns to his parents with this slave, and they having given her to him in marriage, he has children by her, after which the husband and wife both die; let the whole of the property of the mother who eloped go to the children born during the elopement; let the property, animate and inanimate, acquired by the parents during the same time be divided into two shares; let the children of the first family have one share, the mother's, and let the father's share be divided into two, of which let the children of the first wife have one, and the children of

ဘိုးဘွား ပေးစားသူ ကျွန်မယားသားသမီးတို့စားစေ။ အဘယ်ကြောင့်နည်း ဟူမူကား။မိဘပေးစားသောသားသမီးဖြစ်သောကြောင့်တည်း။ ။မိဘ မပေးစားဘဲကို။အဖလက်ဆုံစားစေ၍။ လင်မယားမြောက်နေသော်လည်း။ မိဘနှစ်ပါးကျွန်ဖြစ်ချေသည်။ အထက်ဥစ္စာရပ်ကို။ နောက်ကျွန်မတွင်။မွေး သည့်သားသမီးတို့မစားသာချေ။ ချင့်ကိုယ်ကျွန်အရာကလွတ်စေ။ သည့်တွင် အမွေတည်း။ ။မိဘနှစ်ပါးကျွန်နှင့်ပေးစားရာတွင်ရသောသားလျှင်။ သားမြတ် မည်ချေသည်။ မိဘအာဏာမဆန်နေရာတွင် မွေးသောသားသမီး တို့သာ။ ဘိုးဘွားဥစ္စာရပ်ကိုအလုံးစားစေ။ မြိဖြစ်လည်း။ရှင်အတိုင်းခံဆပ် စေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၄ ကျွန်ရိုးယောကျ်ားနှင့်။ မိမ္မအလွတ်သူ နေရာတွင်ရသော။ နှစ်ယောက်ဥစ္စာကို ကျွန်သခင်နှင့်။မယားဝေရာသောတရားတပါး။

ကျွန်ရိုးယောကျ်ားနှင့်။ မိမ္မအလွတ်သူ သင့်နေကြရာတွင်။ ရသောနှစ် ယောက်ဥစ္စာကိုကျွန်သခင်နှင့်။ မယား ဝေရာသောတရား တပါးဟူသည် ကား။ ကျွန်ရိုးယောကျ်ားနှင့်။ အလွတ်သူမိမ္မ၊သခင်အသိသင့်နေ၍။ ဥစ္စာရှိ ကြအံ့။ကျွန်သေသော်။အလွတ်သူမိမ္မကပါရင်းကို။အလွတ်သူမိမ္မရစေ။ မိမ္မ ဝတ်စားတန်ဆာကိုလည်း မိမ္မယူစေ။ကျွန်ယောကျ်ားဝတ်စားတန်ဆာမှာ။ သခင်ဥစ္စာရင်းမဟုတ်။ လင်မယားဖြစ်မှရသောဝတ်စား တန်ဆာဖြစ်လျှင်။ ကျွန်သခင်နှစ်စု။ အလွတ်သူမိမ္မတစုယူစေ။ နှစ်ပါးစုံပြု၍ဖြစ်ပွားသောဥစ္စာ မှာ။သုံးစုစု၍။နှစ်စုကျွန်သခင်ရစေ။တစုကိုအလွတ်သူမိမ္မရစေ။ ကျွန်ကသ ခင်ဥစ္စာပါရင်းရှိလျှင်။ သခင်အလုံးယူစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ။ ဤကားယောကျ်ားကျွန်ရိုးဖြစ်ချေခြင်းကြောင့်တည်း။

၁၅ ကျွန်ရိုးမိမ္မနှင့်။အလွတ်ယောကျ်ားနေရာတွင်ရသော။ နှစ်ယောက်ဥစ္စာကိုကျွန် မိမ္မသခင်နှင့်။လင်ဝေရာသောတရားတပါး။

ကျွန်ရိုးမိမ္မနှင့်။အလွတ်သူယောကျ်ားသင့်နေရာတွင်ရသောနှစ်ယောက် ဥစ္စာကို။ကျွန်သခင်နှင့်။လင်ဝေရာသောတရားတပါးဟူသော်ကား။ကျွန်ရိုး မိမ္မနှင့်။အလွတ်သူယောကျ်ား။သခင်အသိနေ၍။ ဥစ္စာရှိကြအံ့။ ကျွန်မသေ သော်။ အလွတ်သူ ယောကျ်ားက ပါရင်းကို။ အလွတ်သူ ယောကျ်ား ရစေ။ ယောကျ်ားဝတ်စားတန်ဆာကိုလည်း။ ယောကျ်ားရစေ။ ကျွန်မိမ္မ ဝတ်စား တန်ဆာမှာ။ သခင်ဥစ္စာရင်းမဟုတ်။ လင်မယားဖြစ်မှရသောဝတ်စားတန် ဆာဖြစ်လျှင်။ကျွန်သခင်နှစ်စု။အလွတ်သူယောကျ်ားတစုယူစေ။ နှစ်ပါးစုံပြု

the slave given in marriage have one. Why is this?—because they are the children of a marriage by consent of parents. Should she not be given in marriage by his parents, but merely raised by the act of the husband to the rank of a wife who eats out of the same dish, she is the slave of the parents of the first family, her children shall have no share of the property acquired before the marriage of their mother. Their portion (of the inheritance) is their release from the condition of slaves; the children borne by the slave when given in marriage only are called excellent; the children only who were born when the couple were not living in contempt of the authority of their parents, shall inherit all the property inherited from the parents, and if there be debts, let them pay them in the same proportion. Thus the hermit, called Menoo, said.

74th. *An hereditary male slave marries a free woman, the law for the partition of the property acquired by both, at the death of the slave, between his master and his wife.*

In case an hereditary slave cohabits with a free woman, the law for the partition of the property acquired by both during such cohabitation, between the slave's master and his wife, is this; if a male hereditary slave shall have cohabited with a free woman, with the knowledge of his master, and acquired property, let the free woman at his death keep all the property originally brought with her, and let her also have her clothes and ornaments; if the man's clothes and ornaments were acquired after they became man and wife, they are not the original property of the master; let him have two shares and the woman one; let the property acquired by the exertions of both be divided into three shares, and let the master have two and the woman one. The property originally brought by the slave is his master's; let him have the whole; and if there be debts, let them be paid in the same proportions; this is because the man was an hereditary slave.

75th. *An hereditary female slave marries a free man, the law for the partition of the property acquired by both, at the death of the woman, between the master and husband.*

An hereditary female slave and a free man cohabiting, the law for the partition of the property they both acquire, between the slave's master and her husband:—An hereditary female slave and a free man cohabit with the knowledge of the master and acquire property; at the death of the woman, let the free man take all the property he originally brought with him, and his clothes and ornaments; if the clothes and ornaments of the woman be not the property of her master, but obtained during their cohabitation, let her master have two shares and the free man one; let the property acquired by both du-

စု၍ဖြစ်သောဥစ္စာမှာ။ သုံးစုစု၍။ နှစ်စုကျွန်သခင်ရစေ။ တစုကိုအလွတ်သူယောကျ်ားရစေ။ ကျွန်မကသခင်ဥစ္စာရင်းပါလျှင်။သခင်အလုံးယူစေ။ တင်မြီရှိလည်းနည်းတူဆပ်စေ။ဤကားမိမ္မကျွန်ရိုးဖြစ်ချေခြင်းကြောင့်တည်း။

၅၄ ကျွန်ရိုးအလွတ်သူနှင့်။ ယောကျ်ားမိမ္မသခင်အသိသင့်နေ၍။ ဥစ္စာရကိုဝေရာ။မဝေရာသောတရားတပါး။

ကျွန်ရိုးနှင့်။အလွတ်သူယောကျ်ားမိမ္မသခင်မိဘမသိပြေးသွား၍နေရာ။ ကျွန်ရိုး ယောကျ်ား မိမ္မသေ၍။ ဥစ္စာတင်မြီရှိရာ၌။ ကျွန်ရိုး ယောကျ်ား မိမ္မသခင်နှင့်။အလွတ်သူမယားလင်တို့ ဝေရာသောတရားတပါးဟူသည်ကား။ ကျွန်ရိုးယောကျ်ား မိမ္မတို့နှင့် အလွတ်သူပြေးသွားရာ။ မြီတင် သော်လည်းကောင်း။ကံအားလျော်စွာဥစ္စာရှိသော်လည်းကောင်း။ ထိုကျွန်ရိုးတို့သေချေအံ့။သခင်နှင့်အလွတ်သူတို့ဝေရာသည်ကား။ ကျွန်ရိုးကိုအလွတ်သူခိုးသည်မည်ချေရကား။ထိုတွင်ရှိသောဥစ္စာရပ်ကို။ကျွန်သခင်အလုံးယူစေ။ တင်မြီရှိလျှင်။အလွတ်သူအလုံးခံစေ။အဘယ်ကြောင့်နည်းဟူမူကား။အလွတ်သူကိုကျွန်ခိုး၍ပြေးသော်လည်း။အလွတ်သူ၏အခိုးဖြစ်ချေသောကြောင့်တည်းဟုမနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၅၅ ကျွန်ရိုးဖြစ်စေ။ ကြေးဝယ်ကျွန်အမျိုးရှိဖြစ်စေ။ ယောကျ်ားမိမ္မတို့နှင့်အလွတ်သူသင့်နေ၍ဥစ္စာရှိ၏။သခင်မရှိ။အလွတ်သူမိဘရှိကြ၍။ ချင့်တို့ဥစ္စာကိုဝေရာသောတရားတပါး။

ကျွန်ရိုးမဟုတ်။ကြေးဝယ်အစုအငန်းရှိသူမိမ္မယောကျ်ားနှင့်။အလွတ်သူယောကျ်ားမိမ္မတို့သခင် အသိနေ၍။ကျွန်သခင်နှင့်။အလွတ်သူမယားလင်တို့။ဥစ္စာမြီရပ်ကို ဝေရာသောတရားတပါးဟူသည်ကား။ ကျွန်ကပါရင်းကိုသခင်အလုံးယူစေ။အလွတ်သူကပါရင်းကို။အလွတ်သူအလုံးယူစေ။ တင်မြီရှိလည်းနည်းတူဆပ်ကြစေ။နှစ်ပါးစုံတွင်ကောင်းမွေဥစ္စာ။ မကောင်းမြီရှိလျှင်သုံးစုစု၍။နှစ်စုကိုအလွတ်သူရစေ။မြီဖြစ်လျှင်လည်းနည်းတူဆပ်စေ။ ကြေးဝယ်သခင်တို့က။ကောင်းမွေဥစ္စာမှာတစု။မြီမှာလည်းတစုခံဆပ်စေ။အဘယ်ကြောင့်နည်းဟူမူကား။ အစု အငန်း အမျိုးရှိ။ ကြေးဝယ်ကျွန်မှာသာဖြစ်ချေသောကြောင့်တည်းဟု။ဓမ္မသတ်ဆို၏။ ။ငင်တို့အလျောက်။ခိုးသွားပြေးရာမှာ။ကျွန်သေအံ့။ဥစ္စာကြွေးမြီတင်ရှိလည်း။ ကျွန်ကိုအလွတ်သူခိုးရာဝင်ချေသည်။ ကျွန်သခင်က။ကောင်းမွေဥစ္စာကိုအလုံးယူစေ။ မြီမှာအလွတ်သူကအလုံးဆပ်စေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

ring the same period be divided into three shares, and let the master have two and the free man one. If the original property brought by the slave was her master's, let him have it all, and if there be debts, let them pay in the same proportion; this is because the female is an hereditary slave.

76th. *An hereditary male or female slave marries a free person without the knowledge of the master, the law for the partition, or not, of the property.*

An hereditary slave and a free person having eloped together without the knowledge of the parents or master, and acquired property, the hereditary slave, male or female, dies, leaving the property and debts, the law of partition between the master and free husband or wife, is this; an hereditary slave, male or female, runs off with a free person, should they get in debt, or by good fortune acquire property, and the slave dies, the master and free woman divide thus:—It is laid down that the free person shall be said to have stolen the slave; under these circumstances let the master take all the property they may have with them, and if there are debts, let the free person bear them all. Why is this?—because, though the slave induces the free person to run away, the free person is still the thief. Thus the lord hermit, called Menoo, said.

77th. A *male or female slave, whether born in slavery or bought, marries a free person and leaves property, the master being dead, and the parents of the free party alive, the law for the partition of the property.*

A slave, male or female, not hereditary, but bought of a family, that is bound to perform some special act of hereditary service to the state, (or rather the king,) cohabits with a free person with the knowledge of the master, the law of partition of the property and debts between the master and the husband or wife, is this; let the master take all the property originally possessed by the slave, let the free person have all his or her own original property, and if there be debts, let them pay them in the same proportions. Of the property acquired and debts incurred by both, let the free person have two shares and the master one. Why is this?—because the slave is a person of a free family which owes one description of service to the state, and is only bought, (not hereditary;) this is laid down in the damathat. In the same way, if they run away without the knowledge of the master, and the slave shall die, leaving property and debts, the free person is the thief of the slave; let the master have all the property, and let the free person pay all the debts. Thus the sage recluse, called Menoo, said.

ကျွန်ရိုးဖြစ်စေ။ ကြေးဝယ်ကျွန်အမျိုးရှိဖြစ်စေ။ ယောကျ်ားမိမ္မသို့နှင့်။ အလွတ်သူယောကျ်ားမိမ္မတို့သင့်နေ၍ဥစ္စာရှိ၏။ သခင်မရှိ။ အလွတ်သူမိဘမရှိကြ၍။ကျွန်သခင်ပေါက်ဖော်အမျိုး။အလွတ်သူပေါက်ဖော်အမျိုးတို့။ ဝေရာသောတရားတပါးဟူသည်ကား။ ကျွန်ရိုးဖြစ်စေ။ ကြေးဝယ်ကျွန် ဖြစ်စေ။ ယောကျ်ားမိမ္မတို့နှင့်။အလွတ်သူယောကျ်ားမိမ္မသင့်နေ၍။ ဥစ္စာကြွေးမြီတင်ရှိ၍။နှစ်ဦးသားသေ။ အလွတ်သူမိဘသားသွီးလည်းမရှိ။ ကျွန်ကလည်းသခင်သားသွီးမရှိ။ သခင်ပေါက်ဖော်အမျိုး။ အလွတ်သူ ပေါက်ဖော် အမျိုးတို့သည်။ ထိုနှစ်ဦးသားတွင်ရှိသောဥစ္စာရပ်ကို။ သုံးစုစု၍။ အလွတ်သူပေါက်ဖော်နှစ်စု။ ကျွန်သခင်ပေါက်ဖော်တစုခံစားစေ။ မြီရှိလည်းနည်းတူဆပ်စေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

၁၈ အမွေခွဲဝေပြီးမှ။မိဘသည်တယောက်မှာနေ။တယောက်မှာသေ၍။ဝေရာသောတရားတပါး။

အမွေခွဲဝေပြီးမှ။သားသွီးတယောက်မှာအတူနေ၍။ တယောက်မှာသေအံ့။ ထိုတွင်သေသူမိဘဥစ္စာတို့ကို မွေးကျွေးရင်းသားသွီးတို့ ဝေရာသောတရားတပါးဟူသော်ကား။အကြင်မိဘတို့သည်။တယောက်ယောက်သောသွီးသား၌နေ၏။ နောက်တဦးမှာပြောင်းလွဲနေ၏။နာလျှင်ကုမ၏။သေလျှင်သင်းဂြိုဟ်၏။ သေသူမိဘဥစ္စာရပ်ကိုလေးစုပြု၍။ သင်းဂြိုဟ်သူသုံးစုစားစေ။ ငါသာသင်းဂြိုဟ်ရသည်ဟု။အလုံးမယူသာချေ။ ပေါက်ဖော်သင်းဂြိုဟ်သူရစုတွင်။တစုကျွန်မှာမွေးရင်းသူရစေ။တတန်မှာလည်း။သားသွီးတို့ကိုခင်မင်၍ခွဲဝေပေးသည်ကာလ။သားစုကဲ့သို့သူဒိုစားထားသော ဝတ္ထုနှင့် တကွသေလျှင်။ထိုဥစ္စာရပ်ကိုသားသွီးမြေးတို့။ တရားစုမှာရင်းအတိုင်းစားစေ။ မြီရှိလည်းနည်းတူဆပ်စေ။ တဦးသားသွီးထံနေ၍။ တဦးသားသွီးထံသေလျှင်။ နှစ်ဦးသားမျှဝေစားစေ။ တင်မြီရှိလည်း နည်းတူဆပ်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ ကြက်မသည်သားငယ်အများရှိလျှက်။ နီးသောသားငယ်တို့သာ။အစာကိုစားမှီသကဲ့သို့တည်း။

၁၉ ယောက္ခမဥစ္စာကို။ချွေးမသမက်တို့ပြုစု၍ဖြစ်ပွားသည်ဥစ္စာကိုဝေရာသောတရားတပါး။

ယောက္ခမဥစ္စာနှင့်။ချွေးမသမက်ပြုစုရာတွင်ရသောဥစ္စာကိုဝေရာသောတရားတပါးဟူသည်ကား။ အကြင်ချွေးမသမက်တို့သည်။ ယောက္ခမဥစ္စာအရင်းကိုယူ၍ပြုစု၏။အရင်းကိုအရင်းတိုင်းစုစေ။စရိတ်မှစ၍။တိုးပွားသည်

Whether it be a hereditary slave one or bought of a free family, male or female, who has cohabited with the free person, and (dies) leaving property, if the master be dead, and the free born person has no parents living, the law for the partition of the property left between the relations of the master and those of the free person, is this; if a male or female slave, hereditary or purchased, shall have cohabited with a free person, and they both die leaving property and debts, and the free person has no parents or children, and the master the same, let all the property possessed by the deceased be divided into three shares, and let the relations of the free person have two, and the relations of the master one, and let them pay the debts in the same proportions. Thus Menoo, the lord hermit, said.

78th. *When parents, after having divided their property amongst their children, have gone to live with one child, but shall die with another, the law for the partition of such property as the parents may still have remaining at their decease.*

If parents who, after the division of their property, have lived with one child shall die with another, the law for the partition of the property of the deceased parents between those persons who supported them, is this; if the parents live with one child, and afterwards change and go to another, and this last shall attend to them there during their sickness, and at their death bury them, let the property of the deceased be divided into four shares, and let the child who buried them have three; he shall not on the plea of having buried them take the whole, let the remaining fourth share go to the child with whom they first lived. In another case; when the parents from affection have divided their property amongst the children, and kept one child's share to themselves, let their children and grandchildren have their lawful share of this as before laid down, and of the debts let them pay in proportion. If they have lived with one child and shall die with another, let these two only share equally, and pay the debts in the same proportions. Why is this?—because, though a hen may have many chickens, only those nearest her get the food (she drops.)

79th. *The son or daughter-in-law having taken charge of, economized, and added to, the property of their father-in-law, the law of inheritance as regards the increase.*

The law for the partition of property belonging to the father-in-law employed in trade by the son-in-law, is this; if a son or daughter-in-law have received their capital from their father and mother-in-law and increased it, let them restore the original property, and all

ဥစ္စာကို။ယောက္ခမတဝက်။သမက်ချွေးမတဝက်ယူစားစေ။သွီးသားတို့။အမိအဖဥစ္စာဖြစ်လျှက်ပြုစုသည်ကို။သွီးသားအားအတိုးစားရာရောက်သည်။ဆိုခွင့်ရှိသည်။မလောက်၍သုံးခြင်းငှါချေးသည်မဟုတ်။အမြတ်ပြုစုချင်သော့ကြောင့်ဝေစားရာ၏။အမြတ်မရှိလျှင်အရင်းတိုင်းစုစေဟု။မနုမည်သော ရှင်ရသော့ ဆိုတော်မူ၏။

၈၀ သမက်ချွေးမတို့ဥစ္စာနှင့်။ ယောက္ခမတို့ ပြုစု၍ဖြစ်ပွားသည် ဥစ္စာကို ဝေရာသော တရားတပါး။

သမက်ချွေးမတို့ဥစ္စာနှင့်။ယောက္ခမပြုစုရာတွင် ရသောဥစ္စာကို ဝေခြင်းတရားတပါးဟူသည်ကား။အကြင်ယောက္ခမတို့သည်။ သမက်ချွေးမတို့ဥစ္စာကိုယူ၍။ရင်းနှီးပွားများအံ့။ အရင်းကိုချွေးမသမက်တို့သို့စုစေ။ စရိတ်အပွားမှာ။ချွေးမသမက်တို့တစု။ ယောက္ခမမှာနှစ်စုစားစေ။ အဘယ်ကြောင့်နည်း ဟူမူကား။ သွီးသားတို့ကို မိဘပိုင်ချေသော့ ကြောင့် တည်း။ အကြင်ယောက္ခမတို့သည်ချေး၍ သုံးစားသည်မှာ။ ကုန်လျှင်ကုန်ပိုင်စေ။ အဘယ်ကြောင့်နည်းဟူမူကား။ မိဘဆရာတို့ဝယ်ပူဇော်ခြင်းအဝင်ကဲ့သို့ဖြစ်စေရာသည်။ ထိုဥစ္စာမှတပါး။ မိဘတို့မကုံလုံ၍သားသွီးတို့ကိုရောင်း ထားသည်။ ရောင်းထား ပိုင်သည်။ ရောင်းထားသောသားသွီးပြင်။အမွေခံသားသွီးမြေးမရှိလျှင်ဆုံးစေ။ ရောင်းထားသောသားသွီးပြင်။အမွေခံသားသွီးမြေးရှိပေမူကား။ ရောင်းထားခံနေရသောဥစ္စာကို ခွဲဝေဆပ်စေဟု။ရှင်ရသော့ဆိုတော်မူ၏။

၈၁ လင်မယားကွာရာ။သားသွီးတို့မိဘနှင့်မနေသေကြရာတွင် ဝေစားခြင်းတရား တပါး။

လင်မယားကွာရာတွင်။သားသွီးရှိသည်။အမိအဖတို့နှင့် အတူမနေ။ထိုသားသွီး၌ဥစ္စာရှိလျှက်။ ထိုသားသွီးတွင်။ သားသွီးအမွေခံမရှိသေအံ့။ အမိအဖတို့ဝေရာသောတရားတပါးဟူသည်ကား။ အကြင်လင်မယားတို့သည်။သားသွီးမွေးပြီးမှ။ ကွာကြ၍သားသွီးကွဲပြားနေရာ။ ထိုသားသွီးတို့တွင်။အမွေခံမရှိသေအံ့။ ထိုမောင်နှစ်မနှစ်ယောက်ဥစ္စာတလုံးတည်းဖြစ်လျှင်။သားအစုအဖ။သွီးအစုအမိ။သုံးစုစု၍။နှစ်စုကိုသားအဖရစေ။ တစုကိုသွီးအမိရစေ။သွီးမရှိသားဖြစ်လျှင်။အဖအလုံးရစေ။ သားမရှိသွီးဖြစ်လျှင်။အမိအလုံးစားစေ။အဘယ်ကြောင့်နည်းဟူမူကား။ဥဖြိုးဖို။ဥဖြိုးမတို့၌သက်သေသည်။သွီးကိုအမိ။သားကိုအဖရစေသော့ကြောင့်တည်း။ သွီးကိုအမိ။သားကိုအဖ

expenses and profits let them share alike. In this way, it might be said that parents take interest from their children, but it is not money borrowed for necessary expenses, and as the children had a profit on it, the parents have a right to share. If there be no profit, let them have only the original. Thus the recluse, called Menoo, said.

80*th. The father-in-law having traded on the capital of the son or daughter-in-law, the law regarding the partition of the profits.*

The law for the partition of the profits when the father or mother-in-law trade on the capital of their son and daughter-in-law, is this; if a father and mother-in-law having taken the property of the son and daughter-in-law shall trade with and increase it, let the son or daughter-in-law have back the money lent, and of the expenses and profits, let them have one share and the father and mother-in-law two. Why is this?—because the father and mother are the owners of the children. If the father and mother-in-law borrow the money and expend the whole, they shall have a right to do so. Why is this?—because it comes as it were under the head of offerings of respect to parents and teachers. Parents, when in want, have a right to sell their children, and if there be no other children or grandchildren to inherit, let them lose, (that is, remain in slavery;) if there be other heirs, let their portion be the amount for which the children were sold amongst themselves, and having paid it redeem them. Thus the lord hermit said.

81*st. A husband and wife living separate from each other, and also from their children, the law of partition on the death of their parents.*

A husband and wife have property in the hands of their children, from whom they are living apart and separate from each other, the law for the partition of this property on the death of the children, with whom it is, between the father and mother: A man and wife after having children separate, their children also live apart from them, if these die without heirs, the law is this; if it be son and daughter, and their property be in common, let the father have the son's and the mother the daughter's share; that is, having divided the property into three shares, let the father have two and the mother one. If there be only one son, let the father have all, and if only one daughter, let the mother have all. Why is this?—the case of the male and female wild pigeon* is the precedent; let the father have the son, and the mother the daughter; but if the father have the son and the mo-

* Alluding to the following tale; a pair of wild pigeons had built their nest in a forest, during the absence of the female the jungle having caught fire, the nest was burnt. The male carried off the male young one, but was unable to save the female. The mother applied to Menoo, who sagely decreed, "He has taken his son; do you take your daughter."

ပိုင်စေဟူရာ၌။သွီးနှင့်သားဥစ္စာ၊မိဘအညီရကောင်းလျက်။သားနှစ်စု။သွီးတစုစားရသနည်းဟူမူကား။မောင်နှစ်မတွင်မောင်အကြီး။ နှစ်မအငယ်ဖြစ်ကဆိုသတည်း။နှစ်မအကြီးမောင်အငယ်ဖြစ်က။ထိုသူတို့မိဘကွာသူတို့သဉ်။အမျှဝေစားစေဟုဓမ္မသတ်ရှိ၏။

ထိုသို့အတန်တန်အကွဲကွဲအပြားပြားများသမျှတွင်။အသီးအသီးဝေစားကြပြီ။ တမိ တဖတည်းသားသွီးတို့ အညီအမျှ စုဆကြီးငယ်ကောက်ယူချင်လျှင်။အမျိုးကိုစောင့်ရမည်ကိုဆိုသည်။ဥပမာဆို တုံအံ့။ကြက်မသဉ်။ အစာကိုရှာရ၌။ကြက်သငယ်တစုအညီစားကြသကဲ့သို့တည်း။မိဘစကားကိုအာဏာဆန်၍ကျင့်သောသား။မိဘကိုဆဲရေးသတ်ပုတ်တတ်သောသားသွီးတို့မှာ။ မိဘအမွေကိုမခံမစားစေနှင့်။ ခွဲဝေ၍မိဘပေးသောဥစ္စာရှိလည်း။မိဘကိုအစည်ယူစေ။မိဘမသိရဥစ္စာရပ်ကိုအများအနည်းမဆို။ ထိုသားသွီးယူလျှင်။ ခိုးဒါန်သင့်စေဟူ၏။ ခိုးဒါန်သင့်စေ ဟူရာ၌။ ဥစ္စာကိုအတက် ပေးစေမဆိုသာ။ဥစ္စာရင်းအတိုင်းမိဘပေါက်ဖော်တို့ယူစေ။ မင်းဒါန်ကိုသာခံစေဟူလိုသည်။ ။တနည်းလည်း။အမျိုးဘောင်မှနှင်ထုတ်၍။တရပ်တပါးသို့ပို့ထားစေဟူ၏။ ။မိဘတို့သေလျှင်။သင်းဂြိုဟ်၍ပြီးသည်နောက်။ခုနှစ်ရက်တလဖြစ်စေ။ မိဘအမွေကိုဝေရာ၏။ ထိုဝေစည်အနီးအဝေးရှိသောသွီးသားရစုကိုစားရာ စုတိုင်းဝေစေ။ အကြောင်းကိုမကြား၍ နောက်မှ ရောက်လာခြင်းကြောင့်။တောင်းလျှင်အစုအတိုင်းရစေ။အကြောင်းကိုသိစေ၍ခေါ်လျက်။ရောက်ထောက်သောခရီးအနီးအဝေးအတိုင်းမရောက်ဖြစ်မဉ်။ဂန္ထာရလည်းမရှိဖြစ်မည်။ ထိုအမွေကိုစားထိုက်သောသားခြောက်ယောက်တွင်။ဩရသ။ကိတ္တိမ။ ဟေတ္တိမစဟုဆိုအပ်သော။ သားသုံးယောက်ဖြစ်သော်လည်း။ ရောက်ထောက် သောရက် လနှစ်။ နောက်ဆယ်နှစ်ကြာမှ တောင်းလျှင်။ ထိုအမွေစုကိုမစားစေနှင့်။ ဆယ်နှစ်မတိုင်မီအမွေစားသောအခံ့။ ၎င်တို့မယားသားသွီးတို့တောင်းလျှင်။အစုစားစေ။တင်မြီရှိလည်းနဉ်းတူဆပ်စေ။ ဤအရာကိုနှစ်သက်ရာရောက်မည်ကို ပညာရှိတရားသူကြီးခွဲဝေသင့်သည်။

ဤကားအမွေခမ်အကျယ်အများကိုစုရာတရားတည်း။

ထိုမှဤမှအမွေကိုခံရာစားရာ။မခံရာမစားရာ။ဆိုသောအခမ်အစုတွင်။မယားလင်တို့ အကြောင်းမှာ။ အခြားအခမ်ရောက်မှ။ ပေါင်းစည်း၍။ ဓမ္မသတ်အထွက်ကိုဆိုရမည်။

ther the daughter, they should have the property equally; then why has the son two and the daughter only one share?—only when the brother is the elder and sister the younger is it thus; when the sister is the elder, let the parents, the separated couple, share alike. Thus is the law.

Thus I have again and again in all the divers, various, and complicated cases of relationship given the law for the partition of property. If children of the same parents wish to have an equal share of the inheritance, they must have respect for their family. I will give an instance; when a hen brings food to her chickens, they all have an equal share; children who do not obey their parents, who abuse and strike them, shall have no share in their inheritance, and if they have had property portioned off for them by the parents, let them take back the whole. If they have taken property without the knowledge of their parents, much or little, they shall be liable to be punished as thieves; it is not said they shall make additional restitution as in common theft; let the parents merely take back the amount stolen, and let the children suffer only the criminal punishment. Another mode is to banish them from the district inhabited by their relations. After the death of parents, the property may be divided after seven days, or a month; when divided, let the children have their lawful share; if any were not present at the time, but come afterwards and demand their share, let them have it. If the death has been intimated to them, and they have been warned to attend, and though none of the five difficulties* are in their way, they fail to appear within a reasonable time proportionate to the distance of their residence, they shall forfeit their share. If ten years elapse, before they claim their portion, any of the six children entitled to inherit, even if it be the au-ra-tha,† the kiek-tee-ma, or the hayt-tee-ma, shall lose it. If within ten years, one entitled to inherit shall die, and his wife or children shall demand his share, let them have it, and if there be debts, let them bear them in an equal proportion; but this is a matter in which the judge must use his discretion, whether to make the partition or not.

This is the collection of the laws on the extensive subject of inheritance.

Besides this, there is the chapter regarding those who are entitled to inherit; and the matters relating to husband and wife, shall be collected and laid down in another chapter.

* 1, Robbers; 2, sandy deserts; 3, want of water; 4, Beeloos; 5, waut of food.

† The meaning of these three terms is explained in the text a little further on.

အမွှေစားသင့်သောသား။ မစားသင့်သောသား။ တကျိတ်နှစ်ယောက်ရှိသည်။ တကျိတ်နှစ်ယောက် သောသားတို့တွင်၊ အမွှေခံစားသင့်သောသား ခြောက်ယောက်တည်း။ ခြောက်ယောက်ဟူသည်ကား။

၁။ မိဘနှစ်ပါးပေးထိမ်းမြား၍ရသော သြောရသမှစ၍။ ယောကျ်ားမိမ္မကြီးငယ်။ ဤလည်းတပါး။

၂။ အခြားသူတို့၏သားသွီးကိုအမွှေခံသားသွီးပြုမည်။ သူသိသူထင်နှင့်ယူ၍မွေးသောအကျော်အစောဖြစ်သောကိတ္တိမဟုဆိုရသောမိမ္မယောကျ်ားတပါး။

၃။ မယားကြီး။ မယားငယ်ရှိလျက်။ လက်ဆိုမစား။ အထင် အရှားနေသောမိမ္မသည်။ အပြောင်မည်၏။ ထိုအပြောင် တွင်မွေးသောသားသွီးသည်။ ဟေတ္တိမမည်၏။ မယားကြီးလက်အောက်ဖြစ်ချေသော့ကြောင့်။ ဟေတ္တိမဆိုရသောယောကျ်ားမိမ္မတပါး။

၄။ လင်ပါကျွန်မ။ မယားပါကျွန်မ။ နှစ်ပါးစုံဝယ်သောကျွန်မတွင်မွေးသောသားသွီးတို့သည်ကျွန်ဖြစ်ချေ၏။ ခေတ္တဇဟုဆိုသော မိမ္မယောကျ်ားတပါး။ ဤကားကျွန်ရိုးကိုမဆို ယူရမည်။

၅။ မယားကပါလင်ကြီးသား။ လင်ကပါ မယားကြီးသားကို။ ဒွေးပုဗ္ဗါကာရဦ္မဖြစ်၍ပါသောသားနှစ်ယောက်။ သားယောကျ်ား မိမ္မလည်းတပါး။

၆။ မိဘမသိမရှိမပေါ်။ ပေါက်ဖော်အဆွေသားချင်းမရှိ။ မသိမပေါ်ဖြစ်စေ။ မိဘအသိအရှိပေါက်ဖော်။ ဆွေမျိုးညာတိ။ အသိအရှိဖြစ်စေ။ သားပြုမည်ဟု။ အမှတ်မဲ့ကောက်ယူထိန်းသိမ်းမွေးစားသော။ ဗိဋ္ဌကာမည်သောသားဟုဆိုရသော။ ယောကျ်ားမိမ္မလည်းတပါး။

ဤခြောက်ယောက်သောသူတို့သည်။ အမွှေကိုစားသင့်၏ဟုရှင်ရသော့ဆိုတော်မူ၏။

၁။ အမွှေမစားသင့်သောသား ခြောက်ယောက်ဟူသည်ကား။ မိဘနှစ်ပါးသားသွီး ရင်းမှန်လျက် သူတပါးသို့။ သားသွီးပြုပါလေ ပေးခြင်းသည်။ ပရဒိန္န။ ထိုသားသွီးလည်းတပါး။

၂။ အကြွင်လင်မယားတို့သည်။ သူတပါးသားသွီးကို ဥစ္စာနှင့် ဝယ်၍။ သားသွီးပြုသော။ သဟောထမည်သောမိမ္မယောကျ်ားလည်းတပါး။

၃။ အကြွင်လင်မယားတို့သည်ကွာ၍။ မယားသည်လင်သစ်နေစားလေ၏။ ထိုသို့နေရာတွင်။ သန္ဓေရပြီးမှ။ လင်ဟောင်းသို့ပြန်၍နေလေမှ မွေးသောလင်သစ်ကပါသောသန္ဓေသား။ ပုဏ္ဏာဘူဂ္ဂတိမည်သောယောကျ်ားမိမ္မတပါး။

Regarding children who are entitled to inherit, and those who are not.

There are twelve kinds of children, and of these, six are entitled to inherit.

1st. All children, male and female, old and young, born of a couple given in marriage by their parents, commencing with the au-ra-tha, (son and heir.)

2nd. The children of another person, adopted publicly with a promise that they shall inherit, which is a matter of public notoriety, these are called kiek-tee-ma.

3rd. When there is a superior and inferior wife, a woman who is publicly cohabited with, but who does not eat out of the same dish, is called a-pyoung; the children of this concubine are called hayt-tee-ma, because they are " inferior " to the children of the head wives.

4th. The children by a slave who was in the possession of the husband or of the wife, at the time of marriage, or a slave bought by the couple; these children are slave, and a male and female are called khayt-ta-za.

5th. Children, male or female, of a wife by a former husband, or of a husband by a former wife; these are called dway-pop-pa-ka-ra.

6th. Children, male or female, who have no parents, or whose parents or relations are not known, or whose parents or relations are known, who have been casually taken charge of and brought up, are called teek-tee-ka.

These six are entitled to inherit.

The six not entitled to inherit, are

1st. Legitimate children of their parents who have been given away, at the request of some other person, to be adopted by them, and called pa-ra-dien-na.

2nd. Children, male or female, bought by a husband and wife, and adopted by them; tha-hay-hta.

3rd. A child, male or female, born of a woman who, having separated from her husband and taken another, returns to her first husband pregnant, and presents him with a child, begotten by her second husband, this is called pong-na-nog-ga-tee.

၄။ အကြင်ယောက်ျားမိမ္မတို့သည်။ လျှင်မြူးကြ၍ အလိုတူကာမပေး၍ရ ရာတွင်။ အထင်အရှားမနေမွေးသောကိဋ္ဌိသာမည်သောမိမ္မယောက်ျားလည်း တပါး။

၅။ မိဘနှစ်ပါးထိမ်းမြားသည်ဖြစ်စေ။ အောင်ဆိုနေကြသည်ဖြစ်စေ။ အလိုတူ၍ရသောသားသမီးဖြစ်စေ။ ထိုသားသမီးတို့သည်။ မိဘနှစ်ပါး၏အဆုံးအမကိုမခံအာဏာကိုဆန့်၍ရုံသူကဲ့သို့ကျင့်သောသားသမီးတို့သည်။ ခွေးနှင့်တူသော့ကြောင့်။ သမာနုတ္တာမည်သောမိမ္မယောက်ျားလည်းတပါး။

၆။ အကြင်သူတို့သည်။ ငတ်မွတ်ရှားပါးသောသူကို။ ကျွေးမွေး၍သားသမီးဟုခေါ်ဝေါ်သော။ ဆာတတ္တအရတ္တသာမည်သောမိမ္မယောက်ျားလည်း တပါး။ ဤခြောက်ယောက်သောသားသမီး တို့သည်။ အမွေကိုမခံမစားရရာ ဟူ၍။ ရှင်ရသေ့ ဆိုတော်မူ၏။

ထိုသို့ဆိုရာတွင်။ သားအပြားတကျိတ်ခြောက်ပါး အထူးမယူသာပြီ။ သားသမီးအမည်ကိုသိစေလို၍ဆိုသောစကားစည်ကား။

၁။ မိမ္မငယ်မိဘ။ ယောက်ျားငယ်မိဘ။ စိတ်တူထိမ်းမြား၍ရသောသားကား။ သြြာရသတည်း။

၂။ နှစ်ပါးမိဘထိမ်းမြားသောလင်ကို။ မိမ္မငယ်မနှစ်သက်၍။ သူတထူးနှင့်ဆက်ဆန့်၍ရသောသားကား။ ခေတ္တတည်း။

၃။ မထိမ်းမြားဘဲရသောသားကား။ ပိဝါသုချိန်မည်၏။

၄။ သူငယ်တို့ချင်းကျွမ်းဝင်ကြ၍ရသောသားကား။ ပရသုချိန်မည်၏။

၅။ လင်ရ၍။ ဆယ်လမရောက်ခင်ရသောသားကား။ မုဠှနလမည်၏။

၆။ အမျိုးတို့နှင့်လိုက်၍အဝေးမှာမွေးမြင်သောသားကား။ အမတ္တဟတ္တ မည်၏။

၇။ လင်မရှိဘဲမွေးသောသားကား။ ကာနိယမည်၏။

၈။ လင်တည်းမနေဘဲကိုယ်ဝန်ရှိသောသားကား။ ဟတ္တမည်၏။

၉။ မိမ္မကိုယ်ဝန်ဆောင်ကိုဝယ်၍ရသောသားကား။ ဂိမှိဝတ်မည်၏။

၁၀။ လင်နှင့်တတန့်ပြန့်၍ရသောသားကား။ ပိကယမည်၏။

၁၁။ အမှုမကောင်း၍။ အမိအဖနှင့်လိုက်ရာမှာရသောသားကား။ ယဠှန မည်၏။

၁၂။ အဖကားပုဏ္ဏား။ အမိကားပုဏ္ဏားမ မဟုတ်ဘဲ ရသောသားကား။ ဖသံမည်၏။

ဤတဆယ်နှစ်ပါးသောသားတို့တွင်။ သြြာရသသားလျှင်အမိအဖအမွေ ကိုအစိုးရသတည်း။ ထိုမှကြွင်းသောတဆယ်တပါးသောသားတို့ကား။ အဖ

4th. A child, male or female, begotten by a man and woman in pleasure, by mutual consent, but who shall not live openly together; called kee-lee.

5th. Children of a pair, either given in marriage by their parents, or who have come together by means of a go-between, or by their own mutual consent, who will not attend to the advice of their parents, but rebel against their authority, and conduct themselves as enemies; called tha-ma-nok-ta, because they are like dogs.

6th. A child, male or female, who has been taken when it was starving, and fed and brought up and addressed as "child" by the persons who adopted it; called tsha-bat-ta, or ba-ra-ta.

These six children are not entitled to inherit. Thus the lord hermit said.

Beside these, sixteen separate kinds of children shall not be reckoned, but that there different names or denominations may be known, I will repeat the list.—

1st. A child born to young parents given in marriage by their parents; called au-ra-tha.

2nd. A child born to a young woman, not approving of the husband chosen by her parents, begotten by another man; ket-ta.

3rd. A child begotten by a pair not given in marriage by their parents; we-ze-wa-thoo-khyien.

4th. A child begotten by a pair who have formed a mutual connection, but without marriage; pa-ra thoo-khyien.

5th. A child born within ten months after the marriage of its parents; mo-ta-na-la.

6th. A child born by a woman turned off by her parents or relations, whilst she is away from them; a-ma-ta-ha-ta.

7th. A child born by an unmarried woman; ka-ne-ya.

8th. A child born by a woman who has had no connection with a man; hat-ta.

9th. A child born by a woman who was bought pregnant; kee-ree-wot.

10th. A child born by a woman taken back by a husband when he has once turned her off; wee-ka-ya.

11th. The child of a married woman turned off by her parents for her bad habits; ya-za-na.

12th. The child of a Bramin by any other woman; pa-tha.

Of these twelve, the auratha only has a perfect right to the property of its parents. The other eleven, if it was the intention of one of

မသိ။အမိမှန်းထားသော်လည်းမရရာ။ အမိမသိ။အဖမှန်းထားသော်လည်း မရရာ။လက်ရောက်ဖြစ်လျှင်ရစေ။ လက်ရောက်မဟုတ်ကမရရာ။ ဆိုခြင်း၌ ပေးမည်ဆို၍မရသည်ကိုအမိဆိုသူတောင်းသော်လည်းမရရာ။ လက်ရောက် မှရစေဆိုသတည်း။ ။ဤကားဓမ္မသတ်အထွက်တကျိတ်နှစ်ပါးသား တည်း။

ဗိဋကပ်ထွက်သားလေးပါးအမည်ကိုဆိုပေတုံအံ့။

၁။ အထင်အရှားဖြစ်သောသားသမီးကား။ပုတ္တတည်း။

၂။ တတတ်ပညာကိုဆည်းကပ်သောတပည့်ကား။ အန္တေဝါသိကသား တည်း။

၃။ အကြင်အရပ်၌ကျင်လည်၍မယားမှတ်သဖြင့်။ ရသောသားကား။ မုဋ္ဌဇတည်း။

၄။ သူပြစ်၍။ သားသမီးငယ်ကို ကောက်၍ မွေးသောသားကား။ ဒိန္နက တည်း။

ဤကားဓမ္မသတ်နှင့်။ဗိဋကပ်ကွဲသည်ကိုဆိုခြင်းအကြောင်းတည်း။

ဤသို့ဆိုရာသောသားအပြားအခေါ်တွင်။ အစည်နှစ်ဝကွဲပြားသည်ကို လည်း။ပညာရှိတို့သိရာ၏။ မိဘတို့အမွေကို မစားသင့်မှာသည်တွင်။ သား ကောင်းမရှိက။ သားဆိုးပင် စားရ၏ဟူသည်ကား။ အမိအဖသွားလာ၍ကျ် တင်ရသောသားပင်ဖြစ်သော်လည်း။စားထိုက်သောသားမြတ်။သားကောင်း တို့မရှိလျှင်။ အသီးအသီးခွဲဝေပေးရာသောအကြောင်းကို။ အထက်အမွေခံ အရပ်ရပ်ဆိုခဲ့ပြီးသည်အတိုင်း။အသီးအသီးတရားနှင့်အညီခံဝေပေးလွှတ် စေရမည်။

အကြင်သားသမီးတို့တွင်။သင်းသီးဥစ္စာရပ်။တဆယ်နှစ်ပါးအပြားရှိသည် ကို။အစောင်စောင်မှထုတ်၍တလုံးတည်းဆိုပေတုံအံ့။

၁။ အကြင်သားသမီးကို။ပုခက်တင်သောခါ။ပေးဖွဲ့သောဥစ္စာရပ်တပါး။

၂။ ခေါင်းရိတ်သောခါ။ပေးဖွဲ့သောဥစ္စာရပ်တပါး။

၃။ ထိမ်းမြားသောခါ။ပေးဖွဲ့သောဥစ္စာရပ်တပါး။

၄။ နားထွင်းသောခါ။ပေးဖွဲ့သောဥစ္စာရပ်တပါး။

၅။ နာဖျားသောခါ။ပေးဖွဲ့သောဥစ္စာရပ်တပါး။

၆။ ရှင်ပြုသောခါ။ပေးဖွဲ့သောဥစ္စာရပ်တပါး။

၇။ ခြေချင်းနားတောင်းစည်းပေါင်းလက်ကောက်အစရှိသည်တို့ကိုဝတ် ဆင်ပေးသောဥစ္စာရပ်လည်းတပါး။

၈။ မိဘမပေးဘဲသိမ်းယူသီးခြားနေရာ။ ပါသောဥစ္စာရပ်လည်းတပါး။

their parents, without the knowledge of the other, that they should have a share, they shall not have it; let them keep what has come into their possession; but they shall not be put in possession of anything they have not already obtained, though they demand it from the surviving parent on the ground of the promise of the other; these are the twelve children noted in the Damathat.

I will now state the names of the four who are noted in the Peetakat.

1st. Children that are publicly known; pot-ta.

2nd. A pupil, disciple, or appprentice, who attaches himself to a teacher to be instructed in his art; an-tay-wa-thee-ka.

3rd. A child begotten in another district, which a man is in the habit of frequenting; mot-ta-za.

4th. A child taken and reared after it had been deserted by its parents; dyn-na-ka.

This is the difference between the Peetakat and Damathat; from this, wise men understand that there are two sets of names for all children. As regards the prohibition of certain children from inheriting, if there be no good (in law) children, let the bad inherit; even if the child have been begotten by chance intercourse of its parents, if there be no good (legitimate) children, let the bad (illegitimate) one, according to the laws laid down above, receive (the property) and bear (the debts.)

There are twelve kinds of theng-thee, own property or separate share of children, which I will now collect and lay down.

1st. What is given to a child on being first put into its cradle.

2nd. What is given at the first shaving of the head.

3rd. What is given when the ears are bored.

4th. What is given on betrothment.

5th. What is given in illness.

6th. What is given on entering the priesthood.

7th. All gifts of ornaments, anklets, ear-rings, necklaces of kinds, bracelets.

8th. What has been taken away and enjoyed separately, without having been given by the parents.

၉။ ဘိုးဘွားတို့ပေးသောဥစ္စာရပ်လည်းတပါး။
၁၀။ သူတပါးချစ်သနား၍ပေးသောဥစ္စာရပ်လည်းတပါး။
၁၁။ အတတ်ပညာကြောင့်ရသောဥစ္စာရပ်လည်းတပါး။
၁၂။ အရှင်ကေရာဇ်သနားတော်မူသောဥစ္စာရပ်လည်းတပါး။

ဤသို့ဆိုခဲ့ပြီးသောတဆယ်နှစ်ပါးသောဥစ္စာရပ်သည် သင်းသီးမည်၏။

။ ။သားသမီးလက်မကွာရ၍ရှိသည်ကိုမဝေသာပြီဆိုရာ၌။မိဘဥစ္စာအလုံးအရင်းသိမ်းယူ၍ ခြားရာပါသည်ကိုသားကြီး။ သားလတ်။ သားထွေး။ သမီးကြီး။သမီးလတ်။ သမီးထွေးတို့ဖြစ်လျှင်။အစုအပုံဝေရာသည်။မဝေရာသည်ကို။ အထက်ကဆိုခဲ့ပြီးသည်အတိုင်း ညီညွတ်ပြီ။

ပုခက်တင်သောအခါ။ ခေါင်းရိတ်သောအခါ။ နားထွင်း သောအခါ။ ထိမ်းမြားသောအခါ။ မိဘပေးသည်မှန်ကမှန်တုံ၏။ လက်မရောက်က။သင်းသီးမဆိုသာ။ စာပေသက္ကရာဇ်ရှိပြားသော်လည်း မရသာချေဟု။ မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

အကြင်မိဘတို့သည်။ငင်ကဲ့သို့ဆိုခဲ့ပြီးသောဥစ္စာရပ်တို့သည်။သားသမီးတို့လက်ဝယ်ရှိလျက်။အသီးစား၍အခြားနေရာပါလျက်။ထိုဥစ္စာကိုမိဘတို့ယူ၍သုံးစားကုန်လျှင်။ယူပိုင်ကုန်ပိုင်စေ၊ ထိုဥစ္စာရပ်သည်။ ဘိုးသီးစားအခြားနေရာ။သားသေအံ့။ချွေးမလက်ဝယ်မယူသာ။သမီးသေအံ့။သမက်လက်မှာမယူသာ။မိဘနှစ်ပါးရှိစည်။သားသမီးသီးခြားယူ၍ ထင်ရှားရှိသောဥစ္စာရပ်ကို။နှောင်ပေးမည်ပြုသော်လည်း။ပိုင်သူမိဘမရှိလျှင်။ ပေါက်ဖော်တို့မခွဲမယူသာချေ။အထက်ယူရင်းဥစ္စာအတိုင်းသားသမီးတို့မှာယူစေ။

အကြင်မိဘတို့သည်လည်း။ရွှဲစည်ပေါင်း။နားတောင်း။ ခြေချင်း။လက်ကောက်။ဆံထိုး။ဆံကျင်။ဝတ်စားတန်ဆာတို့ကို။သားသမီးအားဝတ်ဆင်၏။ အစည် အတိုင်း သား သမီး မွေး သမျှ လည်း။ ငင်ဥစ္စာ ရပ်တို့ကို ဆင်လေ၏။ နောက်ဆုံးဆင်သောသူ၏ သင်းသီး ဥစ္စာဖြစ်စေ။ အထက်ကငါတို့ ဝတ်ဆင်သည်တန်ဆာအရင်းဖြစ်သည်မဆိုသာချေဟု။ မနူမည်သော ရှင်ရသေ့ဆိုတော်မူ၏။

သားသမီးတို့ကို။ရဟန်းသာမနေပြုသောအခါ။ မိဘတို့သည်ဘုရားရှင်အမွေတော်ကိုငါတို့ခံရပေပြီဟုဝမ်းမြောက်ဝမ်းသာအနုမောဒနာပြု၍။သူသိသူထင်သက်မှိ။ သက်မဲ့ဥစ္စာရပ်ကို။နှုတ်ဖြင့်လည်းကောင်း။ သက္ကရာဇ်စာပေဖြင့်လည်းကောင်း။ရေးထားပေ၏။ပေးသည်အတိုင်းလည်း မိဘတို့လက်တွင်ရှိ၏။ ထိုဥစ္စာရပ်ကိုအရိယာမြတ်တို့ထံမပါသော်လည်း။ သံသရာစက်အဝင်သင်းသီးဖြစ်သည်။သားသမီးတို့လက်မရောက်မဆိုသာ။ထိုရဟန်းသာ

9th. Gifts from grand parents.

10th. Gifts from affectionate regard by other people.

11th. Whatever may have been acquired by their own skill, learning or wisdom.

12th. Gifts from my lord the king.

The twelve descriptions of property here mentioned are called theng-thee, and whatever portion of them is in actual possession, shall not be divided. But if all the property of the parents shall have been taken away by the children, and if they have it with them in their separate residence, whether it be the eldest, middle, or youngest son, the eldest, middle, or youngest daughter, the proportions in which it shall or shall not be divided, have been already laid down.

Gifts made to children at the time of first being put into the cradle, at the first head shaving, at the first ear boring, or at the time of betrothment, though the parents may indisputably have made them, if the children have not been put in possession, they shall not be called theng-thee, and though there be a written agreement, they shall not (by law) obtain them. Thus Menoo the lord hermit said.

If parents had property of this kind in the hands of their children living apart from them, and have taken it back and expended it, let them have the right to do so. If a son with such property in his possession, living apart from his parents, shall die, they shall not take it from the daughter-in-law, nor on the death of a daughter shall they take it from their son-in-law. If children have openly taken property during the life of their parents, and are prepared to return it, if the parents, the owners of this property, shall die, the relations shall have no claim to it; let the children who originally took it retain it.

If parents have necklaces of all kinds, ear rings, anklets, hair pins, other kinds of ornaments and clothes, with which they have decked and ornamented all their children in succession, let them be the theng-thee of the last wearer; the others shall not claim them on the ground of having had them first. Thus Menoo, the lord hermit, said.

If the parents at the time of any of their children entering the priesthood shall with joy and exultation say, " we have obtained the inheritance of the most excellent gods," and in their joy shall publicly, either by verbal promise or written engagement, give property to this child, though it come not into the possession of the priest, but remain as before it was given, with the parents, it was given with a view to benefits in a future state; it is his theng-thee; the other children shall not object that it has never come into his possession; let the priest have the whole. If the parents shall make use of it, let them have the right to do so. If after the death of the parents it shall still be

မနေပြုသူတို့အလုံးရစေ။မိဘနှစ်ပါးယူသုံးလျှင်။ယူသုံးပိုင်၏။သုံးသူမိဘနှစ်ပါးသေသည်နောက်။ထိုဥစ္စာရင်းသည်မဖျက်ရှိပေလျှင်။ ထိုရဟန်းသာမနေပြုသောသားသမီးတို့ရစေ။ မိဘလက်မကွာဖြစ်သည် ပေါက်ဖော်တို့ဆိုသော်လည်း။ပေါက်ဖော်တို့မရသာချေ။အဘယ်ကြောင့်နည်းဟူမူကား။မိဘတို့၏မကောင်းမှု အပါယ်တံခါးပိတ်၍။ ကောင်းမှု ဖြစ်သောနတ်ရွာ နိဗ္ဗာန်လမ်းကြောင်းသို့ ညွှန်ပေသောသားသမီး ဖြစ်ခြင်းကြောင့်တည်းဟု။ မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

တနည်းကား။မိဘတို့တွင်ရှိရှိသမျှကိုသား။သမီးအားအလုံးပေးတော့ဆိုငြားသော်လည်း။ ဝမ်းမြောက်သော့ကြောင့်ဆိုခြင်းဖြစ်သည်။ မိဘစကားရှိသည်ဟုမရသာချေ။ မိဘအကျိုးကိုဆောင်ပေသော သားသမီးဖြစ်ပေလျှင်။ အမွေစုတွင်သားချင်းအစုမှန်ရာ၌။နှစ်ဆစားစေ။ ။အကြင်သားသမီးတို့သည်။ ရဟန်း သာမနေအဖြစ်ဖြင့် ဆုံးဖြတ်ရာ၌။ တစုံတယောက်သောပေါက်ဖော်သားချင်း။ ဆွေမျိုးတို့ဂုဏ်ဥစ္စာနှင့်။ ကျွေးမွေးပေးကမ်ပြုစု၍။ ထိုရဟန်းသာမနေကိုကျွေးမွေးပေးကမ်သောသူတို့သာစားစေ။ ပေါက်ဖော်ဖြစ်သည်။ သားချင်းဖြစ်သည်။ မကျွေးမမွေးသောသူတို့ဆိုသော်လည်းမရသာချေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

ဘိုးဘွားတို့ဝေသောဥစ္စာရပ်မှာ။လက်ရောက်။လက်မရောက်မဆိုသာ။ပေးသည့်အတိုင်းမြေးရစေ။မိဘအထဲတွင်။အကြင်သားသမီးတို့အတတ်ပညာကြောင့်ရသောဥစ္စာရပ်ကို။မိဘပေါက်ဖော်တို့မယူမဝေမစားသာချေ။

သူတပါးတို့ချစ်သနား၍ပေးသောဥစ္စာရပ်ကိုလည်း။ မိဘပေါက်ဖော်တို့မခွဲမဝေမယူသာချေ။

အရှင်ဧကရာဇ်သနားတော်မူသည်ဥစ္စာကိုလည်း။ မိဘပေါက်ဖော်တို့မခွဲမဝေမယူသာချေ။

ဤသို့သင်းသီးမျိုးအပြားတဆယ်တနှစ်ပါးတွင်။ ဤလေးရပ်သောဥစ္စာသည်။သင်းသီးအပိုင်မည်၏ဟုသိရာသတည်း။ ဤသို့သင်းသီးအပြားတို့ကိုပညာရှိတရားသူကြီးတို့သည်။ခွဲချမ်းစိတ်ဖြာစီရင်ရာသောအကြောင်းကို။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

မြတ်သောမင်းကြီး။မိဘတို့၏အမွေကိုခံထိုက်သောသားခြောက်ယောက်။ မိဘအမွေကို မခံထိုက်သောသားခြောက်ယောက်အားဖြင့်။ သားတကျိပ်နှစ်ယောက်တည်း။

၁။ အမွေခံစား ထိုက်သော သားကား။ မိဘနှစ်ပါး သဘောတူပေး၍ရသောသားသမီးတပါး။

forthcoming, let the priest obtain it, and though the relatives plead that it has never been out of the possession of their parents, they shall have no share. Why is this?—because the priest is a child who has closed the gates of hell for his parents, and pointed out the way to the abodes of the nats, the reward of good works. Thus the lord hermit said.

In other cases, if the parents should say, "I give my whole property to my son or daughter," it is an exclamation made from joy and happiness; they shall not on the ground of such a speech obtain the property of their parents. But if they look after the interests of their parents, at the partition of the property let them have a full double share. If a child shall die in the priesthood, and any of his relations shall have supported him with his (the priest's) own property, let him only inherit; the other relations or brothers who have not supported him shall have no share, though they claim on the ground of relationship. Thus Menoo, the lord hermit, said.

Regarding gifts from grandparents, there shall be no reservation; whether in possession or not, let the grandchild to whom the gift was made, have it. Parents and relations shall have no share in any property obtained by a son or daughter, by their own learning or science, and lodged with the parents.

Gifts made from affection, also, the parents and relatives shall have no share in.

Of the twelve kinds of theng-thee, the four last are called theng-thee a-paing, i. e. in which the right is perfect; and these are the rules by which judges and wise men shall decide in matters of theng-thee.

Oh excellent king! the six children who are, and the six who are not entitled to inherit, are twelve. The children who are entitled to inherit are,

1st. Children of a pair given in marriage by their parents.

၂။ အိမ်ကျွန်မကိုမယားအသိ။ ရပ်သိ။ ရွာမြင်။ အိပ်ခမ်နေရာပေး၍မြင်သောကျွန်မသားသွီးတပါး။

၃။ မယားကြီးအောက်။ လက်ဆုံမစား အပြောင်တွင် ရသောသားသွီးတပါး။

၄။ မယားကလည်းလင်နှင့်နေချပါသောသားသွီး။ လင်ကလည်းမယားနှင့်နေရာတွင်ပါသောသားသွီးတပါး။

၅။ သူတပါးသားသွီးကို။ သားသွီးပြုမည်။ သူသိသူမြင်တောင်း၍။ မွေးစားသောသားသွီးတပါး။

၆။ သူတပါးမိဘမထင်မမြင် အမှတ်မဲ့ မိဘရှိမတောင်းမပေး။ ကောက်၍မွေးသောသားသွီးတပါး။

ဤခြောက်ယောက်သော သားသွီးတို့ကား။ အမွေကိုဆို ခဲ့ပြီးသည်အတိုင်း။ ကောင်းသောအကျင့်ရှိလျှင်ခံစားရသတည်း။

အမွေမခံထိုက်သောသားသွီးခြောက်ယောက်တို့ကား။

၁။ သူတပါးပေး၍။ သူတပါးလက်မှာကြီးမြင့်လေသောသားသွီးတပါး။

၂။ သားသွီးပြုခြင်းငှါဥစ္စာဖြင့်ဝယ်သောသားသွီးလည်းတပါး။

၃။ မိမိမယားသည်။ သူတပါးနှင့်လင်မသိနေ၍။ လင်ဟောင်းနှင့်နေရာတွင်မွေးသောသားသွီးတပါး။

၄။ ကစားမြူးထူးရာ။ လင်အတည်မရှိမပေါ်။ ရသောသားသွီးတပါး။

၅။ မိဘစကားကိုနားမထောင်။ ဆုမ္ပခက်သောခွေးဟုဆိုအပ်သောသားသွီးတပါး။

၆။ စားရာဝတ်ရာမဲ့။ တောင်းစားရမ်စားပြုသောသူသည်။ သားသွီးဖြစ်ပါစေ။ ဖြစ်စေတော့ဆိုကြ၍။ ကျွေးမွေးသောသားသွီးတပါး။

ဤခြောက်ယောက်သောသားသွီးတို့သည်။ အမွေမစားရရာ။ မစားထိုက်ကြောင်းကို ဆို ခဲ့ပြီ။ အလျော်ပေးသောသားသွီး။ ကွာသောသားသွီး တို့မှာလည်းဆို ခဲ့ပြီ။

မင်းကြီးလင်တည်မရှိ။ ရသောသားသွီးတို့တွင်။ အမွေစားထိုက်။ မစားထိုက်ရာနှစ်ပါးရှိ၏။ နှစ်ပါးဟူသော်ကား။ တလင်သားဖြစ်သူ၏အမိသည်။ နောက်လင်အတည်နေ၍မွေးသောသားသွီးမရှိ။ ထိုအမိသည်။ နောက်လင်ငယ်မနေမှီ။ တင်မြီကောင်းမွေဥစ္စာပါရှိမည်။ နောက်လင်နှင့်နေ၍။ အမိသေသော်လည်းကောင်း။ နှစ်ပါးစုံသားမရှိ။ ဘထွေးနှင့်သားအတူနေရာဖြစ်လျှင်။ အထက်ပါရင်းကိုလေးစုစု၍။ သုံးစုမကောင်းမြီ။ ကောင်းဥစ္စာကို။ ထိုတလင်သားခံဆပ်စေ။ တစုမကောင်းမြီ။ ကောင်းဥစ္စာကိုဘထွေးတစုခံဆပ်စေ။ ပွား

2nd. Children of a household female slave, who has had a separate chamber given her, with the knowledge of the wife, and of the whole neighbourhood.

3rd. Children of a concubine, inferior to the head wife, but who eats out of the same dish with the husband.

4th. Children of a husband or wife by a former marriage.

5th. Children obtained by request from their parents, and adopted publicly.

6th. Children neglected by their parents, and adopted casually, without any formal engagement.

These six, if of good moral habits, are entitled to inherit as laid down.

The six who are not entitled to inherit are,

1st. Children given away in youth, who have grown up in the hands of others.

2nd. Children who have been bought and adopted.

3rd. Children begotten secretly in adultery, the wife remaining with her husband.

4th. Children begotten in youthful wantonness, the real father not being known.

5th. Children who may justly be called dogs, whom it is most difficult to advise, who heed not the express orders of their parents.

6th. A child who, being destitute of food and clothes, obtains a livelihood by begging, and a person says to the father, "give me your son," and he replies, "be it so."

These six children shall not inherit, for reasons already laid down. Also children for whom fine or compensation has been paid, and children of parents who have separated.

Oh king! of children whose father is unknown, there are those who are entitled to inherit, and those who are not. Of these two, a child is begotten by one man, and the mother takes another as a husband permanently, by whom she has no children. If before she took this husband, she has acquired property or incurred debts, if the son and step-father be living together at her death, let her original property be divided into four shares, and let the son have three shares of debts and assets, and the step-father one. If there be property acquired by the mother and step-father when living together, let it be

ဥစ္စာဖြစ်လျှင်။ခြောက်စုစု၍။တစုကိုအထက်လင်သား မကောင်းမြီ။ကောင်းဥစ္စာကိုခံဆပ်ယူစေ။ဘထွေးငါးစုမကောင်းမြီ။ကောင်းဥစ္စာကိုခံဆပ်ယူစေ။ဘထွေးဥစ္စာရင်းပါလည်း။ ထိုအထက်လင်သားအား လေးစုတစုကိုခံဆပ်ယူစေ။ ။ဤကားနှစ်ပါးစုံတွင်သားသို့မ်းရှိသည်ကိုဆိုသတည်း။ ။ထိုသေသူဗယားဓါမိဘအမွေရိုးကိုမူကား။ အမွေမှိလျှင်ထိုလင်သစ်ကို။မိဘပေါတ်ဖော်အသိ နေစေသူဖြစ်ချေက။ ထိုလင်သစ်က သာစားစေ။ သားဖြစ်သည်မဆိုသာ။တလင်သားဖြစ်ချေသောကြောင့်တည်း။ ။ချင်းမိဥစ္စာသင်းသီးနှင့်။ ဘထွေးဥစ္စာမှာ။ သားဟောင်းအမိဘထွေးတချက်တည်းနေသည်ဖြစ်၍။နို့ကြောင့်ရေ။ရေကြောင့်နို့စားရာသတည်း။ ။ထိုသို့ကားမဟုတ်တုံ။ငါတို့ပေါက်ဖော်သားအဖမထင်လေသော်လည်း။ပေါက်ဖော်ကိုခင်မင်၍။တူဖြစ်သည်ဟု။ထိုတလင်သားကိုဦးရိုး။မိကြီး။မိထွေးတို့ပေးလျှင်။ထိုတလင်သားရစေ။ ဘထွေးလိုက်၍ ထိုတလင်သားမှာမစားသာချေ။ အဘယ်ကြောင့်နည်းဟူမူကား။ ချစ်၍ပေးရာရောက်ချေသောကြောင့် တည်း။ငအမိသားဖြစ်သည်ရကောင်းသည်။ အမိပေါက်ဖော်တို့မှာ။ ထိုတလင်သားတောင်းသော်။ ချင်းမိမှအမွေမခံထိုက်ဖြစ်သောကြောင့်။ ချင်းမိပေါက်ဖော်တို့မပေးက။အမွေခံခြင်းငှါမထိုက်မရရာ။အရှက်သာရသတည်း။ ။ထိုတလင်သား အမိသည်။မိဘပေးသောသူ။ မိဘပေါက်ဖော်အသိသဘောတူနေရာတွင်။သားသို့မ်းမွေးအံ့။ ထိုအမိသင်းသီးလည်းရှိအံ့။ ထိုအမိသေသော်။ဘထွေးနှင့်ဝေရာသောတရားခန်းမှာ။ လေးစုစု၍သုံးစုကို။ အမိသားဖြစ်သူတလင်သားမှန်လည်း။ထိုသူပြင်သားကောင်မရှိကစားစေ။ လက်ထက်ပွားမှာလည်း။ရှစ်စုတစုသားစားစေ။

အမိသေ၍။ဘထွေးနောက်မှသေရာ၌။ဝေရာသောတရားတခန်းကား။ချင့်မိပါရင်းသင်းသီးတို့ကို။ဘထွေးသည်။မယားအမွေအလုံးတို့ကိုပိုင်လေသည်။ဘထွေးတွင်လည်းအမွေမတောင်းနေလေသည်။ထိုချင့်မိပါရင်းဥစ္စာသင်းသီးကို။ နှစ်ပါးစုံသားတဝက်ယူစေ။ တဝက်ကျန်ကို။ အထက်တလင်သားနှင့်။နှစ်ပါးစုံသားသို့မ်းတို့။ကြီးစည်ငယ်လိုက်ဝေယူစားကြစေ။ဘထွေးနှင့်လက်ထက်ပွားမှာလည်း။တဝက်ကိုနှစ်ပါးစုံသားယူစေဦး။တဝက်ကျန်မှာ။နှစ်ပါးစုံသားနှင့်။အထက်လင်သားသို့မ်းတို့ကြီးစည်ငယ်လိုက်မျှဝေစားကြစေ။တင်မြီရှိလည်းနည်းတူခံစေ။

ထိုအမိ၏ပေါက်ဖော်ချင်းအမွေမှာ။ထိုတလင်သားမစားပိုင်ချေ။တိရိစ္ဆာန်နှင့် တူသောသားအဝင်ဖြစ်ချေသည်။နှစ်ပါးစုံသားသို့မ်းတို့။ဘိုးဘွားအမွေကိုမှိလျှင်မှိလျောက်။မမှိလျှင်မမှိလျောက်ခံစားစေ။တင်မြီရှိလည်းနည်းတူဖြစ်

divided into six shares; let the son have one share of debts and assets, and the step-father five. If the step-father had property at the time of marriage, let the son have one fourth share of debts and assets. This is said when the couple had no children. Of the hereditary property of the deceased, undivided, in the possession of her parents, if the husband was taken with the knowledge of her parents and relations, he only shall inherit; the son shall not plead that he is her son, that she was his mother, because he is the son of another man; only when living with them is such a son entitled to the own property of his mother and the property of his step-father, as mud is the consequence of water, and water of mud.

If the brothers and sisters of his mother, his uncles and aunts, from affection shall say, "though he is the son of an unknown father, yet he is related to us, he is our nephew," and thus make him a gift of the property, let him have it; the step-father shall have no right to demand a share. Why is this?—because it is a gift of affection.

If the son demand the property of his mother from the relations, on the ground of being her son, as he is not entitled to it, unless they choose to give it to him, if they refuse, he only exposes himself to shame.

If the mother has children by the husband given her by her parents, with the knowledge and consent of her relations, and she shall have separate property, theng-thee, at the time of her death, let the same law as is laid down in the preceding paragraph relative to this property, which says, let it be divided into four parts, of which let the child of an unknown father, if his mother has no legitimate children, have three, still hold good in this case also; but of property acquired by both, let this child have only one eighth.

If the step-father die soon after the mother, he has a right to the whole of her original and separate property; and if the chance child have not demanded his share from the step-father, let his children have one half, and let the other half be divided between them and the chance child, according to their ages. Of the property acquired by both parents, let their children have one-half, and let the other be divided between them and the chance child according to their ages, and let them pay the debts in the same proportion. Of the inheritance which comes to the mother from her relations, the chance child shall have no share, because he is of the number of children that are like the offspring of animals; let the children of the pair have all the hereditary property they may be in reach of, and let the debts be paid in the same way. If the parents and step-parents be both dead, let the ori-

စေ။ မိဘ။ဘထွေး။မိထွေးမရှိလျှင်။အထက်သားအောက်သားတို့သည်။ အထက်ပါရင်းဥစ္စာကိုသုံးစုစု၍။အထက်သားနှစ်စု။ အောက်သားတစုခံစားစေ။နောက်လက်ထက်ပွားမှာလည်း။အောက်သားနှစ်စု၊အထက်သားတစုခံစားစေဟူသည်မှာ။လင်တည်သားသွီးကိုသာဟူသတည်း။

အမှတ်မဲ့တိရိစ္ဆာန်ကဲ့သို့ရသောသားသွီးကိုမယူသာချေ။ အမိ၏သင်းသီးဖြစ်ရာ။အမိ၏လင်ငယ်နှင့်ဖြစ်ရာ။ အဖ၏သင်းသီးဖြစ်ရာ၊ အဖ၏မယားငယ်နှင့် ဖြစ်ရာတွင်မူကား။ သားကောင်းမရှိသော်။ သားဆိုးခံရာသည်အတိုင်း။ခွဲဝေဆပ်ယူစေရာသည်။

.တလင်သားတို့သည်။ချင့်မိဘ္ဘသားကောင်းသွီးကောင်းမရှိဒခဲ့။အမိအမွေကိုအမိမရှိလျှင်။ အမိပေါက်ဖော်တို့မှာ။ ချင့်တောင်း၍လည်း ရထိုက်သောတရားမရှိ။ချင့်မိဘ္ဘ၍တောင်းလည်းရထိုက်သောတရားမရှိ။တိရိစ္ဆာန်အဝင်ဖြစ်ချေသော့ကြောင့်တည်း။

အိမ်ကျွန်မကိုမယားကြီးရှိစဉ်။မရှိနောက်အိပ်ခမ်အိပ်ရာမပေး။ အမှတ်မဲ့မွေးသောသားသွီးတို့မှာ။သွီးမွေးလည်းအမိမလွတ်သာ။သားယောကျ်ားမွေးက။အမိလွတ်စေရာသည်။အိပ်ခမ်အိပ်ရာပေး၍လက်ဆိုမစားမွေးသောကျွန်မသားသွီးတို့မှာ။ကျွန်စုသားအမွေခံကဲ့သို့ခံစေလည်းဟူ၏။မခံစေနှင့်။ချစ်၍ပေးသမျှတွင်သာရစေလည်းဟူ၏။ ထိုသို့ဆိုရာ၌။သွီးကြီးတို့သို့ကျွန်ခံနေချေ။အဖသခင်ဆိုသည်ကို။သားချင်းသွီးချင်းအတူတူကို။အစေမခံဘဲနေသောကျွန်မသားသွီးမှာမူကား။ သခင်အဖမရှိလျှင်။ကိုယ်ဘိုးတဝက်ကိုအထက်သားသွီးတို့သို့ပေးစေ။အဘယ်ကြောင့်နည်းဟူမူကား။သခင်ဖြစ်သောအဖစကားကိုလွန်ဆန်သောသားသွီးဖြစ်သော့ကြောင့်တည်း။

တနည်းတုံ။အဖရင်သွေးရင်သားဖြစ်သောသူတို့ကို။ အဖ၏သားသွီးတို့သည်။ အမိပင်နှိမ်နယ်သော်လည်း။ အဖသွေးရင်း သားရင်း ဖြစ်သည်ဟု။ကျွန်မပြုနေခြင်းသည်။အမျိုးစောင့်သည်မည်၏။အဖအမိခွင့်ပေးသည်ဟူ၍မယူအပ်။မစေအပ်။ဝတ္တုသက်သေအကြောင်းကား။ ။ရှေးသောအခါ။ရာစောင့်မိမ္မကို။ပြည်ရှင်မင်းလက်စွတ်ပေး၍။တကြိမ်ယဉ်ပါးသည်ကာလ။သားမိမ္မမွေးလျှင်။ ဧင်မွေးကျွေးလေ။သားယောကျ်ားမွေးလျှင်။သွေ့ဆောင်ခဲ့မိန့်ဆို၏။ဖွား၍သုံးနှစ်အရွယ်သို့ရောက်သည်ကာလ။ သားယောကျ်ားကိုချီ၍။မင်းအမိန့်ရှိသည်အတိုင်းလာသော်။ မင်းကြီးမှာလည်းသဘင်ကြီးစွာခံသည်အခိုက်။မင်းကြီးသားဖြစ်ပါသည်။ အမိန့်တော်အတိုင်းပို့လာသည်။သူငယ်မှာ။မင်းကြီးလက်စွတ်ဖြစ်သည်။လက်စွတ်ကိုပြ၍အပ်သဉ်ကို။မင်းကြီးလည်းနှစ်လုံးမသာရှိ၍ ဖြစ်ချေသည်။ထက်လှစွာသောသံလျက်သွားကို

ginal property be divided into three shares; let the children of the first family have two, and of the last one share; and of the property acquired afterwards, let the children of the last family have two shares, and of the first one. This is only said of respectable children; chance children, begotten like brutes, shall have no share.

The theng-thee of the mother, the property obtained by her and a second husband, the theng-thee of the father, and property obtained by him and a second wife, this property, if there be no good children, let the bad inherit what there may be and pay the debts, as laid down for the good.

If a chance child, begotten like a brute, his mother having no legitimate children, demand her property of her relations, he has no right to it by law, nor even if it be demanded of his mother in her life time, because he is included amongst brutes.

If a household slave woman, during the life of her master, or after his death, bear a chance child, having had no separate chamber given her, if it be a daughter, she shall not be released from slavery, but if a son, she shall.

If she had a separate chamber given her, but does not eat out of the same dish, let her children have the share of a slave's children; it is also said, they shall not inherit, but have only what is given them from affection; and if the father and master order such a child to be the slave of his elder children, and they will not serve, on the ground that they are brethren, children of the same father, at the father's death let them pay one-half the price of their body to the elder children. Why is this?—because they are children who refuse obedience to the orders of their master and father.

If the elder children, on the ground that though the child of an oppressed mother, still he is the child of their father, do not make him a slave, they are called guardians of the family credit; though the father give permission, it is improper to make such a child serve. In evidence of which (I will relate a precedent.) In former times the king of a certain country had connection once with a woman who watched a garden, and he gave her his ring, and told her if she had a daughter, to bring her up with the price of the ring, and if she had a son to bring him to him. She had a son, and when he was three years old, as the king ordered, she took him to the king at the time he had a great dramatic entertainment, and said, " this is my lord's son, I have brought him according to the royal order, and the ring he has is my lord's ring; " so she gave him over to the king, who being ashamed, denied (him.) The woman said, " my lord! take a very sharp sword, and if it be not my lord's son, may he fall on the edge

ခံတော်မူ။မင်းကြီးသားမဟုတ်လျှင်။သံလျက်သွားထက်ကျ၍ သေစေသော။
မင်းကြီးသားမှန်လျှင်ကောင်းကင်၌တည်စေသော။မိဿန်၍ရွှင်သောမျက်နှာ
နှင့်။သံလျက်သွားအပေါ်မင်းကြီးရှေ့ ပရိသတ်အစုအမြင်တွင်မိခင်သည်။
ကောင်းကင်သို့သူငယ်ကိုမြှောက်၍ပြစ်လေသော်။ကောင်းကင်၌သံလျက်အ
ပေါ်တွင်။ထက်ဝယ်တင်ပျည်ခွေ၍။လူတရပ်ခန့်၌သံလျက်သို့မကျဘဲ။ငါမင်း
သားတည်းဟု။ မြွတ်သောတရားကိုဟောပေ၏။ ထိုတွင်မင်းကြီးမှစ၍။ အ
မတ်။ ပြည်သူ ပြည်သားတို့။ ကောင်းကြီးညာ၍။ များစွာသောပဏ္ဏာလက်
ဆောင်တို့ဖြင့်။ပူဇော်ကြလေ၏။မင်းကြီးလည်းသူငယ်မကို။မိဖုရားမြှောက်
လေ၏။သူငယ်ကိုလည်း။အိမ်ရှေ့ပေးတော်မူ၏။အဆက်ဆက်နောင်၌ဘဒ္ဒ
ကပ်ကမ္ဘာတွင်။သားတော်ဂေါတမဘုရားရှင်ဖြစ်လာ၏ဟု။ဓမ္မနိုကံကြောင်း
၌ထင်ရှားရှိချေသည်ကိုထောက်၍။ သားကြီးတို့ကို။ အမိပေးသော်လည်း။
အဖရင်သွေးသားရင်းဖြစ်ကမစေ။ ဓမ္မသတ်၌မှားသော်လည်း။ ညာတိဝံသ
အမျိုးစောင့်သောသူသည်။ နိဗ္ဗာန်လမ်းကြောင်းမလွဲဟု။ ဗြဟ္မာမင်း၏သား
ရင်းဖြစ်သော။မနုမည်သောရှင်ရသေ့ဆိုတော်မူ၏။

of it and die; if he be really my lord's son, may he remain suspended in the air." Having made this vow with a smiling countenance, in the front of the king and the assembly, the mother threw up her son, he remained suspended in the air about the height of a man above the sword in a sitting position, and said, "I am the king's son." On this the king, his ministers, and all the people of the country, presented him with abundant gifts; the king raised the young woman to the rank of queen, and made the boy his heir, and from him the Gaudama of the present existing world is lineally descended. This is made notorious by being recorded in the Damakan, (the laws of Gaudama.) Therefore, though the father gives such a child to his elder children, he is their father's flesh and blood; they will not oblige him to serve, though it be written in the Damathat; the man who has the credit of his family at heart, will not miss the way to eternal rest. Thus Menoo, the Yathay, the son of the king of Bymahs, said.

END OF THE TENTH VOLUME.

## မနုအကျယ်ကောဒသမတွဲ။

---

॥နမောတဿ။ဘဂဝတော။အရဟတော။သမ္မာသမ္ဗုဒ္ဓဿ။

---

### မာတိကာ။

မနုအကျယ်။ကောဒသမအခန်း၌။ရဟန်းတို့အမွေခမ္မသတ်ထွက်။ ၄င်ရဟန်းတို့အမွေဝိနည်းထွက်။

၁။ ရဟန်းပုဏ္ဏားတို့သေလျှင်။မင်းကောရာဇာခံထိုက်သောအမွေ။

၂။ ပုဏ္ဏားတို့အမွေကို။မင်းကောရာဇာခံခြင်းတပါး။

၃။ ပုဏ္ဏားအချင်းချင်း။ဝေပေးရာသောတရား။

၄။ ပုဏ္ဏားမျိုးကိုးပါး။သစ္စာပြုတရား။

၅။ သူခိုးလက်ဝယ်ရသောသူနှင့်။ဥစ္စာရှင်ဝေရာသောတရားတပါး။

၆။ အစောင့်အရှောက်မရှိ။ မြေနှံထားသောဥစ္စာကိုသူတပါးတူးယူရာတွင်။ဥစ္စာရှင်သိ၍။ အမှတ်အသားနှင့်ရှိကြောင်းကို ဆို၍မှန်လျှင်။ ဝေရာသောတရားနှစ်ပါး။

၇။ လှေနစ်ဘေးဖြစ်ရာတွင်။ဥစ္စာရှင်မနိုင်ပျက်စီးသည်တွင်သူတပါးဆယ်ယူကယ်၍ရရာ၌ဝေပေးရာသောတရားတပါး။

၈။ ယောက္ခမ။ချွေးမ။သမက်တို့ဝေစားရာထုံးသက်သေစကား။

၉။ ဆင်။မြင်း။ကျွဲ။နွားငှါးရာသေ၍။အပြစ်မရှိသောစကား။

၁၀။ လှည်းတိုက်မိသောစကား။

၁၁။ ယည်စီးလှေခါးထောင်ခိုးသောစကား။

၁၂။ သူငယ်မညည့်သွားစကား။

၁၃။ ညညည့်အခါအထိတ်အမှတ်နှင့်သွားရာသောအကြောင်းစကား။

၁၄။ ကြိမ်မိ၍အပြစ်မရှိလေးပါးစကား။

၁၅။ ကြိမ်မိ၍အပြစ်ရှိလေးပါး။

၁၆။ သက်ရှိသက်မဲ့ကိုမဝယ်သင့်။မဝယ်ရာလေးပါးစကား။

ဤကောဒသမခန်း၌တရားပေါင်း။

# LAWS OF MENOO.

THE ELEVENTH VOLUME OF THE

## GREAT WORK OF MENOO.

*I worship the god who is worthy of all homage, who possesses an intuitive knowledge of good.*

### CONTENTS OF THE VOLUME.

The law of inheritance amongst priests, as contained in the Damathat, and the same as contained in the Weenee, or sacred books.

1. The law laying down what part of the property of a bramin, or rahan, at his death, goes to the king.
2. The law by which the king is entitled to inherit the property of a bramin.
3. The law prescribing the forms of oaths to be taken by the nine kinds of bramins.
4. The law by which bramins inherit from each other.
5. The law for the partition of property recovered from a thief, between the owner and the person who recovers it.
6. The law for the partition of property buried in the earth, over which there is no watch, between the person who finds it and the owner who, on learning that his property has been dug up, describes it correctly.
7. The law for partition of property saved out of a sinking boat, after the owner has given it up as lost, between him and the salvor.
8. A precedent for the division of property between a father or mother-in-law, and a son or daughter-in-law.
9. The law as to when a borrowed horse, elephant, buffalo, or other cattle may die, and no blame attach to borrower.
10. The law regarding injury received by being run against by a cart.
11. The law regarding theft committed by mounting a ladder, or any vehicle.
12. The law regarding young women travelling at night.
13. The law regarding travelling at night with due caution.
14. The four cases in which there is no harm in using an imprecation.
15. The four cases in which there is harm in using an imprecation.
16. The four cases in which animate and inanimate property may not be bought.

These are all the laws contained in the eleventh volume.

၁။ ရဟန်းပုဏ္ဏားတို့သေလျှင်။မင်းကေရာဇ်ခံထိုက်သောအမွေ။

ဆရာထေရ်ကြီးသေလျှင်။ ဥစ္စာကိုလူရဟန်းပဉ္စင်းသာမဏေလက်သည်တို့ဝေရာ။ ယူရာသောတရားတပါး ဟူသည်ကား။ ဆရာထေရ်ကြီးသေလျှင်။ ရဟန်းပရိက္ခရာရှစ်ပါး။ ဥယာည်။ရေကန်။ ဆွမ်းခံဖွယ်ကို မထေရ်ကြီးယူစေ။ ကျန်သည်ကြေးကျွန်။ရွှေငွေဥစ္စာဘဏ္ဍာ။သက်ရှိ။သက်မဲ့ကိုလေးစုစု။ နှစ်စုကို မထေရ်ကြီးယူစေ။ ကျန်နှစ်စုတွင် တစုကို မထေရ်အောက် လက်သည်ရဟန်းစားစေ။ တစုကျန်ကိုလေးစုစု၍။သုံးစုကိုပဉ္စင်းတို့စားစေ။ တစုမှာ။သာမဏေတို့စားစေ။ ရဟန်း၏ပေါက်ဖော်ဖြစ်သော လူဆွေ လူမျိုးတို့မှာ။ ထိုရဟန်းရှိစဉ် လက်ရောက်ပေးသည်ကိုသာစားစေ။သေသူရဟန်းကိုပေါက်ဖော်ဖြစ်၍။ငါတို့ဆွေမျိုးညာတိကာကျွမ္မာစဉ်။လုပ်ကျွေးမွေးသည်။နာလျှင်ကုမသည်။သေလျှင်သင်းဂြိုဟ်သည်။ဆိုသည်အတိုင်းမှန်သော်လည်း။ ဒါနအလှူကိုသာဝင်ရောက်သည်။ လူချင်းကဲ့သို့ဥစ္စာဘဏ္ဍာကို မရသာချေဟူ။ မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။

ဝိနည်းတော်ခန္ဓကကျမ်းများမှာမူကား။ နာစဉ်မွေးကျွေးသောလူရဟန်းသာမဏေကြီးငယ်မဆို။ ထိုသေသောရဟန်း၏ပရိက္ခရာရှစ်ပါးကိုရထိုက်၏။ ပရိက္ခရာရှစ်ပါးဟူသည်ကား။ဒုကုဋ်ကိုယ်ရုံသင်ပိုင်။ ခါးပန်းကိုယ်ဝတ်မကွာအမြဲတည်သော။အတွင်းပရိက္ခရာလေးပါး။သပိတ်ခရိုင်အပ်ဖဲကွပ်။ ဤပြင်ပရိက္ခရာလေးပါးနှင့်ရှစ်ပါးတည်း။ထိုမှကြွင်းသောသက်နှ်း။သပိတ်။ကညစ်။သရေနှယ်မှစ၍။ဂရုဘန်။လဟုဘန်ဝေအပ်။မဝေအပ်ဟူနှစ်ဆယ်ငါးပါးရှိ၏။ ကျောင်းစည် ထားရာသည်သင်္ဃာတို့။ ဝေရာသည်အကြောင်းများမှာ။ ရဟန်းတို့၏အမှု။ ဝိနည်းတော်ထွက်ဖြစ်သတည်း။ ထိုသူနာကိုကုမသောလူဖြစ်လျှင်။ ပရိက္ခရာရှစ်ပါးစုံ၏အဖိုးကိုယူစေ။ ထိုသေသူပစ္စည်းပရိက္ခရာအခြားမှာရှိလျှင်။ရှိသူမှာသာတည်စေ။သင်းဂြိုဟ်သူ။ ကုမသူဟူမရသာချေ။ လူတို့သည်ရဟန်းအမွေနှင့်မစပ်မဆိုင်သာချေဟူ။ဝိနည်းတော်၌ဆို၏။

12. The law for the partition of the property on separation, when the husband is a bramin, and the wife of the poor class.

13. The law for the partition of the property on separation, when the husband is of the rich class, and the wife a noble.

14. The law for the partition of the property on separation, when the husband is of the rich class, and the wife a bramin.

15. The law for the partition of the property on separation, when the husband and wife are both of the rich class.

16. The law for the partition of the property on separation, when the husband is of the rich, and the wife of the mercantile class.

17. The law for the partition of the property on separation, when the husband is of the rich, and the wife of the poor class.

18. The law for the partition of the property on separation, when the husband is of the mercantile class, and the wife a noble.

19. The law for the partition of the property on separation, when the husband is of the mercantile class, and the wife a bramin.

20. The law for the partition of the property on separation, when the husband is of the mercantile class, and the wife of the rich.

21. The law for the partition of the property on separation, when the husband and wife are both of the mercantile class.

22. The law for the partition of the property on separation, when the husband is of the mercantile, and the wife of the poor class.

23. The law for the partition of the property on separation, when the husband is of the poor class, and the wife noble.

24. The law for the partition of the property on separation, when the husband is of the poor class, and the wife a bramin.

25. The law for the partition of the property on separation, when the husband is of the poor class, and the wife of the wealthy.

26. The law for the partition of the property on separation, when the husband is of the poor class, and the wife of the mercantile.

27. The law for the partition of the property on separation, when both are of the poor class.

၂၈။ မယားကြီးရှိလျှက်။မယားငယ်နေ၍။ မယားကြီးကွာသောတရားတပါး။

၂၉။ မယားငယ်နှင့်ကွာ၍။မယားကြီးနှင့်နေသောတရားတပါး။

၃၀။ မယားကြီး။မယားငယ်။အပြောင်ကျွန်မယားနေရာတွင် ကွာသောတရားတပါး။

၃၁။ လင်သေ။ကျွန်လင်နှင့်နေ၍ကွာသောတရားတပါး။

၃၂။ မယားသေ။ကျွန်မယားသခင်ကွာသောတရားတပါး။

၃၃။ သုံးရက်ိုမယားပြု၍ကွာသောတရားတပါး။

၃၄။ ဖမ်ရက်ိုမယားပြု၍ကွာသောတရားတပါး။

၃၅။ လက်ရက်ိုမယားပြု၍ကွာသောတရားတပါး။

၃၆။ ဝယ်၍လင်မယားပြုရာ။ကွာသောတရားတပါး။

၃၇။ ချွေး၍လင်မယားပြုရာ။ကွာသောတရားတပါး။

၃၈။ ဂုဏ်ကြောင့်ရ၍နေသည်တွင်ကွာသောတရားတပါး။

၃၉။ မင်းပေးလင်မယားကွာသောတရားတပါး။

၄၀။ ခိုးသူလက်မှာရ၍နေသောမယားတပါး။

၄၁။ မြို့အများကိုဆပ်၍နေသောမယားတပါး။

၄၂။ မစွန့်ရသောမယားငါးယောက်။

၄၃။ စွန့်ရသောမယားငါးယောက်။

၄၄။ လင်မယားတို့ကွာမည်မဆိုကြဘဲ။ကွာပိုင်သောတရားတပါး။

၄၅။ မယားကိုလင်ရောင်းစားပိုင်သောတရားတပါး။

၄၆။ လင်ကိုမယားကျွန်ဆဲပိုင်သောအကြောင်း၅စ်ပါး။

၄၇။ လင်ကိုမယားစွန့်ပိုင်သောတရားတပါး။

ထိုသို့ဆိုခဲ့ပြီးသောမယားမျိုးလေးပါးငါးပါးတို့တွင်။အကျယ်အားဖြင့် အကျင့်ယုတ်မြတ်ကိုဆိုရာ၌ငါးဆယ်လေးပါးရှိ၏။ ထိုအကြောင်းကိုဆိုပေအံ့။ ။ထိုတွင်လင်မယားဖြစ်ရာသောအကြောင်းသုံးပါးတည်း။ သုံးပါးဟူသည်ကား။ မိဘနှစ်ပါးပေးထိမ်းမြား၍။ နေစားကြသောလင်မယားတပါး။ ။သူတပါးတို့အောင်သွယ်၍နေစားခြင်းလည်းတပါး။ ။နှစ်ဦးသဘောတူ၍နေစားခြင်းလည်းတပါး။ ။ဤသို့အကြောင်းသုံးပါးတို့တွင်။တပါးပါးဖြင့်နေသောမယားတို့၌။

28. The law of separation from a head wife on taking a second.

29. The law of separation from a lesser wife on living with the head wife.

30. The law of separation, the husband having a head wife, a lesser wife, a concubine, and a slave wife.

31. The law of separation from a slave husband taken on the death of the first husband.

32. The law of separation from a slave wife taken on the death of the first wife.

33. The law of separation from a thong-ya wife obtained from her hiding place at the sack of a town.

34. The law of separation from a pan-ya wife taken from the enemy.

35. The law of separation from a let-ya wife taken in battle, or in the storming of a town.

36. The law of separation from a bought wife.

37. The law of separation from a wife redeemed from slavery.

38. The law of separation from a wife obtained in return for benefits conferred.

39. The law of separation from a wife given by the king.

40. The law of separation from a wife received from a thief (seducer.)

41. The law of separation from a wife taken after having paid large debts on his account.

42. The law regarding the five kinds of wives who are not to be put away.

43. The five kinds of wives who may be put away.

44. The law by which a husband and wife may be compelled to separate, though they do not wish it themselves.

45. The law when a husband has a right to kill his wife.

46. The eight reasons for which a woman has a right to imprecate evil on, and abuse her husband.

47. The law when a woman may put away her husband.

If the whole law were laid down at large regarding these four and five kinds of wives, according to their good or evil, there are fifty-four kinds. This I will explain.

Amongst men there are only three ways of becoming man and wife, which are as follows: 1st, a man and woman given in marriage by their parents, who live and eat together; 2nd, a man and woman brought together by the intervention of a go-between, who live and eat together; 3rd, a man and woman who come together by mutual consent, who live and eat together.

၁။ အမိနှင့်တူသောမယား။ ၂။ နှစ်မနှင့်တူသောမယား။ ၃။ အဆွေခင်ပွန်းနှင့်တူသောမယား။ ၄။ ကျွန်နှင့်တူသောမယား။ ၅။ အရှင်နှင့်တူသောမယား။ ၆။ ရန်သူနှင့်တူသောမယား။ ၇။ ခိုးသူနှင့်တူသောမယား။

၁။ အမိနှင့်တူသောမယားဟူသည်ကား။ အကြင်အမိသည်။ပဋိသန္ဓေနေ၍ဖွားသည်ကကို။အရွယ်ရောက်အောင်သွီးသားတို့ဝယ်။ကြမ်ပိုး။ဖြုတ်။ခြင်။ယင်ရဲတို့မခဲမကိုက်ရအောင်။လုလ္လုပြုခြင်း။သွီးသားတို့ကို ထိန်းရချိုးခြင်း၌။ သူတပါးချိုထိန်းသည်ကိုနာကြင်လေအံ့။ မဟုတ်မရာအစားကိုပေးလေအံ့။ငါကဲ့သို့ချစ်ခင်မရှိ။တနာရီဝယ်ချစ်တုံးမုန်းတုံးသူတပါးပြုလိမ့်မည်။သွီးသားတို့အလျောက်စိတ်ပေါက်၍ငိုသော်။သူတပါးထိခိုက်လိမ့်မည်။စားသောအစာဝယ်။ သူတပါးအကောင်းအမွန်ကျွေးလေသော်လည်း။ အဆိပ်ဖြစ်လိမ့်မည်ထင်၍။ကိုယ်ကိုင်၍ပေးကမ်စားသောက်စေခြင်း။ သားသွီးတို့အိပ်သည်။နေသည်ကိုရောင့်ရဲခြင်း။ဝတ်စားတန်ဆာဝယ်လိုရာရာ၌။ရှုမြင်တင့်တယ်သည်သာထင်မှတ်၍ဝမ်မြောက်ခြင်း။ အိပ်သော်လည်း မနိုးသမျှကို။ဥပတ်မဖြစ်စေရအောင်စောင့်ကြပ်နေခြင်း။နေပူမိုးဃ်းစွတ်ရှိမည်။ ဆဲပြုမည်ရှိခြင်း၌စိုးရိမ်ခြင်း။ မအိပ်မစားရသော်လည်း။ သားသွီး အိပ်ရစားရလျှင်ရောင့်ရဲပြေခြင်း။ ရယ်မော ရွှင်သောအသံကိုကြားချင်ခြင်း။ သားငယ်တို့။ဗရုသဝါစာ။ ကြမ်ကြုတ်သောစကားကိုဆိုသည်၌။ သာယာသည်ထင်ခြင်း။ထိုသို့သာယာသောအသံသည်။ဗရုသဝါစာဖြစ်ချေသည်။မဆိုမပြောပါနှင့်။အမိသားကိုနန်းရှုပ်၍သာယာစွာဆုမ္မခြင်း။ မသွားအပ်သောခရီး။သွားအပ်သောခရီး။ လာအပ်သောအခါ။ မလာအပ် သောအခါ။ နေအပ်သောအခါ။မနေအပ်သောအခါ။အိပ်အပ်သောအချိန်။ မအိပ်အပ်သောအချိန်။ စားအပ်သောအချိန်။ မစားအပ်သောအချိန်။ အရပ်ရပ်ကိုသူတပါးမကြားစေရ။မိခင်မပြတ်နို့စွဆုမ္မလော့ပြု၏။ သုအသက်ကိုသတ်ခြင်း။ သူ့ဥစ္စာကိုခိုးခြင်း။ သုအိမ်ရာကိုပြစ်မှားခြင်း။ မုသားဆိုခြင်း။ သေရည်သေရက်ကိုသောက်ခြင်း။ ဤငါးပါးသောအမှုတို့ကိုမအပ်မကျင့်ရာဟု။ အဖန်တလဲလဲဆုမ္မခြင်း။ ဘုရားတရားသဃ်ာရတနာ သုံးပါးတို့အားသာ ကိုးကွယ်ရာဖြစ်သည်။ သိလေအောင်ဆရာကောင်းထံသင်ကြားစေခြင်း။ သင်သောဆရာကထူးလွန်သည်ပြောလျှင်ဝမ်မြောက်ဝမ်သာရှိခြင်း။ထိုသားကိုရဟန်းသာမနေဖြစ်စေခြင်း ချင်းလူအလျောက်ဖြစ်လျှင်လည်းမြတ်သောအမျိုးသွီးသားတို့နှင့်သာသင့်နေစေချင်သောနှစ်လုံးရှိခြင်း။ အသက်ထက်ဆုံး မိခင်ကိုလုပ်ကျွေးစေချင်သောနှစ်လုံးရှိခြင်း။ငယ်သောအခါမိခင်ရင်ခွင်တွင်တင်ထား၍။မိခင်ကိုဆွဲခြင်း။ မိခင်မျက်နှာကိုခြေလက်ဖြင့်ထိခိုက်ခြင်း။ ရင်သားတို့ကိုလက်

*1st. Of the seven kinds of wives: 1st, a wife like a mother; 2nd, a wife like a sister; 3rd, a wife like a friend; 4th, a wife like a slave; 5th, a wife like a master; 6th, a wife like an enemy; 7th, a wife like a thief.*

1st. Amongst wives taken in any of these three ways, a wife like a mother is this: A mother, from the time her child is conceived and born, till he arrives at puberty, takes care that no bugs, gnats, musquitoes, or horse flies shall bite him. If he be in the charge of any other person, she fears they will hurt him, or give him improper food, that they do not love him as she does, that they may both love and hate him at the same time. If he cries of his own accord, she thinks some one has beaten him; if others give him the best of food, she thinks there may be poison in it, and only wishes him to eat what she herself prepares for him; is contented if he be asleep or idle, and be he dressed as he may think him handsome, she is happy. When he sleeps, she will not leave him till he awakes, lest any thing bad befall him; if he goes in the sun or the rain, she is anxious about him, and fears lest he should fall; though she herself has neither rest nor food, if her child has, she is satisfied, wishes to hear his happy voice, thinks even his abuse and bad language pleasant, but quietly kisses and gently checks him, saying, "these are bad words, do not repeat them, my son," and out of the hearing of others constantly advises him in all matters as to the way it is proper or not proper to go, the proper time for coming, the proper time for remaining, the proper time for sleeping, the proper time for eating; advises him to avoid the five sins of killing, stealing, adultery, lying, and drinking, and constantly instructs him that the images, the laws, and priests, the three gems, are the proper objects of worship; places him with a good teacher, and if he praise him, she is delighted; wishes him to be a priest; or if he remain as a (lay) man, wishes him to take a wife from an excellent family, and wishes to the end of her life to attend on him. In infancy, when she takes him to her bosom, he pulls her hair, kicks and scratches her face and breast, bites and scratches her lips, and though he relieve his natural wants on her, she is not dis-

ခြေဖြင့်လည်းကောင်း။ ခံတွင်းဖြင့်လည်းကောင်း။ ကိုက်ခြင်း။ ကြောက်ခြင်း။ ကျင်ကြီး။ ကျင်ငယ်ကိုယ်ပေါ်တွင်သွားသော်လည်း။ ထိုအနံ့ကိုမရှုံ့မစက်ဆုတ်ရွံ့ကြိုင်သည်သာထင်ခြင်း။ ဤသို့သားကိုမိခင်ချစ်သကဲ့သို့။ မယားလည်းဤလင်သည်ငါနှင့်မိဘပေးစား၍နေချေသည်။ မိဘမပေးစားဘဲသူတပါးစေ့စပ်၍ရပေသည်။ သူတပါးမစေ့မစပ်နှစ်လုံးအလိုတူ နေကြသည်လင်ဖြစ်ပေသည်ဟု။ မစားသမျှမစား။ မအိပ်သမျှမအိပ်။ ငါ၏လင်သည်ယောကျ်ားဖြစ်ပေသည်။ ယောကျ်ားတို့ကားဘုရားရှင်ဆုကိုပန်လျှင်ရသည်။ မိမ္မတို့ကား။ ယောကျ်ားဆုကိုမျှကြိုးစားရမည်အကြောင်းရှိချေသည်။ ဤငါ၏လင်သည်။ ဝတ်ခြင်းစားခြင်း၌တင့်တယ်၏။ သဘင်ပွဲမှောက်ရောက်လေသော်။ သူတကာတို့ထက် သန့်ရှင်းပါလေစေဟု။ ဝတ်စားတန်ဆာဆင်ယင်ခြင်း။ သွားသောအကြောင်းကိုသိရအောင်ပြုခြင်း။ လာသောအရပ်ကိုမျှော်လင့်ခြင်း။ အဝတ်ကမ်လှမ်ခြင်း။ အစားကိုကိုင်၍ပြုခြင်း။ သူတပါးသို့လင်သည်ရောက်ပေါက်လေသော်လည်း။ သူတပါးအခြားမသိစေရ။ ရှိုဝှက်၍လင်နားကြားရုံမျှ။ သင့်မသင့်ကို အိပ်ရာတွင်မှပြောဆိုခြင်း။ လင်၏အလိုသို့ လိုက်ခြင်းဟူသောအရာများကိုကျင့်ဆောင်ပေသောမယားသည်။ သမ္မာမိတည်၍။ အမိနှင့်တူသောမယားမည်၏။ ဤမယားကိုချစ်အပ်၏။ အမိနှင့်တူသောမယားဖြစ်သတည်း။

၂။ နှစ်မနှင့်တူသောမယားဟူသည်ကား။ နှစ်မသည်အရွယ်ရောက်၍။ ရှက်အပ်။ ကြောက်အပ် သောအရာသို့ ရောက်လျှင်။ သွားလာသောအရာ။ ကျင်ကြီးကျင်ငယ်မှစ၍။ ပြောဆိုနေထိုင်ခြင်း၌လည်းကောင်း။ ဝတ်စားတန်ဆာ၌မကျစ်မလစ်။ ခြေဖျားကသည်ခေါင်းတိုင်အောင်။ မသန့်မရှင်းသောအရာကိုမောင်အားမသိမမြင်စေရ။ ရှိုဝှက်၍ရှိသေခြင်းဟူသောအရှက်ကိုပြင်းစွာပြု၏။ ရယ်မောပြောဆိုခြင်း၌။ မောင်ကိုအရှက်ကြီး၍။ မပြောမဆို။ ချက်နှာအောက်ချ၍နေခြင်း။ အိပ်ရာဝင်မှ။ ဆိပ်ကွယ်ရာအရပ်ရောက်မှ။ ကျီးကဲ့သို့ကာမဂုဏ်၌ပေါင်းဖော်ခြင်းကိုမမြင်စေရ။ အခါအလျောက်ဖြစ်လေသကဲ့သို့လင်၏အလိုသို့လည်းရောက်အောင်။ အရှက်အကြောက်ကိုထိန်းသိမ်း၍။ မပြောမဆို။ လင်အားနှစ်လုံးချိုမြအောင်။ အမူအကျင့်နှင့်ပြည့်စုံသောမယားသည်။ နှစ်မနှင့် တူသောမယားမည်၏။

၃။ အဆွေခင်ပွန်းနှင့်တူသောမယားဟူသည်ကား။ အဆွေခင်ပွန်းကောင်းတို့သည်။ ရောက်ပေါက်ပြောဆိုနေထိုင်လာလျှင်။ ခြေဆေးရေ။ လက်ဆေးရေ။ တမူမျက်နှာသစ်ရေ။ အုံး။ အိပ်ရာ။ ဆေး။ ကွမ်း။ လက်ဖက်။ အချို။ အချည်စားကောင်းရာရာကိုဖျှင်ဆင်၍။ ချိုသောစကားဖြင့်နှုတ်ဆက်ခြင်း။ ရွှင်သောမျက်

gusted. In this way, as a woman loves her child, so a wife (who reflects) that this is the husband given her by her parents, or the husband got by the instrumentality of a go-between, or that he is the husband of her choice, and she the wife of his, and eats not unless he eats, and sleeps not unless he sleeps; that he is a man, and manhood is a gift from God, which a woman must use great endeavours before she can obtain; thinks him comely in eating or in dress, wishes to dress and ornament him that he may surpass others in the assembly, and wishes to know the reasons of his going out; expects, and looks out for him on his return; wishes to give him his clothes (to dress,) and prepare his meals for him; and though he may go after other women, lets not others know it, but concealing the fact, advises him in bed, when no one is present, (a curtain lecture.) A wife who thus consults the wishes of her husband, and acts in this way, and has good sentiments, is a wife like a mother, and such a wife ought to be loved.

2nd. A wife like a sister is thus: When a sister arrives at puberty, she becomes timid and bashful when it is becoming to be so; in her going to the jungle, in her manners and conversation, in her clothes and ornaments, she is careful and neat from the crown of her head to the sole of her foot; she conceals her person, and is reserved in her joking and conversation. She is bashful in the presence of her brother, and keeps silent, remaining with her head hanging down. In connection (with her husband,) she is as careful of concealment as a crow, and in this way, at proper times and places, to satisfy her husband's desire, she will suppress her shame and remain quiet. A wife who in this way in all things behaves so as to render her husband happy, is said to be a wife like a sister.

3rd. A wife like a friend is thus: On going to visit a good friend, he provides water to wash the hands and feet, and a gourd of water to wash the face, a pillow and a bed, tobacco, betelnut, tea, sweetmeats, and good food, and receives his friend with kind expressions and a happy face, and after having set before him food as above, holds

နှာဖြင့် ဟုချ၍ပြုခြင်း။ ဆိုခဲ့ပြီးသော အနီး အနားတို့ဖြင့်။ ထည့်ကျွေးမွေး၍ သဒ္ဓါဇာဂမေတ္တာသိန္နေဟာစကားကိုပြောခြင်း။ထွက်နုတ်ခြင်း။ဧင်အဆွေခင်ပွန်းတို့တွင်။ အမှုကြီးငယ်ရှိသည်ကိုညီညာဆောင်ရွက်ပြုခြင်းကို၊ အစည်အလေ့ရှိသောအဆွေခင်ပွန်းကောင်းကဲ့သို့။လင်ကိုမြင်လျှင်။မယားသဉ်နူတ်ချိုချွန်းသာဆီး၍ပြောဆိုခြင်း။ ခြေဆေးခြင်း။ ပွတ်ခြင်း။ အဝတ် အစားကိုကမ်းလှမ်းခြင်း။နေရာခင်းကျင်း၍အချိုအချည်သင့်သောကာလ။ မသင့်သောကာလတွင်။ ပေးကမ်ကျွေးမွေးခြင်းတည်းဟူသော အကြောင်းကိုပြုစုသောမယားသည်။အဆွေခင်ပွန်းနှင့်တူသောမယားတည်း။

၄။ ကျွန်နှင့်တူသောမယားဟူသော်ကား။ သခင်အိပ်သော်ခြေဆုတ်။ ယပ်ခတ်၍။ခြောင်းမျှမမြည်ဝန့်။ တံထွေးမျှမထွေးဝန့်။နိုးမည်စိုးရိမ်ခြင်း။နိုးလျှင်အပြစ်တင်လတံ့လော့ဟုကြောက်ရွန့်ခြင်း။မျက်သစ်တံမူအသင့်ကိုင်ရွှေပေးရာ၌မတတ်ဟု အပြစ်တင်အံ့လော့ စိုးရိမ်ခြင်း။ အဝတ်တန်ဆာတို့ကိုလဲလှယ်ရန်ကမ်ပေးရာ၌မဟုတ်ဟုအပြစ်တင်အံ့လော့။ ဆေး ကွမ်း။လက်ဖက်ပေးရာ၌မသင့်။မကောင်းဆိုအံ့လော့။ခြေဆေးခြင်း။ချိုးရေတည်ခြင်း။လိမ်ရန်ဆီပေးခြင်း။ထမင်းဟင်းအဖွယ်စားရာ၌။မကောင်းမသင့်အပြစ်တင်အံ့လော့။သခင်သွားသောအခါ။ ခြေကိုပွတ်သတ်ခြင်း။ သွားရာမျှော်လိုက်ခြင်း။ လာလျှင်အပြစ်တင်အံ့လော့။ ကြောက်ရွံ့ခြင်းနှင့်တကွ ကြိုဆိုခြင်း။ သခင်အယင်ထ၍အပြစ်တင်မဉ်ကိုကြောက်ခြင်းကြောင့်။ဆွမ်ယာဂုအဖျော်များကိုချက်ပြုတ်သန့်ရှင်းစွာပြုခြင်း။ ဧင်အမှုများကိုကြောက်ရွံ့ရိုသေခြင်းနှင့်။ ကျွန်သည်သခင်အားပြုသကဲ့သို့။ ပြုစုသောမယားသည်။ ကျွန်နှင့်တူသောမယားမည်၏။ ။ဤမယားလေးပါးတို့တွင်။ကျွန်နှင့်တူသောမယားသည်။အမြတ်အသာတည်းဟု။မနုမဉ်သောရှင်ရသေ့ဆိုတော်မူ၏။

၅။ အရှင်နှင့်တူသောမယားဟူသည်ကား။ အရှင်သခင်တို့သည်။ကျွန်ကိုခြေဆုတ်။ ရပ်ခတ်ပြုစေခြင်း၌လည်းကောင်း။ အုံးအိပ်ရာခင်းစေခြင်း၌လည်းကောင်း။ချိုးရေ။သုံးရေထည့်စေခြင်း၌လည်းကောင်း။ ခရီးဦးကြိုပြုရာ။သခင်နှင့်အတူလိုက်ရာ၌လည်းကောင်း။ စကားကိုလိုက်မေး၍ ပြောဆိုရာ၌လည်းကောင်း။မသင့်သောအရာဖြစ်သည်ဟု။သာယာစွာဆုမ္မခြင်း။အလေ့ကိုမပြု။ ငါဟူသောမာန်ကိုထောင်လွှား၍။ ဟယ်ဆိုခြင်း။ နင်ဆိုခြင်း။ ကျွန်ယုတ်ဆိုခြင်း။ သူနုတ်ဆိုခြင်း။နင့်မိဘတို့ဆင်းရဲသည်။ ကျွန်ဖြစ်သည်။ ကျွေးတင်သည် ပြင်းထံစွာဆိုခြင်း။ ဦးဆံဆွဲခြင်း။ ကိုယ်လက်တို့ကိုဆောင့်ခြင်း။ကိုင်မိရာရာနှင့်ရိုက်ခတ်ခြင်း။ခြေနှင့်ကျောက်ခြင်း။ ဆင်းရဲ၍မိမိ၌စေရသည်ဟုသုကိုအဝတ်အစား ကောင်းမွန်စွာမပေး။ မကျွေးမမွေး။ ထိုးတင်

friendly conversation with him, and on his departure makes him a present, and assists him in his undertaking, great or small. Thus a wife whose conduct and bearing is like a good friend, meets her husband when she sees him with pleasant words, washes his feet, gives him his clothes, and having put his place in order, gives him sweats and sours in proper time and place. A wife who behaves in this way is said to be like a good friend.

4th. A wife like a slave is thus: A slave, when he has shampooed his master, and fanned him to sleep, will not venture to cough or spit, for fear of awakening him. If he should awake, he is afraid he will find fault on offering water to wash his face, that he does not know how to do it, or on giving him his clothes to change, that he will say it is wrong, or on giving him tobacco, betel, or tea, that he will say it is bad, or find fault on washing his feet, putting water to bathe, giving him oil to anoint with, or setting his food before him. When the master goes out, he rubs his feet, expects him on his return, fearing that he will find fault when he comes; and fearing that he will get up first and find fault, leaves his bed, cooks the food, and makes (the house) clean. A wife who ministers in this way to a husband, as a slave does to his master, is a wife like a slave. Of these four kinds of wives, the wife like a slave is the most excellent. Thus the sage recluse called Menoo said.

5th. A wife like a master is this: A master causes his slave to shampoo and fan him, to hand him his food and clothes, to prepare his bed and pillows, to procure water for the bath, to meet him on his return home, to go with him on a journey, does not quietly tell him when he is wrong, but with pride and haughtiness addresses him, "hey, you sir! base slave! contemptible! your father and mother were poverty-stricken, debtors, slaves," and such violent expressions, strikes him with any thing that comes to hand, kicks him without reflecting that he works for him, gives him no good food or good clothes.

မာန်တင်းငါဟူသောအရေကိုပြု၍စေသောအရှင်သခင်ကဲ့သို့။အကြင်မယားသည်လင်ကိုပြောဆိုခြင်း။ဟယ်နှင်လူယုတ်။လူညစ်။ လူတန်ဆိုခြင်း။ မိဘပေါက်ဖော်သားချင်းတို့ကိုထိခိုက်၍ဆိုခြင်း။ အဝတ်အစားတို့ကိုပေးရာ၌။ မိမိကားအကောင်းဝတ်၍။ လင်ကိုအဆိုးဝတ်စေခြင်း။ မိမိကားကောင်းမွန်စွာအဦးအဖျားစား၍။လင်ကိုအကြွင်းပေးခြင်း။တခွန်းမဆိုရ။ မိမိကား အသာအလွန်အကြူးဆိုခြင်း။အိပ်ရာနေရာ၌မြင့်မြတ်ရာကိုမိမိအိပ်၍။လင်ကိုနိမ့်ရာယုတ်ရာ၌အိပ်စေခြင်း။ လင်၏အလိုသို့မလိုက်ခြင်း။ ငအလိုကိုသာလိုက်ရမည်ကျင့်သောမယားသည်။အရှင်နှင့်တူသောမယားတည်းဟုဆို၏။

၆။ ရန်သူနှင့်တူသောမယားဟူသည်ကား။ အကြင်ရန်သူတို့၏သဘောသည်။တွေ့မြင်လျှင်အတင်းအကျပ်ပြုချင်သည်။သေကြောင်း။ပျက်ကြောင်းကြံသည်။ အတင်းကြံ၍ မပျက်မစီးရှိလျှင်။ ချစ်ရောင်ပြု၍ သေဆေးပေးသည်။ ကောင်းသောအစားအသောက်အဟာန်ဆောင်၍တည်ကျွေးသည်။ငင်အမှုကိုသူသိအံ့။ အထူးအခြားသူတို့ကို တံစိုးပေး၍မတို့ ဖြင့်လည်းကောင်း။ အင်းလက်ဖွဲ့ဖြင့်လည်းကောင်းပြုစေခြင်း။ကိုယ်ကိုမထိမပြုသာလျှင်။ ကျွဲနွားမြင်းဆင်တို့ကို။ကွယ်ရာသေကြေပျက်စီးအောင်ကြံခြင်း။အိမ်ရာကျိုကျဘဏ္ဍာတို့ကိုမသိစေရအောင်မီးရှို့ခြင်း။သူတပါးအားရှို့စေခြင်း။ချစ်ခင်သောစကားကိုပြော၍သေကြောင်း။ ကြေကြောင်းကြံသောသူသည်ရန်သူမည်၏။ ထိုသို့ကြံသောသူ၏ ရှိရင်းစိတ်ကား လိုသောဝတ္ထုပစ္စည်းပြစ်ရန်သက်ရှိ။ သက်မဲ့ကိုတောင်း၍မရလျှင်။အပြိုင်ပြုကြရာ၌။ဒေါသစွမ်ခြင်းကြောင့်။သူကောင်းသည်ကိုအလိုမရှိ။မိမိအလိုသို့မရောက်မရနိုင်လေလျှင်။သေကြေပျက်စီးကြောင်းကိုကြံ၍ပြုကျင့်သောသူသည်။ရန်သူမည်၏။ အကြင်မယားသည်။ ဆိုခဲ့ပြီးသောအကြောင်းအရာများအတိုင်း။မိမိလင်ငယ်။ မျောက်မသရောက်ထားလိုရာတွင်။ဤလင်သေမှအလိုပြည့်စုံမည်။ဆေးပရောကဖြင့်သေကြောင်းကြံခြင်း။ဟယ်နှင်ဆိုခြင်း။ကျိန်ဆဲခြင်း။ လင်မိဘဘိုးဘွားဆွေမျိုးတို့ကိုထိခိုက်၍ဆိုလေ့ပြုသောမယားသည် ရန်သူနှင့်တူသောမယားဟု မှတ်ရာသတည်း။ ဤကားရန်သူနှင့်တူသောမယားတပါး။

၇။ ခိုးသူနှင့်တူသောမယားဟူသည်ကား။အကြင်ခိုးသူတို့သည်။ညည့်နေ့မဟူ။ သူတထူးတို့၏ ဥစ္စာကိုရကြောင်းမသိရ။ ကွယ်တမေ့ရ ခိုးခြင်းတပါး။ကိုယ်စေ၍ခိုးယူခြင်း။စာရင်းပြောင်းလွဲ၍ခိုးယူခြင်း။အဆိုးအကောင်းလဲလှယ်၍ခိုးယူခြင်း။ နှစ်ဆယ်ငါးပါးအဝင်ကြံ၍ဥစ္စာကိုခိုးခြင်းကား။ ခိုးသူမည်၏။ထိုကဲ့သို့လင်မသိရ။ဥစ္စာပစ္စည်းတို့ကိုကဲ့ဝှက်၍ထားခြင်း။ သူတပါးအားလင်မသိရတိတ်တိတ်ပေးခြင်းသည်။ ခိုးသူနှင့်တူသော မယားဟု

Thus a wife who, as a proud and haughty master speaks to his slave, addresses her husband, "hey, you sir! low fellow! dirty fellow!" who abuses his parents and relatives, who herself takes the best clothes, and gives her husband the bad, who at table takes the best food, and gives her husband the leavings, who permits him not to say a word, talking a great deal more than is proper herself, who in bed takes the best place, and makes her husband sleep below on the lowest, who follows not his advice, and accommodates not herself to his wishes, but obliges him to do as she pleases, is called a wife like a master.

6th. A wife like an enemy is this: The disposition of an enemy is to do violence whenever he sees (the object of his enmity,) wishes and contrives his death or destruction, and if he cannot succeed by force, pretends affection, and gives him poison under the guise of good food. If this is discovered, he bribes others by spells or charms, or a charm buried under the house, to destroy him. If he cannot get at his person, he secretly contrives to ruin him by killing his elephants, horses, buffaloes, or by setting fire to his property, his house, or by getting another to do so; whilst speaking affectionately and kindly, is contriving his death or destruction. The origin of this bad disposition is having been refused some request, which has led to a quarrel, and as the thing applied for could not be obtained, he plots the refuser's destruction; such is an enemy. Thus a wife who wishes to have a paramour, and believes that her desire can only be accomplished by the death of her husband, by medicine and charms plots his death, addressing him, "hey!" and "you sir!" imprecating evil upon him and abusing his parents and family. Such a wife is considered a wife like an enemy.

7th. A wife like a thief is this: A thief plots day and night to obtain the property of others secretly, stealing, and getting others to steal, defrauding by changing the writing or marks on goods, imposing a bad article for a good, or stealing in some of the twenty-five ways (explained in the Weenee.) Such is a thief; and a wife who

ဆိုအပ်၏။ဤကားခိုးသူနှင့်တူသောမယားတည်း။ ။ထိုမယားခုနှစ်ပါး
တို့တွင်။ရန်သူနှင့်တူသောမယား။ခိုးသူနှင့်တူသောမယားနှစ်ပါးကို။ပညာ
ရှိတရားသူကြီးတို့သည်။သိမြင်ရအောင်စီစစ်၍မှန်လျှင်။ခိုးသူအပြစ်။ရန်သူ
အပြစ်ဒဏ်ဆုံးမဖြတ်ရာ၏။

၃။ လင်မင်းမျိုး။ မယားမင်းသ္မီး။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရားတပါး။

လင်မင်းမျိုး။မယားမင်းသ္မီးသဘောတူကွာလိုကြလျှင်။ ယောကျာ်း၏
အဆောင်အရွက်မင်းတန်ဆာ။မယား၏အဆောင်အရွက်မင်းတန်ဆာ။ နှစ်
ဦးသား၏ဝတ်စားတန်ဆာကိုအသီးအသီးယူကြစေ။ ကြွင်းသောဥစ္စာသက်
ရှိ။သက်မဲ့ကိုဝေရာသည်ကား။ လင်ကိုအမှီပြု၍ဖြစ်သောဥစ္စာ။မယားကိုအ
မှီပြု၍ဖြစ်သောဥစ္စာ။ တယောက်ယောက်ကိုအမှီပြုသောဥစ္စာရပ်ဖြစ်လျှင်။
အမှီပြုရှင်နှစ်ဆ။ အမှီမရှိသောသူမှာ။တဆဝေယူကြစေ။ နှစ်ဦးသားအမှီ
ဥစ္စာရင်းအပါတူကြလျှင်။ အညီအမျှခွဲဝေယူကြစေ။ ယောကျာ်း ဝတ်စား
တန်ဆာများ၍။မိမ္ဘဝတ်စားတန်ဆာနည်းလျှင်။ နှစ်ဦးသားတို့ဝတ်စားတန်
ဆာကိုအဖိုးဖြတ်၍။ယောကျာ်းအဝတ်အဖိုးသာလျှင်။ယောကျာ်းက မိမ္ဘသို့
အမ်စေ။မိမ္ဘဝတ်ကသာလျှင်လည်း။ ဝှင်နည်းတူပြတ်၍။မိမ္ဘကအမ်စေ။သား
ယောကျာ်းကိုအဖကရစေ။သားမိမ္ဘကိုအမိကရစေ။ မကွဲမခြားလောက်၍။
အမိနှင့်သားယောကျာ်းအတူနေ၍။အမိမကုန်ခြင်းကြောင့်ရောင်းလျှင်။အဖ
သို့တဝက်ပေးစေ။သ္မီးကိုအဖရောင်းစားလည်း။အမိသို့တဝက်ပေးစေ။ အမိ
သေ၍။အဖမကုန်၍ရောင်းစားလျှင်။ထိုသ္မီးကိုအဖမရောင်းသင့် မဆိုပိုင်ချေ။
အဖသေ၍။အမိမကုန်ခြင်းကြောင့်ရောင်းလျှင်လည်း။သားကအမိကိုမရောင်း
စားသင့်မဆိုပိုင်ချေ။အဘယ်ကြောင့်နည်းဟူမူကား။မိဘတို့ပိုင်သောကြောင့်
တည်း။ထိုသို့ကားဆိုတုံ၏။အဖသည်မယားငယ်နေ၍။အမိသ္မီးကိုရောင်းအံ့။
အဖမဆိုစပိုင်။အမိလင်ငယ်နေ၍။အဖသည်သားကိုရောင်းအံ့။အမိမဆိုပိုင်
ချေ။အဖအမိတို့သည်လင်ငယ်။မယားငယ်နေပြီးမှ။သားကိုအမိ။ သ္မီးကိုအ
ဖရောင်းစားချေလျှင်။သားအဖိုးကိုအလုံးအဖသို့ပေးစေ။သ္မီးကိုယ်ဖိုးအမိသို့
အလုံးပေးစေ။ဤသို့ဆိုခြင်းကား။မိဘတို့မယားငယ်။လင်ငယ်နေရာ၌။အမှု
တပါးကြောင့်ရောင်းစားသည်ကိုဆိုခြင်းတည်း။ ။မိဘနှင့်သားဘ
ထွေးမိထွေးအတူစားနေရာ။ ကျေးကြောင့်ရောင်းလျှင်။ ဘထွေးမိထွေးတို့ခံ
တွင်းစုကိုမရောင်းသာချေ။ဆိုင်ရာအမိအဖတို့က။မိထွေးဘထွေးတို့ခံတွင်းစု
ကိုပေးစေ။ထိုဘထွေးမိထွေးတို့တွင်သားသ္မီးမရှိလျှင်။မိရင်း။ဘရင်းတို့မယူ
သာပြီ။ ဘထွေးမိထွေးအမွေကို။ မယားပါ။ လင်ပါသား တို့ခံစား ရသော

conceals goods from her husband, or gives them away to others without his knowledge, ought to be called a wife like a thief. This is what is said of a wife like a thief.

Of these seven kinds of wives, the wife like an enemy and the wife like a thief, wise men of the law, if it be proved after careful examination that they are so, have the power to give judgment as in the case of an enemy or a thief.

3rd. *The law for the partition of the property on separation, when the husband and wife are the children of nobles.*

A husband and wife, both being noble, mutually wish to separate. The husband having been allowed to take the clothes and ornaments of his rank, and the wife the clothes and ornaments of her rank, let the remainder of the property be thus divided: If there is any property that was acquired by the husband alone, or by the wife alone, let that party who separately acquired it have two shares, and the other one. Property acquired equally by both, or where both had an equal share in the capital, shall be divided equally. If the clothes and ornaments of the man are many, and those of the wife few, let both be valued, and let the man make up the difference; if those of the woman are more valuable, in the same way let her make up the difference to the man. Let the father have the male children, and the mother the females. If the sons are too young to be taken from the mother, and are left with her, and she from poverty sells them, let her give one half of their price to their father. If the females are left with the father, and he sells them, let him give one half of their price to their mother. If the mother be dead, and the father being in want shall sell all the daughters, no one shall have the right to prevent him; and if the father be dead, and the mother from want shall sell the sons, no one shall have a right to interfere. Why is this?—because the parents are the owners of their children. It is further said, if the father take a second wife, or the wife a second husband, and the father sell the sons, the mother shall have no right to interfere; or if the mother shall sell the daughters, the father shall have no right to interfere. If after the father has taken a second wife, or the mother a second husband, the mother shall sell the sons, or the father the daughters, let the whole price of the sons be given to the father, and the whole price of the daughters to the mother. This is said when the father or mother has taken a second wife or husband, and sells the children from some other cause (than want.) When the son is living with his father or mother, and a step-mother or step-father, they have no right to sell him for any portion of a debt which has been contracted by the step-mother or step-father; let the father or mother to whom it belongs pay it. If the step-father or step-mother have no children, the own father and mother of the child shall not at the death of the step-father or step-mother inherit their proper-

တရားရှိသော့ကြောင့်တည်း။ ဘာထွေးမိထွေးတို့၌သားသမီးရှိချေလျှင်။ ဆိုခဲ့ပြီးသောခံတွင်းကိုရှစ်စုစု၍တစုအထက်သားသမီးတို့ဆပ်စေ။လင်မယားကွာကြလျှင်။နှစ်ပါးစုံတင်မြီရှိလျှင်အညီဆပ်စေ။ ။လင်မယားကွာပြီးမှ။ဥစ္စာသက်ရှိ။သက်မဲ့မခြားမပြတ်လျှင်။ဥစ္စာကိုသာခွဲခြားစီရင်ရင်းအတိုင်းရစုမှန်ကဝေစေ။ဥစ္စာမပြတ်သေးဖြစ်သည်။ ကြွေးမြီမပြတ်သေးဖြစ်သဉ်ဟု။လင်မယားနေရာ။မနေသင့်မဆိုသာချေ။နေပိုင်စေ။မယားလည်းလင်နေပိုင်စေ။ လင်ကိုအမှီပြု၍ဖြစ်ထွန်းသောဥစ္စာကားသုံးပါးအပြားရှိ၏။ မယားကိုအမှီပြု၍ဖြစ်သောဥစ္စာလည်း သုံးပါးအပြားရှိ၏။ အဘယ်ကဲ့သို့နည်းဟူမူကား။ပါရင်းဥစ္စာသက်ရှိ။သက်မဲ့လည်းတပါး။ လုပ်ကြံ၍ပညာကြောင့်ဖြစ်သောဥစ္စာလည်းတပါး။အရှင်မိုးမင်းတို့ပေးသောဥစ္စာလည်းတပါး။ ဤသို့သုံးပါးအပြားရှိရာတွင်။ လင်မယားနှစ်ယောက်သင့်နေစည်ကာလ။မယားကမိဘဥစ္စာမပါ။လင်ကမိဘဥစ္စာပါခြင်းတပါး။ လင်မယားနှစ်ယောက်နေရာတွင်။လင်အတတ်ပညာကြောင့်ရသောဥစ္စာလည်းတပါး။လင်ကိုသာလျှင်အရှင်ဇကရာဇ်ချီးမြှောက်၍ရသောဥစ္စာလည်းတပါး။ ဤသုံးပါးသည်လင်ကအမှီဖြစ်သောဥစ္စာတည်းဟုသိအပ်၏။ ။လင်ကဥစ္စာမပါ။မယားကသာမိဘဥစ္စာပါခြင်း။မယားအတတ်ပညာအကြံအစည်ကြောင့်ဖြစ်ခြင်း။မယားကိုသာ အရှင်ရောဇ်မိုးမင်းတို့ကချီးမြှောက်၍ ရသောဥစ္စာ သက်ရှိ။သက်မဲ့ဖြစ်က။ မယားကအမှီဖြစ်သောဥစ္စာဟုသိအပ်၏။ တင်မြီရင်းဖြစ်ကလည်းနည်းတူဆပ်စေ။ ။ဤသို့ဆိုခြင်းကား။ ငယ်လင်။ငယ်မယားထောင်နေရာ။အမျိုးတူ။သဘောတူကွာရာဆိုခြင်းတရားတည်း။

၎င်ငယ်လင်။ငယ်မယားမှန်၍။နှစ်ဦးစိတ်တူကွာသဉ်ကိုဆိုပြီ။လင်သဉ်ကွာလို၍။မယားမကွာလို။မယားကွာလို၍။လင်မကွာလို။ နှစ်ဦးတွင်အပြစ်မရှိ။မထင်မမြင်မှန်လျှက်။ကံမစပ်၍ကွာလိုသောမယားလင်၌။ ဝေရာသောဥစ္စာရပ်ကား။အပြစ်မရှိကွာလိုသူသည်။အရှင်ဇကရာဇ်ပေးချသနားတော်မူသည်ကိုချန်ထားဦး။ကွာလိုသူ၌ရှိသည်အဝတ်အစားစုကိုလည်းထားစေဦး။ထိုမှကြွင်းသမျှသက်ရှိ။သက်မဲ့ကို။ကွာလိုသူမရသာချေ။မကွာလိုသူအလုံးရစေ။တရားဒါန်မှာလည်းကွာလိုသူကခံစေ။ဥစ္စာသက်ရှိ သက်မဲ့မရှိ။ မင်းပေးဘဏ္ဍာတန်ဆာဖြင့်။ အဝတ်တန်ဆာတိုးပွားရှိလျှင်။ ကွာလိုသူမှာဝတ်ရုံမျှသာရစေ။ ကျန်သမျှကိုမကွာလိုသူရစေ။တင်မြီရှိလျှင်လည်း။အဟောင်းအသစ်ကိုပင်။ကွာသူကဆပ်စေ။ အဝတ်တန်ဆာ။မင်းပေးဖြင့်။ ဆင်ယင်သမျှ

ty, because the children of a prior marriage are by law entitled to it. If the step-father or step-mother have children, let the above-mentioned debt be divided into eight parts, and let the children of the first marriage pay one. At the partition of the property, if there be debts incurred during the time of their cohabitation, let them be borne equally by both. After the separation of the parties, if the property, animate and inanimate, be not divided, let it only be divided according to the law laid down; the wife shall not have the power to prevent the husband taking another wife, on account of the debts and assets not being divided, nor shall the husband prevent the wife from taking another husband; let them have the right to form a new connection.

There are three kinds of property acquired by the husband, and three by the wife, as follows: Property originally in possession (before marriage,) property acquired by ingenuity, by skill, and science, and property given by the king—these are the three kinds of property. The three kinds of property acquired by the husband are: 1st, when the wife at the time of marriage had no property from her parents, and the husband had; 2nd, property acquired during their cohabitation by his skill, science; 3rd, property specially given to himself by the king. The three kinds of property acquired by the wife are: 1st, when the husband at the time of marriage had no property from his parents, and the wife had; 2nd, property acquired during their cohabitation by her skill, science; 3rd, property given specially to herself by the king. If they had any debts at marriage, let them pay them in the same manner. This is when the couple have not been before married, are of the same class, and separate by mutual consent.

Thus has been laid down the law for the separation by mutual consent of a pair never before married. When the husband wishes to separate, and the wife does not, or the wife wishes to separate, and the husband does not, when there is no fault on either side, but their destinies are not cast together, the law for the partition of the property is this: Let the party in whom there is no fault, but who wishes to separate, set aside what the king may have given (this party,) with clothes and ornaments (belonging to him or his.) But of all other property, animate or inanimate, the party wishing to separate shall have no share; let the party who does not wish to separate have the whole, and let the other party pay all the law expenses. If there be no property, animate or inanimate, but only clothes, other than those given by the king, let the party wishing to separate have only just what is necessary for wear; all other property let the party not wishing to separate have, and if there be debts, either of long standing or lately contracted, let the party wishing to separate pay them. Of all other clothes besides those given by the king, let the man (if he be the party wishing to separate) have only one suit of men's clothes, one

ယောကျ်ားဝတ်တထည်။ပုဆိုး အင်္ကျီ ခေါင်းပေါင်း။ခါးလွယ်။ငှင်ကိုယူစေ။ မိမ္မမှာလည်း။မိမ္မဝတ်ထဘီတဗက်အင်္ကျီခါးကြိုး။မိမ္မဝတ်ဖြစ်သည်။ ငှင်နှင့် လက်လိတ်။ လက်ခပ်။ ကျွမ်လွှနိး။ ယည်သွား။ နှပ်တို့ကိုမိမ္မယူစေ။ ငှင်တွင် တင်မြီ။ကောင်းဥစ္စာမရှိ။မင်းပေးဥစ္စာရှိကြဒခို့။အသီးသီးယူစေပြီးလျှင်။ကွာ လိုသူကအမျိုးအတိုင်း။ ကိုယ်ဖိုးပေးစေ။ ဤကားနှစ်ဦးအပြစ်မရှိကွာကြရာ တွင်။စီရင်ရာသောတရားအခန်းတည်း။

ငှင်အမျိုးတွင်။လင်သည်မယားငယ်နေ၍။မယားကြီးကိုညှည်းပန်းရိုက် ခပ်၍ဆဲရေးဒခို့။သတ်ပုတ်တောင်းဒခို့။ ထိုသို့သောအမှုတို့၌။တစုံတခုညှည်း ဆဲသည်ကိုစစ်၍မှန်လျှင်။သင့်နေမြဲသင့်နေစေ။ ငှင်ကဲ့သို့နောင်ကျင့်ပြန်လျှင်။ အဝတ်တထည်တည်းနှင့်ဆင်းသွားစေ။တင်မြီကိုလည်းခံစေ။ပညာရှိတရား သူကြီးတို့ဆုံးဖြတ်ရာ၏။ဆုံးဖြတ်သော်လည်း။မယားမနေလိုပြီ။ကွာပါမည် ဆိုလျှင်ကွာစေ။နှစ်ပါးစုံပိုင်သည်ဥစ္စာရပ်ကိုအညီအမျှခွဲဝေယူကြစေ။လင်မ ကွာနိုင်ပါဆိုသော်လည်း။စိတ်တူကွာဖြစ်စေဟု။ရှင်မနူဆိုတော်မူ၏။

တနည်းစာထား၌လျက်။လင်ညှည်းဆဲ၍။တရားသူကြီးတို့စစ်မေးလျှင်။ နှစ်ပါးစုံတွင်။ရှိရှိသမျှသက်ရှိ။သက်မဲ့ကိုမယားအလုံးရစေ။ လင်မှာအဝတ် တထည်နှင့်သွားစေ။တင်မြီရှိသမျှကိုလည်း။လင်ကဆပ်စေ။တင်မြီ။ကောင်း ဥစ္စာမရှိလျှင်။ကိုယ်ဖိုးကိုမယားသို့ပေးစေဟုဆိုတော်မူ၏။

မယားသည်သယောက်မျောက်မထားသည်။ ကိုယ်လင်အတပ် အမှန် မသိ။သဃ်ာသောသူနှစ်လုံး၌သည်အတိုင်း။ညီးသည်မည်သူနှင့်။ဖြစ်သည်။ မယားကိုဆို၏။ မယားကလည်း မဟုတ်ပါ။ ထိုသဃ်ာသော ယောကျ်ားကို လည်းတိုင်တန်း၏။သူသိသူထင်ဆို၏။မဟုတ်ပါကွယ်လေ၏။ထိုနောက်။ငှင် မယားကိုလင်ကွာ၍။ဥစ္စာမပြတ်မစည်းခင်အတွင်း။ ငှင်သူနှင့်မယားနေထိုင် လျှင်။မယားခိုးအပြစ်စားစေ။ မယားကိုယ်ဖိုးကိုလည်းလင်စားစေ။ ဥစ္စာအ လုံးကိုလည်းလင်ရစေ။အကြင်မယားသည်။သယောက်မျောက်မထားသည် ကောန်မှန်၏။ ဆိုမည်ခိုးသောသူ၏အပြစ်မယားကိုယ်ဖိုးကိုစား၍။ဥစ္စာကိုအ လုံးသိမ်းစေဟု။မနူမည်သောရှင်ရသေ့ဆိုတော်မူ၏။ ။ဤအရာ၌ လည်းငယ်လင်။ငယ်မယားကိုဆိုသတည်း။

လင်မယားအိမ်တောင်ကြီးချင်းဖြစ်၍။နှစ်ပါးစုံအပြစ်ကိုမဆိုနိုင်။ကွာလို လျှင်။ပါရင်းကို။ပါရင်းရှင်ယူကြစေ။တင်မြီရှိလည်းနည်းတူခံကြစေ။ နှစ်ပါး စုံတွင်ဥစ္စာသက်ရှိ။ သက်မဲ့ကိုလည်းအညီယူစေ။ နှစ်ပါးစုံတင်မြီကိုလည်း နည်းတူဆပ်စေ။နှစ်ပါးစုံလက်ထက်ပွားသည်။နှစ်ပါးအပြားရှိ၏။နှစ်ပါးဟူ

putso, one jacket, one goung-boung, one sword. If the woman be the party wishing to separate, let her have a woman's cloth, a jacket, a scarf, and a girdle; these are the articles of female dress. Besides these, let her have her cloth woven and rolled up on the loom, the loom, the shuttle, and other implements belonging to it. If they have no debts, and no other property but that given by the king, let each take what they are entitled to, and let the party wishing to separate pay the price (of his or her body) according to their class to the other. This is the law when there is no fault on either side, and when one wishes to separate.

If under the same circumstances, the husband having taken a lesser wife, shall abuse and beat his first, and it be proved that he has in any way oppressed her, let them go together again and live on good terms. If after having gone together again, the husband shall behave in the same way, let him leave the house with only one cloth, and let him pay all the debts; wise judges may decide thus. But if the wife say she does not wish to remain with him any longer, that she wishes to separate, let them do so; let the property belonging to both be equally divided between them; and though the husband declare his unwillingness to separate, let the divorce be made as if both were consenting. This Menoo said.

In another case; when there is a written engagement, and it is proved the husband has oppressed the wife, let her have the whole of the property, animate and inanimate, belonging to both, and let the husband leave the house with a single cloth, and let him bear all the debts; if there be neither debts nor property, let him pay the price of his body. Thus it is said.

If the husband has strong suspicions of his wife having a paramour, but is not quite certain, if he say to his wife, "you have an affair with such a one," and she replies that it is not so, if he also gives notice of his suspicions to the man suspected before witnesses, and he also denies the truth of the allegation; if after this the wife, having separated from her husband, shall go with the suspected man before the property is divided, let the husband have damages as if his wife had been seduced (sixty tickals of silver;) let her also pay the price of her body (twenty-five tickals,) and let him have the whole of the property. If the wife really have a paramour, and admit that she has, let the husband obtain the damages, the price of his wife's body, and take possession of all the property. Thus the sage Menoo hath said. This is said when neither husband nor wife has been before married. If both have before been married, and they can show no fault in each other, but mutually wish to separate, let each take the property brought at the time of marriage, and divide the debts between them (up to this time.) Let them divide equally whatever

သည်ကား။ လင်မယားနှစ်ယောက်သင့်နေရာတွင်မှ။တဦးဦးမိဘအမွေဥစ္စာ တင်မြီတို့ကိုရခြင်းလည်းအပွားတပါး။နှစ်ဦးသားကြံစည်လုပ်ဆောင်ရာတွင် ရခြင်း။ ကြွေးမြီတင်ခြင်းလည်းအပွားတပါးတည်း။ ထိုသို့အပွားနှစ်ပါးတို့ တွင်။လင်မိဘဥစ္စာရိုးနှင့်။မြီကိုရလျှင်။လင်ကရသောဥစ္စာရပ်သည်။အရင်း အမြီ မည်ရာလေသည်ဖြစ်သောကြောင့်။ ထိုဥစ္စာရပ်ကို။လင်နှစ်စုခံဆပ်စေ။ လင်ကမပါ။မယားကသာပါလည်းနည်းတူပေးဆပ်ယူစေ။

ဤင်အိမ်ထောင်ကြီးချင်းသင့်နေရာတွင်။လင်ကကွာလို၍။မယားကမကွာ လို။မယားကကွာလို၍။လင်ကမကွာလိုဖြစ်ကြအံ့။ပါရင်းကိုပါရင်းအတိုင်း ယူကြစေ၍။ လက်ထက်ပွား နှစ်ပါးဥစ္စာရပ်ကို။ ကွာလိုသူက မရသာချေ။ မကွာလိုသူကောင်းဥစ္စာကိုအလုံးရစေ။တင်မြီနှစ်ပါးကိုလည်း။ ကွာလိုသူက သာဆပ်စေဟုဆိုတော်မူ၏။

အရှင်ဓေရာဇ်သနားတော်မူ၍ရသည်။ နှစ်ဦးသင့်စည်။ ပါရင်းနှစ်ဦး သင့်မှ။တယောက်ယောက်ကရသည်။ မိဘအမွေရင်းကိုအရင်းအတိုင်းတည် ပြီဖြစ်၍။ဤင်မှပွားသည်ကိုလက်ထက်ပွားဟုမှတ်ရာ၏။ ဆိုခဲ့ပြီးသောစကား အတိုင်း။ခွဲဝေယူကြစေသတည်း။

၃။ လင်မင်းမျိုး။မယားမင်းသို့နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရားတပါး။
၄။ လင်မင်းမျိုး။မယားသူကြွယ်နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရားတပါး။
၅။ လင်မင်းမျိုး။မယားပုဏ္ဏားနှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရားတပါး။
၆။ လင်မင်းမျိုး။မယားသူဆင်းရဲ။ နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရားတပါး။
၇။ လင်မင်းမျိုး။ မယားကုန်သည်။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရားတပါး။
၈။ လင်ပုဏ္ဏားမျိုး။မယားမင်းသို့။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရားတပါး။
၉။ လင်ပုဏ္ဏား။မယားပုဏ္ဏားမျိုးတူ။နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရားတပါး။
၁၀။ လင်ပုဏ္ဏားမျိုး။ မယားသူကြွယ်မျိုး။ နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား တပါး။
၁၁။ လင်ပုဏ္ဏား။မယားကုန်သည်မျိုး။နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရားတပါး။
၁၂။ လင်ပုဏ္ဏား။ မယားသူဆင်းရဲမျိုး။ နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား တပါး။
၁၃။ လင်သူကြွယ်။ မယားမင်းသို့မျိုး။ နှစ်ဦးကွာကြရာတွင်။ ခွဲခြားသော တရား တပါး။
၁၄။လင်သူကြွယ်။မယားပုဏ္ဏားမျိုး။နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရားတပါး။
၁၅။ လင်သူကြွယ်။မယားသူကြွယ်မျိုးတူ။နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရား တပါး။

property they may have mutually acquired, animate or inanimate, and let them pay the debts contracted after marriage in the same proportion.

There are two kinds of property acquired during marriage, which are these; property or debts inherited by either party from their parents, and property acquired or debts incurred by them mutually and conjointly. Of these, if the husband have inherited property or debts from his parents, it is more immediately his; let him have two shares of the property, or bear two shares of the debts; if it be on the wife's side, let her in the same manner receive and pay. If under the same circumstances the husband wishes to separate, and the wife does not, or the wife wishes to separate, and the husband does not, let each take back the property they brought at marriage; but of property acquired since, which is the common property of both, the person wishing to separate shall have no share; the party not wishing to separate shall have the whole, and the person who does shall pay all debts. Thus it is said.

Property obtained by the royal bounty, property in possession at the time of marriage, property that either may have inherited from their parents after marriage, these and the profits on them shall be considered as property acquired during the time they were together, and in accordance with this let the property be divided.

4*th*. *The law for the partition of the property on separation, when the husband is noble and the wife of the rich class.*

5*th*. *Husband noble—wife bramin.*

6*th*. *Husband noble—wife poor.*

7*th*. *Husband noble—wife mercantile.*

8*th*. *Husband bramin—wife noble.*

9*th*. *Husband and wife both bramin*

10*th*. *Husband bramin—wife rich.*

11*th*. *Husband bramin—wife mercantile.*

12*th*. *Husband bramin—wife poor.*

13*th*. *Husband rich—wife noble.*

14*th*. *Husband rich—wife bramin.*

15*th*. *Husband and wife both rich.*

၁၆။ လင်သူကြွယ်မျိုး။မယားကုန်သည်မျိုး။နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရား
တပါး။

၁၇။ လင်သူကြွယ်မျိုး။ မယားသူဆင်းရဲ။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၁၈။ လင်ကုန်သည်မျိုး။မယားမင်းသွီးမျိုး။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၁၉။ လင်ကုန်သည်မျိုး။မယားပုဏ္ဏေးမမျိုး။နှစ်ဦးကွာကြရာတွင် ခွဲခြားသောတရား
တပါး။

၂၀။ လင်ကုန်သည်မျိုး။ မယားသူကြွယ်။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၂၁။ လင်ကုန်သည်။မယားကုန်သည်မျိုးတူ။နှစ်ဦးကွာကြရာတွင်။ခွဲခြားသောတရား
တပါး။

၂၂။ လင်ကုန်သည်။ မယားသူဆင်းရဲမျိုး။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၂၃။ လင်သူဆင်းရဲမျိုး။ မယားမင်းသွီး။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၂၄ လင်သူဆင်းရဲမျိုး။ မယားပုဏ္ဏေးမ။ နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၁၅။ လင်သူဆင်းရဲမျိုး။ မယားသူကြွယ်။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၁၆။ လင်သူဆင်းရဲမျိုး။ မယားကုန်သည်။နှစ်ဦးကွာကြရာတွင်။ ခွဲခြားသောတရား
တပါး။

၁၇။ လင်သူဆင်းရဲမျိုး။ မယားသူဆင်းရဲမျိုးတူ။ နှစ်ဦးကွာကြရာတွင်။ခွဲခြားသော
တရားတပါး။

၂၈။

ဆိုခဲ့ပြီးသောမယားလင်တို့တွင်။အမျိုးကွဲပြားသည်ကိုသိအောင်ဆိုခြင်း
တည်း။ ။ထိုသို့အမျိုးကွဲပြားသော်လည်း။လင်မယားဖြစ်လေပြီးသည်
ကို။ကွာကြရာ၌အထူးမစီရင်သာပြီ။အထက်မင်းသား။မင်းသွီးတို့ကွာတန်း
တရားအတိုင်းဖြစ်စေသင့်၏ဟုမှတ်ရာသတည်း။

16*th*. *Husband rich—wife mercantile.*

17*th*. *Husband rich—wife poor.*

18*th*. *Husband mercantile—wife noble.*

19*th*. *Husband mercantile—wife a bramin.*

20*th*. *Husband mercantile—wife rich.*

21*st*. *Husband and wife both mercantile.*

22*nd*. *Husband mercantile—wife poor.*

23*rd*. *Husband poor—wife noble.*

24*th*. *Husband poor—wife bramin.*

25*th*. *Husband poor—wife rich.*

26*th*. *Husband poor—wife mercantile.*

27*th*. *Husband and wife both poor.*

28*th*.

These different kinds of husbands and wives have been enumerated above that their separate classes may be known; but though the class be different, they have become man and wife, and the law makes no difference with regard to their separation. It must be noted that what has been said above regarding the separation of a man and wife, both the children of nobles, is the law for all.

၁၉။

ငှင်တို့တွင်လင်သေသော်။မယားတို့၏အလိုက်အစုအဆ။ငှင်တို့တွင်သား၊တို့၏အစုအဆတရားကို။အမွေခွဲဝေရာကအလုံးစုံပါလေပြီ။ ယခုစကားမှာ။လင်မယားကွာရာဥစ္စာရသင့်။ မရသင့်ကို။ အစောင်စောင်၌အကွဲအပြားပါလေသည်ကို။တစုတည်းထားသောလင်မယားကွာအခန်းတည်း။

၂၀။

လင်သည်မင်းမျိုး။ မယားပုဏ္ဏားမျိုး။ သူကြွယ်မျိုး။ ကုန်သည်မျိုး။သူဆင်းရဲမျိုးတည်း။ နှမ်နယ်ညန့်ညိမ့်သောအမျိုး။ ကွာကြသည်တွင်။ဥစ္စာရပ်ဝေရာ။မဝေရာ။ရရာ။မရရာတရားကိုဆိုပေအံ့။ ။လင်မင်းမျိုး။မယားပုဏ္ဏားမျိုး။သူကြွယ်မျိုး။ကုန်သည်မျိုး။သူဆင်းရဲမျိုးဖြစ်သူတို့သည်။ ကိုယ်အိမ်တွင်ကြေးဝယ်ကျွန်ပိုင်တစ်။ကြေးပေါင်သေတစ်။ကြေးဝယ်ကိုယ်ဖိုးတန်ပေါင်ရှင်တစ်။အဝတ်ဖိုးနှင့်နေရသောပေါင်ရှင်တစ်။ မြို့ရှိ၍သွင်းထားနေရသောအသွင်းတစ်။သူတင်မြီကိုဆပ်၍နေရသောသူတစ်။ ဤခြောက်ယောက်သောမိမ္မတို့တွင်။တယောက်ယောက်သောသူကိုလက်ဆိုစား၍မယားပြု၏။ထိုမယားကိုလင်သည် မကြိုက်မနှစ်သက်ကွာလိုသည်ဆိုမည်။ မယားကမကွာနိုင်ဆိုမည်။လင်ကွာလိုချေသည်။မယားမကွာလို။စစ်၍မှန်ချေလျှင်။သားကိုအဖ။သမီးကိုအမိပိုင်ကြစေ။ထိုမယားတွင်။အထက်အဖိုးပေးသည်မှန်သမျှအသွင်းဥစ္စာမြီဆပ်မှန်သမျှကို။လင်အားမယားကစုစေ။ချင့်ကိုမယားမဖြစ်မှီပေးသောဥစ္စာသည်။ပါရင်းမြီဖြစ်ချေသောကြောင့်တည်း။

၂၁။

လင်မယားဖြစ်ပြီးမှ။ပွားသောဥစ္စာသက်ရှိ။သက်မဲ့ကိုမူကား။မကွာလိုသူမယားကအလုံးရစေ။ နှစ်ပါးစုံတွင်တင်မြီကိုလည်း။ လင်ကဆပ်စေ။အဘယ်ကြောင့်နည်းဟူမူကား။ ကျွန်ဟူသည်ကြေးဝယ်ကိုဆိုသည်။အသက်ကိုမပိုင်။အရှင်ကေရာဇ်မင်းမြတ်သာလျှင်။အသက်ဥစ္စာစည်းစိမ်ကိုပိုင်ချေသောကြောင့်တည်း။ ။တနည်းလည်း။ကျွန်မှန်းသိလျက်။သဘောတူ။ခြေလက်တင်၍။လင်မယားအရာမြောက်ချေသောကြောင့်တည်း။

၂၂။

မိလာဖလာအစုအငန်းမရှိ။အစည်သန္တကဖြစ်၍မပိုင်သာ။မလွှတ်သာ။ကျွန်မကိုဆိုခဲ့ပြီးသောအမျိုးသားတို့။ လက်ဆိုစားမယားပြုအံ့။ ထိုမယားကိုလင်ကကွာမည်။မယားကမကွာဆိုမည်။ကွာပိုင်စေ။မယားကိုယ်ဖိုးမှာ။တောင်း၍ယူလျှင်ရပိုင်စေ။ထိုမယားကကွာမည်မှန်သော်။ကျွန်အရာမကင်း

29*th.*

The law forthe partition of the property between the wife, or wives and children, on the death of the husband in any of these cases, is all contained in the chapters on inheritance. What is now decided is, whether the property shall be divided or not on the separation of a husband and wife. In different law books it is laid down in different ways; here it is all in one, in the chapter on separation of man and wife.

30*th.*

I will now lay down the law whether on the separation of a hus, band of the noble from the wife of the bramin, wealthy, mercantile-poor, or inferior classes, there shall be a partition of property, i. e., whether the wife shall have any or not. When the husband is noble and the wife of the bramin, wealthy, mercantile, or poor class, and may have been a slave of any one of the six following descriptions—a slave purchased outright, a slave pledged and forfeited on failure of payment, a slave pledged for her proper value and still redeemable, a slave pledged for half her price, a slave living in the house as security for the debt of another person, a slave serving in the house, her own debts having been paid for her. If any man take a woman in any of these six conditions to wife, and eat out of the same dish with her, but afterwards disliking her shall sue for a separation, if it be proved on enquiry, that the husband wishes to separate, but the wife does not, let the father have the sons and the wife the daughters; let the wife return to the husband the money originally paid for her, the presents made her, and the amount expended in paying her debts, because they were grown to her before marriage; they are her original debt.

31*st.*

Let the wife, the party not wishing to separate, take the whole of the property, animate and inanimate, acquired after they became man and wife, and let the husband pay the debts mutually contracted during the same time. Why is this?—because a slave is bought for money, but the master has no power over life and death; the most excellent king only has power over life, property, and fortune. Also for another reason; because he voluntarily raised her to the rank of wife, with the full knowledge of hei being a slave.

32*nd.**

If a slave, not belonging to any class of royal hereditary servants, but an hereditary slave whose right of redemption is extinct, be made a wife, and eat from the same dish, and if the husband shall wish to separate, and the wife shall not consent, let him have the right to separate, and if she sue him for her price, let her have it. If the wife

* Chapters 28 to 32 inclusive do not correspond with the index.

ရှိမည်ကိုကြောက်၍ပေးရွေးအံ့။ ထိုလင်ခံလျှင်။လွတ်စေ၏။ လင်တယောက်
နေလည်းနေပိုင်စေ။ ၎င်းသားကိုကျွန်မဆိုသာချေ။ သခင်နှင့်မွေးသောသား
သမီးတို့ကိုသခင်လင်ရှိစည်။ကျွန်မယားဖြစ်ဘူးသူသည်။သားသမီးကိုမရောင်း
မစားသာချေ။ထိုသခင်လင်သေ၍။အသုံးမလောက်မကုန်မလုံလျှင်။သားသမီး
ကိုအမိဖြစ်သူရောင်းသော်။ရောင်းပိုင်စေ။သခင်ဖြစ်သောလင်တွင်။သားသမီး
အမွေခံဖရှိ၍သေလျှင်။ ထိုကျွန်မတွင်မွေးသောသခင်သားအလုံးစားစေ။ အ
ဘယ်ကြောင့်နည်းဟူမူကား။သားရင်းဖြစ်သောကြောင့်တည်း။

### ၃၃။ သုံးရကိုမယားပြု၍ကွာသော်တရားတပါး။

သုံးရကိုမယားပြု၍ကွာသောတရားဟူသည်ကား။လင်သည်မယားကြီး
ရှိလျက်။စစ်မြေအရပ်ကာဝင်ရောက်သည်ကိုသိမ်းယူခဲ့၍မယားကြီးထံရောက်
၏။သုံးရမယား၌အပြစ်မထင်။လင်ကွာလိုက။စစ်မြေအရပ်ကရသည့်သက်
ရှိ။သက်မဲ့ကို။တဝက်မယားကြီးပိုင်စေ။တဝက်မှာလင်ပိုင်သည်။လင်ပိုင်စု
ကိုထက်ဝက်ပြု၍။တဝက်ကိုသုံးရမယားရစေ။ ၎င်းရသည့်မယားအစုတွင်။
ထိုသုံးရကိုယ်ဖိုးကိုလင်အားပေးစေ။သားယောကျ်ားမွေးလျှင်လွတ်စေ၊သမီး
မွေးလျှင်။သုံးရကိုယ်ဖိုးတဝက်ကိုလင်အားစားစေ။စစ်မြေအရပ်ကတင်မြီပါ
လျှင်။ထိုသုံးရမယားဆပ်စုတို့ကိုလင်ကဆပ်စေ။ အဘယ်ကြောင့်နည်းဟူမူ
ကား။ လက်ဆိုစားမယားကညာဖြစ်ချေသောကြောင့်တည်း။ သုံးရမယား
ကကွာလိုလျှင်။ ကောင်းဥစ္စာသုံးရမယားကဆိုင်သမျှကိုလည်း။ လင်ရစေ။
ကိုယ်ဖိုးကိုလည်းပေးစေ။တင်မြီမှာလည်း။နှစ်စုပြု၍တစုကိုမယားကြီးဆပ်
စေ။ တစုကျန်မှာလင်အစုဖြစ်သည်။ကွာလိုသူသုံးရကဆပ်စေ။ သုံးရမယား
ကိုမကွာ။မယားကြီးကိုလင်ကွာချေက။ လင်ရစုအလုံးနှင့်။မယားကြီးရစုကို
မယားကြီးယူစေ။သုံးရမယားဥစ္စာကို။မယားကြီးမယူသာချေ။ မယားကြီး
ဆပ်စုတင်မြီကိုလင်ကသိမ်းယူစေ။မယားကြီးကွာလိုချေက။၎င်းနည်းတူလင်
ကမယားကြီးအစုကိုအလုံးယူစေ။ တင်မြီရှိလည်းဆပ်စေ။ မယားကြီးနှင့်။
လင်စိတ်တူကွာဖြစ်ကလည်း။၎င်းနှစ်ယောက်ရစုတွင်အမျှယူကြစေ။ အမြီရှိ
လျှင်။အမြီရှင်နှစ်ဆ။တင်မြီမှာလည်းနည်းတူဖြစ်စေ။ ။သုံးရမယား
နှင့်လင်စိတ်တူကွာဖြစ်လျှင်။၎င်းနှစ်ယောက်တွင်ပိုင်ထိုက်သောဥစ္စာကို လင်
နှစ်စု။သုံးရမယားတစုယူစေ။တင်မြီရှိလျှင်လည်းနည်းတူဆပ်စေ။ ဤကား
မယားကြီးတစ်။သုံးရတစ်။ကွာသောအရာ၌ဝေရာသောအခန်းတည်း။

